

# ရှင်ကျော် ၁၀၀

(ဒုတိယတွဲ)

## မောင်ဧယျာ

# ရှင်ကျော် ၁၀၀

(ဒုတိယတွဲ)



**ပဉ္စဂံစာအုပ်တိုက်**

အမှတ် ၁၆၇ (A)၊ ၃၅လမ်း (လယ်)၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း - ၀၁ ၃၇၇၀၆၁

pyinsagam@gmail.com

# ရှင်ကျော် ၁၀၀

(ဒုတိယတွဲ)

**မောင်ရေချော**



**ပဉ္စဂံစာအုပ်တိုက်**

အမှတ် ၁၆၇ (A)၊ ၃၅လမ်း (လယ်)၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း - ၀၁ ၃၇၇၀၆၁

pyinsagam@gmail.com





ပထမအကြိမ်ပုံနှိပ်ခြင်း
၂၀၁၅ - ခုနှစ်၊ ဒီဇင်ဘာလ၊ အုပ်ရေ - ၅၀၀



မျက်နှာဖုံးဒီဇိုင်း
ပန်းချီတင်ထွဏ်း



တစ်နှင့် အပြင်အဆင်
လှမော်



မျက်နှာဖုံးနှင့် အတွင်းပုံနှိပ်သူ
ဦးဇော်မြင့်ဝင်း (ကာလာဇုံပုံနှိပ်တိုက်-၀၀၁၄၂)
အမှတ် ၁၈၄၊ ၃၁-လမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့



ထုတ်ဝေသူ
ဦးဆန်းအောင်သူ (ပဒ္မာစာအုပ်တိုက်-၀၀၀၆၇)
၁၆၇၊ ၃၅လမ်း(လယ်)၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့

တန်ဖိုး - ၃၅၀၀ ကျပ်

စာအုပ်ကက်တလောက်အချက်အလက်များ - CIP

ဇေယျာ အောင် ၉၂၀.၀၄
ကမ္ဘာကျော် ၁၀၀ ဖတ်သင့်/ဖော်ပြချက်များ ပဒ္မာ
ရန်ကုန်၊ ပဒ္မာစာအုပ်တိုက်၊ ၂၀၁၅
၃၂၄ စာ၊ အရွယ် ၁၃ x ၂၀ စင်တီ
၁။ အတ္ထုပ္ပတ္တိ — ထင်ရှား
(၁) ကမ္ဘာကျော် ၁၀၀ ဖတ်သင့်

## မာတိကာ


| | | |
|---|---|---|
| | အမှာ | ၉ |
| ၁။ | ကျီးသဲလေးထပ်ဆရာတော် ရှင်မုနိန္ဒာဘိဓဇ (၁၈၁၇ — ၁၈၉၄) | ၁၁ |
| ၂။ | တောရဂိုဏ်းတည် ရှင်သီလသာရ (၁၈၃၂ — ၁၉၀၇) | ၁၇ |
| ၃။ | မာန်လည်ဆရာတော် ရှင်ဇဝန (၁၈၄၂ — ၁၉၂၀) | ၂၃ |
| ၄။ | လယ်တီဆရာတော် ရှင်ဉာဏ (၁၈၄၆ — ၁၉၂၃) | ၂၉ |
| ၅။ | နော်မံကျောင်းကြီးဆရာတော် ရှင်ပညာ (၁၈၄၆ — ၁၉၃၄) | ၃၇ |
| ၆။ | မိုးနံကုန်းဆရာတော် ရှင်ဇယန္တ (၁၈၄၇ — ၁၉၁၃) | ၄၃ |
| ၇။ | ကြောင်ပန်းဆရာတော် ရှင်ကြန္တက (၁၈၆၀ — ၁၉၂၇) | ၄၉ |
| ၈။ | ညောင်ချောင်းဆရာတော် ရှင်ဉာဏဝံသ (၁၈၆၆ — ၁၉၄၁) | ၅၅ |
| ၉။ | မင်းကွန်းဇေတဝန်ဆရာတော် ရှင်နာရဒ (၁၈၆၉ — ၁၉၅၅) | ၅၉ |

၁၀။ မိုးညှင်းဆရာတော် ရှင်သုမန ၆၅
(၁၈၇၃ — ၁၉၆၄)
၁၁။ စံကျောင်းဆရာတော် ရှင်ဝါယာမ ၇၁
(၁၈၇၄ — ၁၉၄၇)
၁၂။ ဇေယျဝတီဆရာတော် ရှင်သီလ ၇၇
(၁၈၇၄ — ၁၉၅၇)
၁၃။ တောင်ပေါက်ဆရာတော် ရှင်စက္ကပါလ ၈၃
(၁၈၇၇ — ၁၉၅၃)
၁၄။ မဟာဝိဇယာရာမဆရာတော် ရှင်ဇဝန ၈၉
(၁၈၇၇ — ၁၉၅၉)
၁၅။ စွန်းလွန်းဆရာတော် ရှင်ကဝိ ၉၃
(၁၈၇၈ — ၁၉၅၂)
၁၆။ မဟာဝိသုတာရာမဆရာတော် ရှင်သုန္ဒရ ၁၀၁
(၁၈၇၉ — ၁၉၇၂)
၁၇။ ဆရာတော် ရှင်အာဒိစ္စဝံသ ၁၀၅
(၁၈၈၂ — ၁၉၅၁)
၁၈။ ဝေဠုဝန်ဆရာတော် ရှင်ခေမာစာရ ၁၁၃
(၁၈၈၂ — ၁၉၆၆)
၁၉။ ဘုရားဖြူဆရာတော် ရှင်ရာဇိန္ဒ ၁၁၇
(၁၈၈၄ — ၁၉၄၀)
၂၀။ မုဋ္ဌန်းဆရာတော် ရှင်ကောသလ္လ ၁၂၀
(၁၈၈၆ — ၁၉၈၉)
၂၁။ ညောင်လေးပင်တောရဆရာတော် ရှင်အရိယ ၁၂၇
(၁၈၈၇ — ၁၉၅၂)
၂၂။ မြောက်ထပ်ကြီးဘုရားကြီးဆရာတော် ရှင်ကောဏ္ဍည ၁၃၃
(၁၈၈၇ — ၁၉၅၇)
၂၃။ ဘုရားကြီးတိုက် ဇောတိကာရုံဆရာတော် ရှင်နာရဒ ၁၃၉
(၁၈၈၈ — ၁၉၆၅)

၂၄။ မြောင်းမြဆရာတော် ရှင်ဉာနာဘိဝံသ ၁၄၅
(၁၈၈၈ — ၁၉၇၅)
၂၅။ ဘုရားကြီးတိုက် ရွှေဘုန်းရှိန်ဆရာတော် ရှင်ဥက္ကံသ ၁၅၁
(၁၈၈၉ — ၁၉၇၅)
၂၆။ ရွှေဥဒေါင်းတောင်ဆရာတော် ရှင်ကုမာရ ၁၅၇
(၁၈၉၂ — ၁၉၈၅)
၂၇။ ရွှေဟင်္သာတိုက်သစ်ဆရာတော် ရှင်ပဏ္ဍိတသီရိ ၁၆၁
(၁၈၉၃ — ၁၉၉၅)
၂၈။ ဝေဘူဆရာတော် ရှင်ကုမာရ ၁၆၇
(၁၈၉၆ — ၁၉၇၇)
၂၉။ ကမ္ဘာ့ဗုဒ္ဓသာသနာပြုဆရာတော် ရှင်သေဋ္ဌိလ ၁၇၃
(၁၈၉၆ — ၁၉၉၇)
၃၀။ နတ်မှီတောရဆရာတော် ရှင်ဥက္ကဋ္ဌ ၁၈၁
(၁၈၉၇ — ၁၉၇၈)
၃၁။ မူလပဌာန်းဆရာတော် ရှင်နာရဒ ၁၈၉
(၁၈၉၇ — ၁၉၈၃)
၃၂။ တောင်ပုလုဆရာတော် ရှင်နန္ဒိယ ၁၉၅
(၁၈၉၇ — ၁၉၈၆)
၃၃။ ပဲခူးမြို့မဆရာတော် ရှင်ဣန္ဒာစာရ ၂၀၁
(၁၈၉၇ — ၁၉၉၃)
၃၄။ မိုးကုတ်ဆရာတော် ရှင်ဝိမလ ၂၀၇
(၁၈၉၉ — ၁၉၆၂)
၃၅။ မဟာဂန္ဓာရုံဆရာတော် ရှင်ဇနကာဘိဝံသ ၂၁၃
(၁၉၀၀ — ၁၉၇၇)
၃၆။ စလင်းကန်လယ်ဆရာတော် ရှင်ဝဇီရာဝုဓ ၂၂၁
(၁၉၀၁ — ၁၉၈၉)
၃၇။ မဟာစည်ဆရာတော် ရှင်သောဘန ၂၂၇
(၁၉၀၄ — ၁၉၈၂)

၃၈။ ညောင်တုန်း ရွှေဟင်္သာတောရဆရာတော် ရှင်ဝိမလ ၂၃၅
(၁၉၀၅ — ၁၉၈၈)
၃၉။ အင်းလေး သာလေးတောင်ကျောင်းဆရာတော် ရှင်နေမိန္ဒ ၂၄၁
(၁၉၀၆ — ၁၉၆၅)
၄၀။ ပထမကျော် လယ်တီရှင်ကောဝိဒ ၂၄၇
(၁၉၀၇ — ၁၉၄၅)
၄၁။ သပြေကန်ဆရာတော် ရှင်ဝါသေဋ္ဌ ၂၅၃
(၁၉၁၀ — ၁၉၉၅)
၄၂။ မင်းကွန်းတိပိဋကဆရာတော် ရှင်ဝိစိတ္တသာရ ၂၅၉
(၁၉၁၁ — ၁၉၉၃)
၄၃။ တောင်တန်းသာသနာပြုဆရာတော် ရှင်ဥတ္တမသာရ ၂၆၇
(၁၉၁၁ — ၁၉၉၅)
၄၄။ သဲအင်းဂူဆရာတော် ရှင်ဥက္ကဋ္ဌ ၂၇၃
(၁၉၁၃ — ၁၉၇၃)
၄၅။ ကမ္ဘောဇသာသနာပြုဆရာတော် ရှင်ကေလာသ ၂၇၉
(၁၉၁၃ — ၁၉၈၉)
၄၆။ မြောင်းမြ ပဠောတာရုံဆရာတော် ရှင်ဉာဏိက ၂၈၅
(၁၉၁၈ — ၁၉၉၇)
၄၇။ မြည်တိပိဋကဆရာတော် ရှင်ကောသလ္လ ၂၉၁
(၁၉၂၇ — ၁၉၉၅)
၄၈။ အဘယာရာမဆရာတော် ရှင်သီလာနန္ဒ ၂၉၇
(၁၉၂၇ — ၂၀၀၅)
၄၉။ ပခုက္ကူ တိပိဋကဆရာတော် ရှင်နေမိန္ဒ ၃၀၃
(၁၉၂၈ — ၁၉၉၁)
၅၀။ မဟာဂန္ဓာရုံ တိပိဋကဆရာတော် ရှင်သုမင်္ဂလ ၃၀၉
(၁၉၄၆ — ၂၀၀၆)

ကျမ်းကိုး ၃၁၅
ဘွဲ့အမည်အညွှန်း ၃၂၂

# အမှာ

ရှင်ကျော် ၁၀၀ ကို မူလရေးစဉ်ကပင် အသင့်သုံးရည်ညွှန်း Ready Reference အဖြစ် အသုံးပြုနိုင်ရန် ရည်ရွယ်၍ အတ္ထုပ္ပတ္တိအဘိဓာန် Biographical Dictionary ပုံစံ ချမှတ်ပြုစုခဲ့ပါသည်။ ထို့အတွက် အဘိဓာန်ပုံစံ Format ကျနမှု၊ အချက်အလက် ပြည့်စုံခိုင်မာမှု၊ အရေးအသား ပြေပြစ်ရှင်းလင်းမှုတို့နှင့် ပြည့်စုံရန် တတ်စွမ်းသရွေ့ ကြိုးပမ်းအားထုတ်ခဲ့ပါ၏။

ရှင်ကျော် ၁၀၀ ရွေးချယ်ရာတွင် နှစ်ဆယ်ရာ မြန်မာသာသနာဝင်၌ ပရိယတ် ပဋိပတ် ဩဇာကြီးမားထင်ရှားခြင်း သို့မဟုတ် မထင်ရှားသော်လည်း မှတ်တမ်းတင်ထိုက်သည်ဟု ယူဆနိုင်သည့် ရဟန်းတော် ၁၀၀ ကို ဦးစားပေး ရွေးချယ်ပါသည်။ ထို့ပြင် သံဃာ့ဂိုဏ်း နိကာယ အားလုံးမှ တတ်နိုင်သမျှ ပါဝင်နိုင်စေရန် ကြိုးစားအားထုတ်ပါသည်။ သို့သော် အထောက်အထား လက်လှမ်းမမီသည့်အတွက် ကျန်ရစ်နိုင်ပါ၏။ စာဖတ်သူများအနေဖြင့် အထောက်အထား ညွှန်ပြ၍ တည့်မတ်ပေးစေလိုပါသည်။ စာအုပ်ကို ဖွား - လွန် သက္ကရာဇ်စဉ်ဖြင့် ပြုစုထားရာ အလွယ်တကူ ရှာဖွေနိုင်ရန် စာအုပ်နောက်ဆုံးတွင် ထင်ရှားလူသိများသော ဘွဲ့အမည် အက္ခရာစဉ်အညွှန်း ထည့်သွင်းထားပါသည်။

ရှင်ကျော် ၁၀၀ ပြုစုရာတွင် အဖက်ဖက်မှ အားပေးကူညီခဲ့သည့် စာပေမိတ်ဆွေများ၊ လစဉ်ဖော်ပြပေးခဲ့သည့် မဂ္ဂဇင်း အယ်ဒီတာများ၊ လုံးချင်း ထုတ်ဝေပေးသည့် ပဉ္စင်္ဂစာအုပ်တိုက်၊ အထူးသဖြင့် နှစ်ရှည်လများ စောင့်ဆိုင်းအားပေးခဲ့သည့် စာဖတ်သူများ၏ ကျေးဇူးကို အထူး အမှတ်တရစကား ဆိုပါ၏။

မောင်ဇေယျာ



## ကျီးသဲလေးထပ်ဆရာတော်

**ရှင်မုနိန္ဒာဘိဓဇ**

(၁၈၁၇ — ၁၈၉၄)

မြန်မာနိုင်ငံ ဗုဒ္ဓစာပေများအနက် အထင်ရှားဆုံး၊ လူသိအများဆုံး "ဇိနတ္ထပကာသနီ" ကျမ်းပြုဆရာတော်အဖြစ် ကျော်ဇောသည်။ ပုဂံမင်းလက်ထက် ရွှေတောင် ပန်းတောင်း ဟံသာဝတီ သုံးမြို့ဝန်မင်းကြီး မဟာမင်းကျော်နော်ရထာဘွဲ့ခံ ဝန်ကြီးဦးမှံ ဆောက်လုပ်လှူဒါန်းသော ရွှေတောင်မြို့ ကျီးသဲရွာ လေးထပ်ကျောင်းတွင် သီတင်းသုံး စာပေပို့ချ၍ ကျီးသဲလေးထပ် ဆရာတော်ဟု အမည်တွင်သည်။ ပရိယတ္တိစာပေပို့ချရုံမျှမက ပညာရှင်များ လေးစား အားထားရသော "စွယ်စုံကျော်ထင်" အဖြေကျမ်း၊ "နိဗ္ဗာန်လမ်းပြ ကျမ်း"၊ "မဟာဝင်ကျမ်း" စသော ကျမ်းပေါင်း ၄၀ ကျော် ပြုစုခဲ့ရာ မင်းတုန်းမင်းနှင့် သီပေါမင်းလက်ထက် ဗြိတိသျှဘားမားခေါ် အောက်မြန်မာနိုင်ငံက အထင်ရှားဆုံး ဂန္ထန္တရကျမ်းပြုဆရာတော်အဖြစ် သတ်မှတ်ခံရသည်။ အထူးအားဖြင့် ဒွါရဂိုဏ်းတည် အုတ်ဖိုဆရာတော် ရှင်ဥက္ကံဝံသမာလာ၏ ဒွါရနှင့် အပြိုင် 'ကာယကံ ဝစီကံ မနောကံ' ဟု ကံသုံးပါးဖြင့် ရှိခိုးသော ကမ္မဂိုဏ်း ဦးဆောင်သူအဖြစ် သပြေပင်ဆရာတော် ရှင်သိရီသောဘဏ ၏ "မဟာဒွါရနိကာယ သာသနဝံသဒီပနီ" တွင် မှတ်တမ်းတင်ခံရသည်။ ထို့ပြင် လင်္ဂီ အလင်္ဂီ အဆုံးအဖြတ်တွင်လည်း ဒွါရဂိုဏ်းတည် အုတ်ဖိုဆရာတော်နှင့် သဘောကွဲလွဲရာ "နိဗ္ဗာန်လမ်းပြကျမ်း"ရေးသားခဲ့သည်။ ငြိမ်းချမ်းရေးဖခင် ဆရာကြီး သခင်ကိုယ်တော်မှိုင်း၏ ငယ်ဆရာအဖြစ်လည်း ထင်ရှားပါသည်။

မုနိန္ဒာဘိဝံသ၊ ရှင်၊ ကျီးသဲလေးထပ်ဆရာတော် —

၁၈၁၇ ခုနှစ် အောက်တိုဘာလ ၂ ရက် ကြာသပတေးနေ့တွင် ဖွားသည်။ ပြည်ခရိုင် ရွှေတောင်မြို့ ကျီးသဲရွာ ရှမ်းတန်းလေးရပ် ဇာတိ ဖြစ်သည်။ မိဘများမှာ ခုံတော် (တရားသူကြီး) ဦးအောင်မင်း၊ ဒေါ်ဂျမ်းဘုံ ဖြစ်သည်။ ငယ်မည်မှာ မောင်ကင်း တွင်သည်။

၉ နှစ်ရွယ်တွင် ကျီးသဲအရှေ့ဘက် ရွာသာရွာ သစ်နီတောကျောင်း တိုက် ရှင်ပညာသာမိထံ စတင် ပညာသင်သည်။ သဒ္ဒါကြီး ၈ စောင်၊ အဘိဓမ္မတ္ထသင်္ဂြိုဟ်အထိ ပေါက်ရောက်ခဲ့သည်။ ၁၄ နှစ်အရွယ် ၁၈၃၁ ခုနှစ် ဇွန်လ ၂၅ ရက် စနေနေ့တွင် သာမဏေဖြစ်သည်။ သာမဏေဘွဲ့ ရှင်မုနိန္ဒ ဖြစ်သည်။ ဥပဇ္ဈာယ် ငယ်ဆရာ ရှင်ပညာသာမိ ဖြစ်သည်။ သာမဏေ ၂ ဝါရတွင် ဥပဇ္ဈာယ်ဆရာတော်၏ တိုက်တွန်းအားပေးမှုဖြင့် 'မဟာသာရပို့'ကို ဖွဲ့သည်။ (မဟာသရပို့ကို ဒုတိယကမ္ဘာစစ် မဖြစ်မီက ရှင်ဉာဏိဿရ (နောင် ဆန်းထွန်း၊ မန်းတက္ကသိုလ်) တည်းဖြတ်၍ ဒဂုန် မဂ္ဂဇင်းတွင် ဖော်ပြခဲ့သည်။) သာမဏေ ၃ ဝါရတွင် ရွှေတောင်မြို့ မင်းတဲရပ် ပထမကျော် ရှင်လက်ာဒီပထံ ပြောင်းရွှေ့ ပညာသင်သည်။ ဋီကာကျော်၊ အဘိဓမ္မာကျမ်းများကို နေ့ဝါ ညဝါအဖြစ် သင်ယူသည်။

အသက် ၂၀ အရွယ် ၁၈၃၇ ခုနှစ် ဖေဖော်ဝါရီလ ၁၉ ရက် အင်္ဂါ နေ့တွင် ရွှေတောင်မြို့ ဂိုဏ်းအုပ်ရှင်ကုမာရကို ဥပဇ္ဈာယ်ဆရာ၊ ရွှေတောင် မြို့ မင်းတဲ ပထမကျော် ရှင်လက်ာဒီပကို ကမ္မဝါစာဆရာပြု၍ ရဟန်း ဖြစ်သည်။ ရဟန်းဘွဲ့ ရှင်မုနိန္ဒာဘိဝံသ ဖြစ်သည်။ ဥပဇ္ဈာယ်ဆရာ ရှင်ကုမာရမှာ ရာဇဂုရုဘွဲ့တံဆိပ် ၂ တန်ရ အမရပူရ ရွှေတောင်ဆရာတော် ရှင်ဂုဏာစာရ၏ တပည့်ဖြစ်သည်။ ရဟန်းဒါယကာမှာ ပုဂံမင်းလက်ထက် ရွှေတောင်၊ ပန်းတောင်း၊ ဟံသာဝတီ သုံးမြို့ဝန် မင်းကြီး မဟာမင်းကျော် နော်ရထာဘွဲ့ခံ ဝန်ကြီးဦးမှုံ ဖြစ်သည်။ ရဟန်းဖြစ်ပြီး ဒွေမာတိကာ၊ ပါတိ မောက်ပါဠိတော်၊ ကင်္ခါဝိတရဏီ အဋ္ဌကထာပါဌ်၊ ခုဒ္ဒကသိက္ခာပါဌ် တို့ကို အာဂုံဆောင်ကာ ပါရာဇိကဏ်ပါဠိတော် အဋ္ဌကထာ၊ သမန္တပါသာဒိက တို့ကို သင်ယူခဲ့သည်။

ရဟန်း ၂ ဝါရ ၁၈၃၉ ခုနှစ်တွင် အမရပူရနေပြည်တော် သာသနာပိုင် ဒုတိယမောင်းထောင်ဆရာတော် ရှင်ဥေယျမမ္မ (၁၇၉၉-၁၈၆၅) ထံ

ပြောင်းရွှေ့ ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။ သာသနာပိုင်ဆရာတော်အပြင် ရာဇဂုရု ဘွဲ့တံဆိပ်ရ မိတ္ထီလာဆရာတော် ရှင်ဥတ္တမ၊ ခင်မကန်ဆရာတော် ဦးပြားခေါ် ရှင်မဏိဇောတထံမှ အဘိဓာန်စာကိုယ်၊ အဘိဓာန်ဋီကာ၊ နျာသရှစ်စောင်၊ သံပျင်ဋီကာ၊ ရွှေတိုက်ဝန်ဆရာတော် ရှင်အရိန္ဒမထံမှ ဗြို့ဟာဇ်၊ ရာဇမတ္တံ ဗေဒင်ကျမ်းများနှင့် ပိဋကတ်စာပေများ သင်ယူသည်။ ပို့ကဗျာလင်္ကာ ဂန္ထန္တရကျမ်းနှင့်တကွ ဆေးကျမ်း၊ ဗေဒင်ကျမ်း၊ လောကီကျမ်းများကိုလည်း လေ့လာဆည်းပူးသည်။ ထို့နောက် ရွှေတောင်မြို့ပြန်၍ ငယ်ဆရာရင်းထံ သုတ်သီလက္ခန် စသော သုတ္တန်ကျမ်းများကို ပါဠိတော် အဋ္ဌကထာ ဋီကာနှင့်တွဲလျက် ထပ်မံ လေ့လာသင်ယူသည်။

ရဟန်း ၆ ဝါရ ၁၈၄၃ ခုနှစ်တွင် ရဟန်းဒါယကာ ရွှေတောင်ပန်းတောင်း ဟံသာဝတီ သုံးမြို့ဝန် မင်းကြီး  မဟာမင်းကျော်နော်ရထာဘွဲ့ခံ ဝန်ကြီးဦးမှုံက ကျီးသဲရွာ၏ အရှေ့မျက်နှာ တာ ၂၀၀ ကျော် အရပ်၌ လေးထပ်ကျောင်းကြီး ဆောက်လုပ်လှူဒါန်းရာ ကျီးသဲလေးထပ် ဆရာတော်ဟု ထင်ရှားသည်။ ကျီးသဲလေးထပ်ကျောင်းတွင် အရပ်ရပ်မှ ရောက်လာသော စာသင်သားများကို စာပေပို့ချ၍ စာပေကျမ်းဂန်များ ပြုစုသည်။ စာသင်သားများအား တစ်နေ့ စာဝါ ၇ ဝါအထိ ပို့ချ၍ ပရိယတ္တိသာသနာပြုသည်။ ကျီးသဲမှတစ်ဖန် ပန်းတောင်းမြို့ဝန် ပင့်လျှောက်၍ ပန်းတောင်းမြို့သို့ ကြွရောက် သီတင်းသုံးခဲ့သည်။ ၁၈၅၂ ခုနှစ် အင်္ဂလိပ်-မြန်မာဒုတိယစစ်ပွဲကြောင့် အင်္ဂပူ ခေါ် အုတ်ဖိုမြို့သို့ ပြောင်းရွှေ့ သီတင်းသုံးသည်။

၁၈၅၅ ခုနှစ် အင်္ဂပူမြို့၌ သီတင်းသုံးနေစဉ် အုတ်ဖိုဆရာတော် ရှင်ဥက္ကံဝံသမာလာ (၁၈၁၈ — ၁၉၀၆) သည် ရတနာသုံးပါးကို ရှိခိုးကန်တော့ရာ၌ ကာယကံ ဝစီကံ မနောကံဖြင့် ရှိခိုးခြင်းကိုပယ်ပြီး ကာယဒွါရ ဝစီဒွါရ မနောဒွါရဖြင့် ရှိခိုးအပ်သည်ဟု အဆုံးအဖြတ်ပေးခဲ့သည်။ ထိုအဆုံးအဖြတ်ကို မနှစ်သက်သူများက ထိုစဉ်က အင်္ဂပူမြို့ ဝါဆိုကျောင်း၌ ခေတ္တသီတင်းသုံးနေသော ကျီးသဲလေးထပ်ဆရာတော်ထံ ထပ်မံ အဆုံးအဖြတ်ခံယူရာ ကာယကံ ဝစီကံ မနောကံဖြင့် ရှိခိုးပူဇော်ခြင်းသည်လည်း သင့်လျော်ကြောင်း ဆုံးဖြတ်ရာမှ ကံဂိုဏ်းခေါင်းဆောင်ဖြစ်လာသည်။ ထို့နောက် ကျီးသဲလေးထပ်ဆရာတော်သည် အင်္ဂပူမြို့မှ

တဆင့် ဟင်္သာတမြို့ ကသဲတန်း ဥယျာဉ်ကြီးအရပ်သို့ ပြောင်းရွှေ့ သီတင်းသုံးသည်။ ကျီးသဲလေးထပ်ဆရာတော် သီတင်းသုံးရာကျောင်းကို ကျီးသဲကျောင်းဟု ခေါ်ဝေါ်ကြသည်။ ကျီးသဲလေးထပ်ဆရာတော်သည် ကျီးသဲကျောင်းကို မကွေးမြို့ မဲထီးတိုက်မှ ဟင်္သာတသို့ ပြောင်းရွှေ့လာသော ရှင်သဒ္ဓမ္မ (၁၈၃၀ - ၁၈၉၈) အား စွန့်ခဲ့ရာ နောင်အခါ မြစ်ကွေ့ကျောင်းတိုက်ဟု ထင်ရှားသည်။ ရှင်သဒ္ဓမ္မသည် ပထမမြစ်ကွေ့ဆရာတော် ဖြစ်လာသည်။ ကျီးသဲလေးထပ်ဆရာတော်သည် ဟင်္သာတမှ တဖန် ကျီးသဲလေးရွာအထက် ၅ မိုင်ခန့်ကွာ မြောက်ဆိပ်အရပ်၌ မြောက်ဆိပ်ကျောင်းတိုက်သစ်တည်၍ ပရိယတ္တိစာပေ ပို့ချသည်။ တနေ့ စာ ၇ ဝါ ပို့ချ၍ ဂန္ထန္တရကျမ်းများလည်း ပြုစုခဲ့သည်။

၁၈၇၇ ခုနှစ်တွင် မော်လမြိုင်သူဌေး ဦးကြင်ဥ ကျောင်းအမ ဒေါ်ရွှေပွင့်တို့က ပင့်လျှောက်၍ မော်လမြိုင်မြို့ မင်္ဂလာဘုံကျော် အုတ်ကျောင်းကို အလှူခံပြီး ပရိယတ္တိစာပေ ပို့ချသည်။ စာပေပို့ချနေစဉ် ကျောင်းအမ၏ လျှောက်ထားချက်အရ မဟာဝင်ဝတ္ထုကို ပြုစုခဲ့သည်။

ကျီးသဲလေးထပ်ဆရာတော် ပြုစုခဲ့သော ကျမ်းများမှာ မဟာသရဖို့ (၁၇၃၃)၊ သီလဘေဒပကာသနီ (၁၈၅၀)၊ ဗုဒ္ဓဝန္ဒနာကျမ်း (၁၈၅၄)၊ ဆပဒ္ဒဂီက လင်္ကာကျမ်း (၁၈၅၄)၊ သံသယဝိသောဓနာကျမ်း (၁၈၅၄)၊ သုပိနာဗျာယဖို့လင်္ကာ (၁၈၅၉)၊ မင်္ဂလတ္ထဒီပနီနိဿျ (၁၈၆၄)၊ နိဗ္ဗာန်လမ်းပြကျမ်း (၁၈၆၇)၊ ဘိက္ခုပါတိမောက်ပါဠိတော် နိဿျသစ် (၁၈၇၀)၊ ဘိက္ခုနီပါတိမောက်ပါဠိတော် နိဿျသစ် (၁၈၇၀)၊ မဟာဝါ ပါဠိတော် နိဿျသစ်၊ စူဠဝါ ပါဠိတော် နိဿျသစ်၊ ပရိဝါ ပါဠိတော်နိဿျသစ်၊ ဝိမတိစ္ဆေဒနီကျမ်း (၁၈၇၁)၊ မနောရထပူရဏီ (၁၈၇၃)၊ မဟာဝင်ဝတ္ထု (၁၈၇၈)၊ ပုရာဏ်ကျမ်းနှင့် ဓမ္မဂန်ဖတ်စာ (၁၈၈၁)၊ ကျီးသဲမေတ္တာစာ (ပုံနှိပ် ၁၈၈၈)၊ ဒိဋ္ဌိဒီပကကျမ်း၊ ဝိနတ္ထပကာသနီကျမ်း၊ လျှူဒီပစာတမ်း၊ အဘိဓမ္မတ္ထသင်္ဂဟ နိဿျသစ်၊ ကစ္စာယန ဆန်းငိကာ နိဿျသစ်၊ သဒ္ဒါကြီးနိဿျသစ်၊ ကဗျာသာရတ္ထသင်္ဂဟကျမ်း၊ သဋ္ဌန ဝိလာသနီ၊ ဒါနဝဂ္ဂဒီပနီ၊ အနန္တသုခဒီပနီ၊ ဂန္ထဝံသနိဿျ၊ ဆုတောင်း ၁၅ ဂါထာပါဌ်၊ ဘုရားကိုးဆူပူဇော်နည်း၊ ပရိတ္တနိဒါန်း၊ ကထိန်အမေးအဖြေ၊ ဓမ္မဒေသနာတရားစာ၊ လောကနီတိနိဿယ၊ ပကိဏ္ဏက နမက္ကာရ အစိန္တေယျ ဘုရားရှိခိုး၊ စစ်ကဲမောင်ထော်လေး

ရေစက်ချ၊ ဒုဋ္ဌဂါမဏိပြဇာတ်တို့ ဖြစ်သည်။ ဇိနတ္ထပကာသနီကျမ်းမှာ အလွန်ထင်ရှား၍ ယနေ့တိုင် အကြိမ်ကြိမ် ပုံနှိပ်ထုတ်ဝေရဆဲ ဖြစ်သည်။ ၁၈၈၀ ပြည့်နှစ်တွင် ရန်ကုန်မြို့ ရာမညတိုင်း ပုံနှိပ်တိုက်မှ ပထမအကြိမ် ပုံနှိပ်ထုတ်ဝေခဲ့သည်။ ဇိနတ္ထပကာသနီကျမ်း ရှမ်းဘာသာပြန်မူသည် ၂၀၀၃ ခုနှစ်တွင် ဆဋ္ဌမအကြိမ်မြောက် ပုံနှိပ်ထုတ်ဝေခဲ့သည်။

ကျီးသဲလေးထပ်ဆရာတော်သည် ကျီးသဲရွာ မြောက်ဘက် ငါးမိုင်ကွာ မြောက်ဆိပ်ရွာ မြောက်ဆိပ်ကျောင်း (ဗိုလ်ရုံကျောင်း)၌ ပရိယတ္တိစာပေ ပို့ချနေစဉ် သက်တော် ၇၇၊ သိက္ခာ ၅၇ ဝါရ၊ ၁၈၉၄ ခုနှစ် အောက်တိုဘာလ ၂၇ ရက် စနေနေ့ ညနေ ၄း၀၀ နာရီတွင် တစ်ဘဝ ချုပ်ငြိမ်းခဲ့ပါသည်။





# တောရဂိုဏ်းတည်
# ရှင်သီလသာရ
(၁၈၃၂ — ၁၉၀၇)

မြန်မာပြည်အောက်ပိုင်း ပဲခူးတောရဂိုဏ်းတည် ဆရာတော်များတွင် တစ်ပါး အပါအဝင်ဖြစ်၍ တောရဘုန်းတော်ကြီး ဦးသီလအမည်ဖြင့် ထင်ရှားသည်။ ရွှေကျင်ဂိုဏ်းနှင့် ပဲခူးတောရဂိုဏ်း ပူးပေါင်းရာ တောရဂိုဏ်း ဦးဆောင်ဖြစ်သည်။ ရွှေကျင်ဆရာတော်၏ ယုံကြည်လေးမြတ်အားထားခြင်းခံရသည်။ အသက်ထက်ဆုံး ပဋိပတ္တိ ကျင့်ကြံအားထုတ်သော်လည်း ပရိယတ္တိကို အားပေးသည်။ သထုံဓမ္မိကာရာမစာသင်တိုက် (၁၈၉၃)၊ ညောင်လေးပင်တောရတိုက် (၁၈၉၄)၊ ရန်ကုန် သက်န်းကျွန်းကျိုက္ကဆံတိုက် (၁၉၀၀)၊ ညောင်းတုန်း ရွှေဟသ်ာတောရတိုက် (၁၉၀၁)၊ စသော စာသင်တိုက်များ တည်ထောင်ခဲ့ကာ ဝိနည်းစာပြန်ပွဲများ ဦးဆောင်ကျင်းပခဲ့သည်။ ရာသက်ပန် တောရဆောက်တည်၍ တစ်ပါးတည်းသာ အလေ့ရှိ၏။ ကျိန်းစက်သော ဣရိယာပုတ် နည်း၏။ သာသနာကြီးပွားရေးဖြစ်လျှင် အသက်ခန္ဓာမငဲ့ ပင့်ရာကြွ၍ ချီးမြှောက်၏။ စိတ်ဆန္ဒ ထက်၏။ ဝိနည်းသိသည်မှစ၍ မချွတ်ယွင်းအောင် ကျင့်၏။ သမထဝိပဿနာ၌ ကြောင်လက်သည်းဝှက်ပမာ သိုသိပ်စွာ ကျင့်တော်မူ၏ဟု ပထမ ညောင်လေးပင်တောရဆရာတော် ရှင်သောမက မှတ်တမ်းတင်ခဲ့သည်။ မကျန်းမမာ လျက်ပင် ဇလွန်မြို့ သိမ်သမုတ်ကြွရာ ဇလွန်၌ ပျံလွန်သည်။ ရုပ်ကလာပ်ကို မီးသင်္ဂြိုဟ်ပြီး ဓာတ်တော်များကျသည် ဟု အကျော်ဒေးယျဖြစ်ခဲ့သည်။

## သီလသာရ ရှင်၊ (ဘုန်းတော်ကြီးဦးသီလ) —

၁၈၃၂ ခုနှစ် နိုဝင်ဘာလ ၃၀ ရက် သောကြာနေ့တွင် ပဲခူးမြို့နယ် အထက်ဇိုင်းဂနိုင်းကြီးရွာ၌ ဖွားသည်။ အဖ ကုန်သည် ဦးထွန်းအောင် အမိ ဒေါ်ချို ဖြစ်သည်။ မွေးချင်း ၅ ယောက်တွင် အကြီးဆုံး၊ အမည် မောင်ရွှေသာ ဖြစ်သည်။ အဖိုးမှာ မြန်မာပြည်အထက်ပိုင်း မင်းမှုထမ်း ဖြစ်သည်။

၁၀ နှစ် အရွယ်တွင် ကျောင်းပြင်းရွာ ဘုန်းတော်ကြီး ဦးမှူးထံ စတင် ပညာသင်သည်။ ၁၂ နှစ်တွင် မိဘနှစ်ပါးက ရှင်ဒါယကာ၊ ဘုန်းတော်ကြီး ဦးမှူးက ဥပဇ္ဈာယ်ပြု၍ သာမဏေ ဖြစ်သည်။ ဘွဲ့ ရှင်သီလသာရ သာမဏေ ၇ ဝါ ရသည့်တိုင် ဥပဇ္ဈာယ်ဆရာတော်ထံ ပရိယတ္တိစာပေ ဆက်လက် သင်ယူသည်။

၁၈၅၁ ခုနှစ်တွင် ကျိုက်ဒေးယံ့ဘုရား ကုန်းတော်အရံအတွင်း သိမ်၌ ပီလခတ်ရွာဘုန်းတော်ကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဖြစ်သည်။ ဘွဲ့ ရှင်သီလသာရ၊ ရဟန်းပြုပြီး ၂ ဝါရသည့်တိုင် ဘုန်းတော်ကြီး ဦးမှူးထံ ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။ ရဟန်း ၂ ဝါရတွင် ပဲခူးမြို့ ထောင့်ကျောင်း ဂိုဏ်းအုပ်ဆရာတော် ဘုန်းကြီးပုံ ခေါ် ရှင်စန္ဒာလင်္ကာရထံ ပြောင်းရွှေ့ ပရိယတ္တိစာပေသင်ယူသည်။ ဂိုဏ်းအုပ်ဆရာတော်၏ အလေး ထားခံရသည်။ ရဟန်း ၅ ဝါတွင် ရန်ကုန်မြို့ ပုဇွန်တောင် (ယခု ကျိုက် ထီးရိုးကျောင်းတည်ရာ) ရွှေကြက်ယက်ဘုန်းတော်ကြီး ရှင်မေဓါထံ ၁ ဝါ၊ ထို့နောက် ပဲခူး ကလျာဏီတောရဘုန်းကြီး ရှင်ဝဏ္ဏ (၁၈၂၈—၁၈၇၁)ထံ ၁ ဝါ၊ စစ်ကိုင်းတောင် ပီတောက်ချောင် အရိယာဝံသ ရေငုံတိုက်၌ ၁ ဝါ၊ မန္တလေး အရှေ့စလင်းတိုက်၌ ၁ ဝါ ပရိယတ္တိစာပေ သင်ယူသည်။ ရဟန်း ၉ ဝါရတွင် မကျန်းမာ၍ ဇာတိပြန်လာပြီး ပဲခူးနယ် လာကမွတ်ရွာ၊ ဈေးညောင်ပင်ရွာတို့၌ သီတင်းသုံးသည်။ ထို့နောက် ပတ္တမြားစေတီ ကျိုက်ပတိုင်ကုန်းတန်းဂူ၌ တောရဆောက်တည်သည်။

၁၃ ဝါရချိန် ၁၈၆၄ ခုနှစ်တွင် ဆရာရင်း ဂိုဏ်းအုပ်ဘုန်းကြီးပုံ ခေါ် ရှင်စန္ဒာလင်္ကာရနှင့်အတူ တောထွက်သည်။ ကလျာဏီကျောင်း တောင်ဘက် လေးတိုင်စဉ်ကျောင်းငယ်ဖြင့် ဆရာတပည့်နှစ်ပါးအတူ

သီတင်းသုံးသည်။ ဝါကျွတ်လျှင် ပဲခူးအရှေ့ ဟင်္သာကုန်း ပြောင်းရွှေ့ သီတင်းသုံးသည်။ ဂိုဏ်းအုပ်ဘုန်းကြီးပုံ တောထွက်ရန် ရှင်သီလသာရနှင့် အတူ ကလျာဏီဘုန်းကြီး ရှင်ဝဏ္ဏတို့ ၂ နှစ်ခန့် လှုံ့ဆော်ကြိုးစားခဲ့ရသည်။ နောက်ဆုံး ဘုန်းကြီးပုံကိုယ်တိုင် ပဗ္ဗာဇနိယကံ ဆောင်ယူ၍ တောထွက်ခဲ့ခြင်းဖြစ်သည်။ ထိုအချိန်မှစ၍ ပဲခူးတောရဂိုဏ်း အမည်တွင်ခဲ့သည်။ ဘုန်းကြီးပုံခေါ် ရှင်စန္ဒာလင်္ကာရသည် တောရဂိုဏ်းမဟာနာယက၊ ကျောက်ဆည် မြင်းစိုင်း မက္ခရာသုံးဂိုဏ်းအုပ် ရှင်သုမနသည် ဒုတိယနာယက အဖြစ် ဆောင်ရွက်သည်။

၁၅ ဝါရတွင် ရှင်သီလသာရသည် ဟင်္သာကုန်းမှခွဲ၍ တစ်ပါးတည်း တောအနှံ့ တောင်အနှံ့ တောရဆောက်တည်ခဲ့သည်။ ကျိုက်ဒေးယျုံ၊ လာကမွတ်၊ ဈေးညောင်ပင်၊ ကျိုက်ပတိုင်ကုန်းတန်း၊ ဂူကုန်း၊ ကလိ၊ တပ်ကလေး၊ အဝိုင်း၊ ဘုရားကလေး၊ ဥက္ကံရွာ၊ ဂူကုန်းတောရ၊ ဒေးစွန်ပါ၊ ပျဉ်ပုံတော၊ လှည်းဘီးကွဲ၊ အနောက်တောတောင်တန်း၊ ဒိုက်ဦး၊ ဖအောင်ဝဲ၊ ရွှေကျင်၊ ခရွဲ၊ ဝမ်းပတော၊ ကျိုက်ထို၊ ကော့ကဒွတ်၊ ဘီးလင်း၊ ကျိုက္ကော်၊ သထုံ၊ ဂေါ့၊ မုတ္တမတောင်ရိုး၊ မော်လမြိုင်၊ ဘားအံ၊ ဘီလူးကျွန်း၊ မုဒုံ၊ ကျုံဒိုး၊ ကော့ကရိတ် နေရာအသီးသီး၌ တောရဆောက်တည်ခဲ့သည်။ ခုတင် ၁၀ ပါး အမြဲ၊ ရံဖန်ရံခါ ၁၂ ပါး၊ ၁၃ ပါး ဆောင်သည်။ အဖူး အမြော် ရောက်လာသော တကာ တကာမများကို သရဏဂုဏ်သုံးပါး၊ ငါးပါးသီလ၊ ဩကာသ အကျဉ်းမျှ တိုတိုတုတ်တုတ် ဟောပြောလေ့ရှိသည်။ ရဟန်းငယ်များကိုမူ ပရိယတ္တိသင်ရန် တိုက်တွန်းလေ့ရှိသည်။ အလှူဒါန လာဘ်လာဘ ပေါများသော်လည်း ရောက်ရာအရပ် ကျောင်းသံဃာတို့ကို အကုန် ပြန်လည်လှူဒါန်းမြဲဖြစ်သည်။ ကိုယ်တိုင်ကမူ သပိတ်တစ်လုံး၊ သင်္ကန်းသုံးထည်၊ သားရေနွယ်တစ်ချပ်မျှဖြင့် တင်းတိမ်ရောင့်ရဲလေ့ရှိသည်။ ရန်ကုန်မြို့ နေ်ာမန်ကျောင်းကြီး၌ နှစ်စဉ်ကျင်းပသော ဝိနည်းစာပြန်ပွဲကြီး တွင် ဘုန်းတော်ဦး ဦးသီလအား ဒါယကာ ဒါယိကာမ ပရိသတ်များက အဝတ်သဘက်ဖြန့်ခင်းခြင်း၊ ဆံပင်ဖြန့်ခင်းခြင်းပြုသည်မှာ မြင်မကောင်း အောင် များလှသည်။ လှူဒါန်းသည့် ဝတ္ထုပစ္စည်းတို့မှာလည်း လှည်း ဆယ်စီးတိုက်မျှရှိသည်။ ဘုန်းတော်ကြီးကမူ လာဘ်လာဘအားလုံးကို

နော်မန်ကျောင်းကြီးဆရာတော်နှင့် တိုက်တွင်းသံဃာများအား ပြန်လည်လှူဒါန်းခဲ့သည်။

ဘုန်းတော်ကြီးသည် ရဟန္တာအလား ထင်ရှားကျော်စောသော်လည်း သူတော်ကောင်းစိတ်နှလုံးဖြင့် အမြဲ နှိမ့်ချရိုကျိုးလေ့ရှိသည်။ ထိုအချိန်က ပဋိပတ္တိအရာ ဝိနည်းအရာတွင် ပခန်းဂူဖြူတောရဆရာတော် ရှင်မေဓာ (၁၈၂၈—၁၉၁၉) နှင့် သုံးဂိုဏ်းချုပ်ခင်မွန်ဆရာတော် ရှင်ဇာဂရ (၁၈၂၉—၁၉၁၄) မှာ ဘုန်းတော်ကြီးနှင့် ခေတ်ပြိုင်ဖြစ်သည်။ တစ်ခါတွင် ဂူဖြူတောရဆရာတော်သည် ဘုန်းတော်ကြီး ဦးသီထံအရောက် ဘုန်းတော်ကြီးအား 'မီးရထားစီးပြီဟု ကြားရသည်၊ ဟုတ်လေသလား'ဟု အပြစ်စကား မိန့်ကြား၏။ ဘုန်းတော်ကြီးက "အတ္တ်တွင်း သိမ်သမုတ်သွားရာကစ၍ စီးမိပါပြီ၊ ဆုံးမတော်မူပါ၊ နာခံပါမည်"ဟု လက်အုပ်ချီလျှောက်လျှင် 'မကျန်းမမာ ဂိလာနဖြစ်လျှင် အပြစ်မဆိုသာပေဘူး၊ တပည့်တော်ဖြင့် ကျန်းမာပါသေးသည်'ဟု ဂူဖြူတောရဆရာတော်က မိန့်သည်။ ဘုန်းတော်ကြီးက နှိမ့်ချဝန်ချရာ ပရိသတ်တို့မှာ ဆရာတော်နှစ်ပါးအား အံ့မခန်းဖြစ်ကြသည်။

ဘုန်းတော်ကြီး၏ အခြား ထင်ရှားသော ဂုဏ်ရည်တစ်ရပ်မှာ ပရိယတ္တိသာသနာ ကြီးပွားရေးအတွက် သထုံ ဓမ္မိကာရာမစာသင်တိုက် (၁၈၉၃)၊ ညောင်လေးပင်တောရစာသင်တိုက် (၁၈၉၄)၊ ညောင်တုန်းရွှေဟသာတောရစာသင်တိုက် (၁၉၀၁)၊ ရန်ကုန် သယ်န်းကျွန်း ကျိုက္ကစံစာသင်တိုက် (၁၉၀၀) တည်ထောင်ပေးခြင်း၊ ပဲခူးတောရ (ကြခတ်ဝိုင်း) ဝိနည်းစာပြန်ပွဲ (၁၈၇၁)၊ ညောင်လေးပင်တောရ ဝိနည်းစာပြန်ပွဲ (၁၈၉၆)၊ ကျိုက်ထိုဘုရားသုံးဆူ တောရ ဝိနည်းစာပြန်ပွဲ (၁၈၉၇) များကို ဦးဆောင်အားပေးခဲ့ခြင်းပင်ဖြစ်သည်။ အထူးအားဖြင့် ၁၈၉၃ ခုနှစ်တွင် ရွှေကျင်ဆရာတော် ရှင်ဇာဂရ (၁၈၂၂—၁၈၉၄) နှင့် ဘုန်းတော်ကြီး ဦးသီလတို့ ပဲခူးတွင်တွေ့ရာမှ ရွှေကျင်ဂိုဏ်းနှင့် ပဲခူးတောရဂိုဏ်းတို့ တစ်ဂိုဏ်းတည်း ပူးပေါင်းခဲ့ကြခြင်း ဖြစ်သည်။

၁၉၀၆ ခုနှစ်တွင် ဘီလူးကျွန်း ကွမ်းသဲတော၌ နောက်ဆုံး ဝါကပ်သည်။ ဝါကျွတ်သော် သထုံနယ် ဂေါ်ရွာ၊ ဝင်းစိန်ရွာအနီး ဝနွာမိတောင်နေ ကရင်တောင်သူများကို တရားချီးမြှင့် သီတင်းသုံးသည်။ ထိုမှ ရန်ကုန်သို့

သဘော်ဖြင့်ကြွရန် မော်လမြိုင် ပုဂံတောင်ကျောင်း၌ ခေတ္တသီတင်းသုံးသည်။ မော်လမြိုင်မှ ရန်ကုန်၊ ရန်ကုန်မှ မင်းခရုရွာဘုန်းတော်ကြီး ဦးဝိမလသိမ် သိမ်သမုတ်ရန် ရေလမ်းခရီးဖြင့် ကြွသည်။ မင်းခရုမှတဆင့် ဒေါဝေါ်ရွာဘုန်းတော်ကြီး ဦးကေတုသိမ်၊ အင်းမရွာ ဦးပညာသိမ်၊ ပန်းတနော်ဆိပ်ကြီးဆရာတော်သိမ်၊ ခရွဲပိုရွာသိမ်တို့ကို အစဉ်အတိုင်း သမုတ်၍ ညောင်တုန်းရွှေဟသာ်တောရ ကြွသည်။ ထိုအချိန်တွင် ကျန်းမာရေး ဆုတ်ယုတ်၍ ဒူလာသွေးဝမ်းရောဂါ ခံစားနေရသည်။ သို့သော် ရောဂါကို ဂရုမထားဘဲ ညောင်တုန်းမှ စလေရွှေကျင်ကျောင်းသိမ်၊ ကွမ်းသီးပင်ရွာသစ်ကျောင်းသိမ်၊ ဓနုဖြူဗောဓိကျောင်းသိမ်များကို သမုတ်ပြီး ဇလွန်သို့ ကြွသည်။ ဇလွန်ကို နိဗ္ဗာန်အမည် သဘော်နှင့် ည ၂ နာရီ ဆိုက်သည်။ နောက်တစ်နေ့ ချက်ချင်း ဇလွန်သုသာန်ကျောင်းသိမ်ကို သမုတ်သည်။

သိမ်သမုတ်ပြီး နောက်တစ်နေ့ ၁၉၀၇ ခုနှစ် ဧပြီလ ၂၉ ရက် တနင်္လာနေ့ နံနက် ၇း၀၀ နာရီတွင် သက်တော် ၇၅ သိက္ခာ ၅၅ ဝါရ၍ ဇလွန်မြို့ သုသာန်တောရကျောင်း၌ ခန္ဓာဝန်ချခဲ့ပါသည်။



၂၉၅၄၀



# မန်လည်ဆရာတော်
## ရှင်ဇဝန
(၁၈၄၂ — ၁၉၂၀)

ကိုလိုနီခေတ်ဦး မြန်မာသာသနာ့ဝင်တွင် မကာရလောပအကျော် မန်လည်ဆရာတော်ဟု ထင်ရှားသည်။ မသိ မတတ် မရှိ မတစ်လုံးကျေ တောင်တွင်းဆရာတော် ခင်ကြီးပျော် (ရှင်ဉာဏ) ၏ လေးဆက်မြောက် တပည့်။ သာမဏေအရွယ်ကပင် ဒွေးချိုး လေးချိုး တေးထပ် ရတု ကဗျာ ဟောစာအမျိုးမျိုး ရေးနိုင်သည်။ ပါဠိ အဋ္ဌကထာ ဋီကာ ဂန္ထန္တရ ကျမ်းနှံ့စပ်သည်။ လောကီလောကုတ် ပညာစွယ်စုံသည်။ ဘင်္ဂလီ နာဂရီ သီဟိုဠ် မာဂဓ ဘာသန္တရ ကျွမ်းကျင်သည်။ 'အထက်မန်လည် အောက်လယ်တီ' ဟု ဥဒါန်းကျူးခံရပါသည်။ 'မဟာသုတကာရီ မဃဒေဝလင်္ကာသစ်'၊ 'မင်းကွန်းအမေး မန်လည်အဖြေ' ခေါ် သတပဒိက ပုစ္ဆာဝိသဇ္ဇနာကျမ်း၊ 'ပညာဝီမံသနာကထာကျမ်း'၊ 'ဝဇီရူပမဗျာကရဏကျမ်း'၊ 'သီမာဝိစာရဏပါဠိနိဿယ' စသည့် ကျမ်းပေါင်း ၆၀ ကျော် ပြုစုခဲ့သည့် ဂန္ထဝိုရပုဂ္ဂိုလ်ကျော်အဖြစ် သတ်မှတ်ခံရသည်။ အထူးအားဖြင့် ဒသသီလဝိနိစ္ဆယနှင့် ပတ်သက်၍ ပုသိမ်ဦး ပဒုမ၊ ပုသိမ် ရွှေမုဋ္ဌောစေတီ ဓာတ်မီးပူဇော်မှုနှင့်ပတ်သက်၍ ပုသိမ် ဦးအာသန် (ပုသိမ်ရွှေတောင်ကျောင်းဆရာတော် ဦးကုန္ဒမာလာ) တို့နှင့်အပြိုင် စာချိုးခဲ့ပါသည်။ ၁၉၁၇ ခုနှစ်တွင် အင်္ဂလိပ်အစိုးရ၏ အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။ ပျံလွန်ပြီးနောက် ရုပ်ကလာပ်တော် မပုပ်မသိုး ကြွင်းကျန်ရစ်သည်မှာ ယနေ့တိုင် မန်လည်မြို့ စံကျောင်းတော်၌ ဖူးနိုင်ပါသည်။

ဇဝန၊ ရှင်၊ မန်လည်ဆရာတော် —

၁၈၄၂ ခု မတ်လ ၂၂ ရက် အင်္ဂါနေ့တွင် စစ်ကိုင်းတိုင်း အင်းတော်ကြီးမြို့နယ် မန်လည်မြို့၌ ဖွားသည်။ အဖ မန်လည်မြို့စာရေး သစ်ကုန်သည် ဦးထင်ညို၊ အမိ ဒေါ်ဖြေ ဖြစ်သည်။ ငယ်မည် မောင်မာတွင်သည်။

၃ နှစ်အရွယ်တွင် ဖခင်ကွယ်လွန်၍ မိခင်နှင့်အတူ ထီးချိုင့်နယ်ရှောက်ခါးရွာ၊ နဂါးဆင်းမြို့၊ ကျောက်ပြည်သာ၊ ဝန်းသိုမြို့များ၌ နေထိုင်ခဲ့သည်။ ၁၂ နှစ်တွင် ဝန်းသိုမြို့ တောင်ပေါ်ကျောင်းဘုန်းကြီး ဦးပန်းအောင်ထံ စတင်ပညာဆည်းပူးသည်။ ဘုန်းကြီး ဦးပန်းအောင်မှာ ဝန်းသိုစော်ဘွား ဦးအောင်မြတ်၏ နောင်တော်ဖြစ်သည်။ ၁၅ နှစ်အရွယ်တွင် မိခင်ကွယ်လွန်သည်။ ၁၆ နှစ်တွင် တောင်ပေါ်ကျောင်းဆရာတော်ကို ဥပဇ္ဈာယ်ယူ၍ သာမဏေဖြစ်သည်။ ဘွဲ့ ရှင်ဇဝန ဖြစ်သည်။

သာမဏေဖြစ်ပြီး မန်လည်မြို့ လေးထပ်ကျောင်း (နောင် ပြဿဒ်၏ ကျောင်းတော်ကြီး )ဂိုဏ်းအုပ်ဆရာတော် ရှင်နန္ဒမဇ္ဈထံ ပရိယတ္တိစာပေ သင်ယူသည်။ ရှင်နန္ဒမဇ္ဈမှာ မတလုံးကျေ တောင်တွင်းဆရာတော်ခင်ကြီးဖျော် (၁၇၂၄ ၁၇၉၂) အနွယ် တတိယဆက်တပည့် ဖြစ်သည်။ သာမဏေဘဝကပင် ဒွေးချိုး၊ လေးချိုး၊ တေးထပ်၊ ကဗျာလင်္ကာနှင့် ပြဇာတ်၊ ဘုန်းကြီးပျံ့ဒိုချင်း၊ အံတော်သီချင်းများ ရေးဖွဲ့ခဲ့သည်။

သာမဏေ ၆ ဝါရ ၁၈၆၃ ခုတွင် ဂိုဏ်းအုပ် ရှင်နန္ဒမဇ္ဈကို ဥပဇ္ဈာယ်ပြု ရဟန်းဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ဇဝန။ ဥပဇ္ဈာယ်ဆရာပျံလွန်ပြီး ၁၈၆၄ ခု ဖေဖော်ဝါရီလ ၂၅ ရက် ကြာသပတေးနေ့တွင် မဲဇာမြစ်ရေသိမ်၌ ဒုတိယအကြိမ် ရဟန်းခံသည်။ ဥပဇ္ဈာယ်ဆရာမှာ အောင်းပင်ရွာ ရှင်ဂုဏာမထေရ်ဖြစ်သည်။ ရဟန်းသိက္ခာဝါကို ဒုတိယအကြိမ် ရဟန်းပြုရာမှ စတင်သည်။

ရဟန်း ၂ ဝါရတွင် မန္တလေးအနောက်ပြင် ထီးလင်းတိုက်၌ ဝါဆိုသည်။ မန်လည်မြို့ဝန် မင်းထင်မင်းလှ သမန္တရာဇာ လှူဒါန်းသော ပိဋကတ်တော်များကူးယူရာ ကြီးကြပ်ဆောင်ရွက်သည်။ ထို့နောက် မန်လည်မြို့ လေးထပ်ကျောင်းပြန်၍ ပရိယတ္တိစာပေ ပို့ချသည်။ ရဟန်း ၁၀ ဝါရတွင် 'မယဒေဝလင်္ကာသစ်'ကို ရေးဖွဲ့သည်။

၁၈၇၇ ခု မင်းတုန်းမင်းလက်ထက် မဟာမင်းခေါင်ဇေယျသူ ဘွဲ့ခံ မိုးတားအတွင်းဝန်သည် မင်းမှုရေးရာဖြင့် ဧရာဝတီမြစ်ဆန်တက် ခဲ့စဉ် ပညာမာန်ဖြင့် မန်လည်ဆရာတော်ကို ပညာရည်စမ်းခဲ့သည်။ မန်လည်ဆရာတော်က 'ဥတ္တရသို့ မဟာရာဇမာနိယာ' အစချီ ပါဠိ ၄ ဂါထာ၊ ဂါထာအဖွင့် ဝဏ္ဏနာ ပါဠိဘာသာဖြင့် အမေးပုစ္ဆာ ပြန်လည် ထုတ်ခဲ့သည်။ နောက်ဆုံးတွင် မိုးတားအတွင်းဝန်သည် 'မန်လည်အရပ်က သိက္ခာ ၁၀ ဝါရ ဦးဇဝနသည် တကယ်မြင်ခြေမြောက် တယောက်ဆရာ ပေါ်ထွက်လာသည်ဟု များစွာအံ့သြ အဟောဝတ မဟာပသံသ ချီးမွမ်း လှသည်လည်း ဒေသအရပ်တိုင်း နှံ့ပါပြီ' ဟု ဝန်ခံခဲ့ရသည်။

၁၈၈၁ ခု ရဟန်း ၁၇ ဝါရတွင် ရာဇဂုရုဘွဲ့တံဆိပ်ရ မင်းကွန်း အလယ်တောရဆရာတော် ရှင်ပဏ္ဍဝံသ (၁၈၄၄—၁၈၈၆) က ခက်ခဲ နက်နဲလှသော အမေးပုစ္ဆာ ၄၅ ပုဒ်ကို ကဗျာလင်္ကာဖွဲ့၍ 'ပဥ္စစတ္တာလီသ ပုစ္ဆာဝိသဇ္ဇနာကျမ်း အမည်ဖြင့် မေးလျှောက်ခဲ့သည်။ မန်လည်ဆရာ တော်က မင်းကွန်းဆရာတော်၏ အမေးပုစ္ဆာကို ကဗျာလင်္ကာဖြင့်ပင် ဖြေဆိုပြီး မင်းကွန်းဆရာတော်အား အမေးပုစ္ဆာ ၁၀၀ ကို ကဗျာလင်္ကာ ဖွဲ့၍ 'သတပဒိက ပုစ္ဆာဝိသဇ္ဇနာ' အမည်ဖြင့် ပြန်လည်မေးလျှောက် ခဲ့သည်။ ဤအမေးအဖြေ နှစ်စုံကို ၁၉၃၃ ခုတွင် မန္တလေးမြို့ မန္တလေး တိုင်းသတင်းစာပုံနှိပ်တိုက်က 'ပဥ္စစတ္တာလီသ ပုစ္ဆာဝိသဇ္ဇနာနှင့် သတပဒိက ပုစ္ဆာဝိသဇ္ဇနာ' ကျမ်းအမည်ဖြင့် ပထမအကြိမ် ပုံနှိပ်ထုတ် ဝေခဲ့သည်။ မြန်မာစာပေတွင် ထင်ရှားသော အမေးအဖြေကျမ်းတစ်စောင် ဖြစ်သည်။

၁၈၈၅ ခုတွင် အရှင်နှစ်ပါး ပါတော်မူနှင့် ကြုံတွေ့ရရာ ကိုယ်တွေ့ ပါတော်မူခံစားမှုကို '. . . အမယ်လေး ကမ္ဘာငယ်မှပြောင်းပြန် မှောက် စောင်းလျှန်သို့ ဝေယံငယ်မှထီးနန်း ပြည်တိုင်းခန်းသို့ ပရမ်းပတာ ထက်ခြမ်းအာလျက် သတ္တဝါမွန်းနစ် ဗုဒ္ဓမြတ်စွာသာသနာလည်း ရောင်ဝါ မရွှန်း သာပထွန်းတည့် နွမ်းခဲ့ညစ်လို့ ဖြစ်သရွေ့တိုင်း ခေတ်တွေငယ်ရိုင်း ပါတဲ့ မြန်တိုင်းပြည်ထောင် မန်းမြေဘောင်ဝယ် နန်းရောင်ငယ်မှမထင် ညှိုးဥကင်နှင့် ပလ္လင်ငယ်မှပညီး ဖြူထီးငယ်မှမဖွင့် ငွေမောင်းမဆော် ရွှေပြည်တော်လည်း ကျော်မရင့်ဘဲ လူမင်းသရေ ကင်းဆိတ်ရေသို့

ရဝေနန်းထီးအချီးနိုးခဲ့" ဟု မှတ်တမ်းတင်ခဲ့သည်။ သို့သော် နယ်မြေငြိမ်းချမ်းရေး နယ်သူနယ်သား အေးချမ်းသာယာရေးအတွက် အင်္ဂလိပ်ကို လက်နက်ဖြင့် အန်တုသည့် မန်လည်မြို့ဝန်နှင့် ဝန်းသိုစော်ဘွား ဦးအောင်မြတ်တို့ကို လက်နက်ချရန် တရားဟောခဲ့သည်။ မန်လည်ဆရာတော်၏ ဟောပြောနားချမှုကို မန်လည်မြို့ဝန်က လက်ခံသော်လည်း ဝန်းသိုစော်ဘွား ဦးအောင်မြတ်က ငြင်းဆန်ခဲ့သည်။

၁၈၈၈ ခုတွင် မန်လည်မြို့ဝန် မင်းလှမင်းထင် သမန္တရာဇာဘွဲ့ခံဦးပုသည် မန်လည်ဆရာတော်အား မန်လည်မြို့၌ ဘုံခုနစ်ဆင့် ပြဿဒ်ကျောင်း ဆောက်လုပ်လှူဒါန်းရာ မန်လည်ပြဿဒ်ကျောင်းဆရာတော်ဟု အမည်တွင်သည်။ ထိုအချိန်က မြန်မာပြည်အောက်ပိုင်း ရာမညတိုင်း၌ လူတို့ ဆယ်ပါးသီလ ခံယူဆောက်တည် အပ် မအပ် အငြင်းပွားနေ ရာ ပုသိမ်ဦးပဒုမ (၁၈၅၈—၁၉၂၁?) က လူတို့ ဆယ်ပါးသီလ မဆောက်တည်အပ်ကြောင်းကို သဒ္ဓမ္မဇောတိကကျမ်း (၁၈၉၁) ရေးပြီး မန်လည်ဆရာတော်ထံ ပေးပို့သည်။ ၁၈၈၉ ခုကပင် မန်လည်ဆရာတော်သည် လူတို့ ဆယ်ပါးသီလ ဆောက်တည်အပ်ကြောင်းကို 'ဒသသီလ ဝိနိစ္ဆယ ဝိဂ္ဂဟဒီပနီ' ဖြင့် ဆုံးဖြတ်ခဲ့ပြီးဖြစ်သည်။ ထို့ကြောင့် မန်လည်ဆရာတော်က 'ရာမညေယျောဝါဒ ဝဇိရဂ္ဂ ဂဏ္ဌိပဒ' ကျမ်း ထပ်မံရေးသားခဲ့ရာ ပဒုမောဝါဒကထာ လေးချိုးကဲ့သို့ ထင်ရှားကျော်ကြားသော ကဗျာလင်္ကာများ ထွက်ပေါ်ခဲ့သည်။

၁၈၉၉ ခုနှစ်တွင် ဝင်္ကရာရာမဆရာတော်က သင်္ဂြိုလ်ကာ ရဟန်းတော်များအတွက် ဝိသုံဂါမသိမ် အဆုံးအဖြတ် ဝိနိစ္ဆယပေးရန် လျှောက်ထားရာ 'သီမာဝိစာရဏာပါဠ်နှင့် နိဿယ' ရေးပို့သည်။ ၁၉၀၁ ခုနှစ်တွင် မဟာဝိသုဒ္ဓါရာမဆရာတော်၏ တိုက်တွန်းမှုဖြင့် လင်္ကာ အလင်္ကာဒသီလဆိုင်ရာ အမေးပုစ္ဆာ ၁၃ ချက်ကို ဖြေဆိုသည့် 'ဝဇိရူပမဗျာကရဏ' ကျမ်း၊ ထိုကျမ်းနှင့်တွဲလျက် ပျဉ်းမနားမြို့ ဒါယကာ မောင်ထွန်းလှိုင်၏ သုတော်ကောင်းလက္ခဏာ အမေးပုစ္ဆာကို ဖြေဆိုသော 'ဝဇိရတ္တရပကာသနီ' ကျမ်း၊ နိစ္စဂီတ အဆုံးအဖြတ် 'ဝဇိရနိနယဝိနိစ္ဆယ' ကျမ်းများ ပါဝင်သည်။

၁၉၀၂ ခုနှစ်တွင် လယ်တီဆရာတော်၏ နားလည်ရန် ဉာဏ်မရဲ

စိတ်မရဲ မခွဲနိုင်မခြမ်းနိုင် ရှိနေပါသဖြင့် အရှင့်သဘော ညဏ်သက်ရာကို နာခံလိုပါကြောင်းသဘောဖြင့် မေးမြန်းသည့် အမေးပုစ္ဆာများကို ဖြေဆိုသော 'ပုစ္ဆာဝိသဇ္ဇနာ' ကျမ်းကို စီရင်သည်။ ၁၉၀၄ ခုနှစ်တွင် ရဟန်း ၁၀ ဝါရက ရေးလက်စ 'မဃဒေဝလင်္ကာသစ်'ကို အပြီးသတ်ခဲ့သည်။ မဃဒေဝလင်္ကာသစ်မှာ မြန်မာစာပေသမိုင်းတွင် ဂန္ထဝင်ကဗျာကျမ်းကြီးဖြစ်၍ ၁၉၀၇ ခုတွင် မန္တလေးမြို့ ရတနာပုံ စာပုံနှိပ်တိုက်က ပထမအကြိမ် ပုံနှိပ်ခဲ့သည်။ ယနေ့တိုင် အကြိမ်ကြိမ် ပုံနှိပ်နေရဆဲဖြစ်သည်။

မန်လည်ဆရာတော်သည် ကသာ၊ ထီးချိုင့်၊ ကောလင်း၊ မိုးကောင်း၊ ဗန်းမော်၊ ရွှေဂူ၊ မြစ်ကြီးနားမြို့များကို လှည့်လည်တရားဟောပြောသာသနာပြုသည်။ ၁၉၀၆ ခုနှစ်တွင် မိုးကုတ်မြို့ သာသနာပြုခရီးကြွသည်။ ၁၀၁၂ ခုနှစ်တွင် ရှမ်းပြည်နယ် သီပေါစော်ဘွားကြီး၏ ပင့်လျှောက်ချက်အရ နောက်ပါသံဃာ ၄၅ ပါးနှင့် သာသနာပြု ကြွရောက်၍ ရှမ်းပြည်သာသနာ သန့်စင်ရေးအတွက် ဆောင်ရွက်ခဲ့သည်။ ၁၉၁၉ ခုနှစ်တွင် ရေလမ်းခရီးက ရဟန်းသံဃာ လူပရိသတ် ၂၀၀ ခန့်ဖြင့် စစ်ကိုင်း၊ ပခုက္ကူ၊ ပြည်၊ ဇလွန်၊ ဟင်္သာတ၊ ပုသိမ်၊ ရန်ကုန်၊ မော်လမြိုင်မြို့များသို့ သာသနာပြုကြွခဲ့သည်။ ထိုစဉ် ၁၉၂၀ ပြည့်နှစ် ဖေဖော်ဝါရီလ ၁၅ ရက် ညနေ ၅ နာရီတွင် မင်းလှမြို့ လယ်တီမဏ္ဍိုင်ကျောင်း၌ လယ်တီဆရာတော် ရှင်ဉာဏ (၁၈၄၆—၁၉၂၄) နှင့် တွေ့ဆုံခဲ့သည်။ ဆရာတော်နှစ်ပါး မင်းလှမှ မီးရထားဖြင့် လက်ပံတန်း၊ သာယာဝတီ၊ သုံးဆယ်၊ ဥက္ကံ၊ တိုက်ကြီး၊ ရန်ကုန်တိုင်အောင် အဖူးမျှော်ခံ တရားဟောကြားခဲ့သည်။ ရန်ကုန်မြို့တွင် တရားဟောပြောပြီးနောက် ဆရာတော်နှစ်ပါး လမ်းခွဲကာ မန်လည်ဆရာတော်သည် မန်လည်မြို့ ပြန်ကြွခဲ့သည်။

ပြုစုခဲ့သောကျမ်းပေါင်း ၆၀ ကျော်ရှိရာ အချို့ကို စုပေါင်း၍ ပုံနှိပ်ထုတ်ဝေခဲ့သည်။ ထင်ရှားသောကျမ်းအချို့မှာ ပညာဝီမံသနကထာကျမ်း၊ ကဗျာပေါင်းချုပ်ကျမ်း၊ ဘုရားရှိခိုးပေါင်းချုပ်ကျမ်း၊ ကစ္စာယနသင်္ဂဟသုသုဟာရက နိဿျသစ်၊ ဋီကာကျော်နိဿျသစ်၊ ကမ္မဋ္ဌာန်းကျမ်းသစ်၊ မဏိဇောတိက ဝိသဇ္ဇနာကျမ်းတို့ ဖြစ်သည်။

၁၉၁၇ ခုနှစ်တွင် အင်္ဂလိပ်အစိုးရ၏ အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။

သက်တော် ၇၉၊ သိက္ခာ ၅၇ ဝါအရ ၁၉၂၀ ပြည့်နှစ် စက်တင်ဘာလ ၂၄ ရက် နံနက် ၁ နာရီ ၃၀ မိနစ်တွင် မန္တလေးမြို့ ပြဿဒ်ကျောင်းကြီး၌ ခန္ဓာဝန် ချခဲ့ပါသည်။ ပျံလွန်ပြီးနောက် ရုပ်ကလာပ်သည် မပုပ်မသိုး ကြွင်းကျန်ရစ်ရာ စံကျောင်း၌ ယနေ့တိုင် ပူဇော်ထားပါသည်။





# လယ်တီဆရာတော်
## ရှင်ဉာဏ
(၁၈၄၆ — ၁၉၂၃)

မြန်မာနိုင်ငံသာသနာဝင်တွင် ဘုရားငယ်တစ်ဆူအလား အလွန်ထင်ရှား၍ မြန်မာနိုင်ငံနယ်နမိတ်ကို ကျော်ကာ သီရိလင်္ကာ ဥရောပတိုင် ကျော်ဇောခဲ့သည်။ အင်္ဂလန်နိုင်ငံ လန်ဒန်ပါဠိအသင်းကြီး၏ ကမ္ဘာကျော် ပါဠိပညာရှင်များကပင် ဗုဒ္ဓအဘိဓမ္မာနှင့် ပတ်သက်လျှင် အားထားခံရသည်။ အထူးအားဖြင့် သင်္ဂြိုဟ်သံခိပ် အဘိဓမ္မာတရား ပြန့်ပွားရေးအတွက် နိုင်ငံအနှံ့ သံခိပ်အသင်းများဖွဲ့စည်းကာ တရားဟောပြောခဲ့ခြင်း၊ ပရိယတ် ပဋိပတ်ဆိုင်ရာ အလွန် အသုံးများသော ကျမ်း ၈၀ ကျော် ပြုစုခဲ့ခြင်း၊ ပြည်တွင်းပြည်ပမှ မေးလျှောက်သည့် အမေးပုစ္ဆာ၊ ဝိနိစ္ဆယများ ဖြေဆိုချမှတ်ခဲ့ခြင်း၊ ကိုယ်တိုင် လယ်တီတောရ၊ မဟာမြိုင်တောရ၊ မုံရွာ လက်ပံတောင်းတောင်၊ ဖိုလ်ဝင်းတောင်၊ ဒလတောကြီးတန်း ဆပုဂံတောရ တို့တွင် ပဋိပတ္တိ ကျင့်ကြံအားထုတ်ခဲ့ခြင်း၊ နိုင်ငံခြား ဗုဒ္ဓသာသနာပြုအသင်းကြီးကို ဦးဆောင်ခဲ့ခြင်း စသည့် ဂုဏ်ရည်များနှင့်အတူ အင်္ဂလိပ်အစိုးရက အဂ္ဂမဟာပဏ္ဍိတဘွဲ့၊ ရန်ကုန်တက္ကသိုလ်က ဒီလစ်ပါရဂူဘွဲ့များ ဆက်ကပ်ခံရသည်။ လယ်တီဆရာတော်၏ တရားနာကြားရသော ကင်းဝန်မင်းကြီးက 'ဩ ငါတို့ကျေးဇူးရှင် ပဥ္စမသံဂါယနာတင် ဘဝရှင်မင်းတရားကြီးတောင် ဒီလိုတရားမျိုး နာမသွားရရှာပေ၊ ဝမ်းနည်းလိုက်ပါဘိ' ဟု မျက်ရည်ကျ တမ်းတရသည်ဟု ဆိုကြပါသည်။

ဉာဏ၊ ရှင်၊ လယ်တီဆရာတော် —

၁၈၄၆ ခု ဒီဇင်ဘာလ ၁ ရက် အင်္ဂါနေ့တွင် ရွှေဘိုခရိုင် ဒီပဲယင်းမြို့နယ် စိုင်ပြင်ရွာ၌ ဖွားသည်။ အဖ တောင်သူဦးထွန်းသာ၊ အမိ ဒေါ်ကျုံး ဖြစ်သည်။ မွေးချင်း ၆ ဦးတွင် ဒုတိယမြောက်သား၊ အမည်ရင်း မောင်တက်ခေါင် ဖြစ်သည်။ သားဦးမှာ ငယ်စဉ်ကပင် ကွယ်လွန်၍ တတိယ မောင်တက်စွာ၊ စတုတ္ထ မောင်တက်ပွား (ပထမပြန် ဦးကုမာရ)၊ ပဉ္စမ မောင်တက်ထွား (ဦးကိတ္တိ)၊ ဆဋ္ဌမ မမြလေး ဖြစ်သည်။

၆ နှစ်အရွယ်တွင် စိုင်ပြင်ရွာ ဖျောက်ဆိပ်ပင်ကျောင်း ဆရာတော် ရှင်နန္ဒထံ စတင်ပညာသင်သည်။ ၁၅ နှစ်တွင် မိဘနှစ်ပါးက ရှင်ဒါယကာ၊ ဆရာတော် ရှင်နန္ဒက ဥပဇ္ဈာယ်ပြု၍ သာမဏေဖြစ်သည်။ သာမဏေဘွဲ့ ရှင်ဉာဏ (ရှင်ဉာဏဓဇ)။ သာမဏေဝတ်ဖြင့် ပိဋကတ် အခြေခံနှင့် သဒ္ဒါ၊ သင်္ဂြိုဟ် စာဝါများ သင်ယူသည်။ စိုင်ပြင်ရွာ မြင်ထင်ကျောင်းတိုက်ဆရာတော် ရှင်ဓမ္မသာရထံတွင်လည်း ပိဋကတ်အခြေခံစာများ သင်ယူ၍ ဖျောက်ဆိပ်ပင်၊ မြင်ထင်၊ အုတ်ရှစ်ပင်ကျောင်းရှိ ပေ၊ ပုရပိုက်များကို ဝါသနာအရ လေ့လာဖတ်ရှုသည်။ သာမဏေ ၃ ဝါရတွင် မိဘလယ်ယာလုပ်ငန်းကူညီရန် လူထွက်ရသည်။ ၆ လခန့်အကြာ ရဲထွက်ရွာ ရှင်ဂန္ဓမာထံ ဗေဒင်ဆိုင်ရာ မကာရန္တတွက်ရိုး၊ ဇာတာဖွဲ့နည်းသင်ယူရန် သာမဏေပြန်ဝတ်ခွင့်ရသည်။ ဗေဒင်ပညာအပြင် ကဗျာလင်္ကာနှင့် ပိဋကတ်စာပေများပါ သင်ယူခွင့်ရ၍ မဟော်ကျေးစေရတု၊ သျှိုးလိုက်ရတု၊ ဝါစ္စဝါစကအကောက် ပြုစုခဲ့သည်။

အသက် ၂၀ ပြည့်၍ ၁၈၆၆ ခု ဧပြီလ ၁၉ ရက် ကြာသပတေးနေ့တွင် စိုင်ပြင်ရွာ မြင်ထင်တိုက်သိမ်၌ ရဟန်းဖြစ်သည်။ မိခင်၏ညီမ ဒွေးလေး ဒေါ်ဖုံ၊ ဦးကံစ က ရဟန်းဒါယကာ၊ ငယ်ဆရာရင်း ရှင်နန္ဒက ဥပဇ္ဈာယ်ဆရာ ဆောင်ရွက်သည်။ ရဟန်းဘွဲ့ ရှင်ဉာဏဓဇ ဖြစ်သည်။ ရဟန်းပထမဝါတွင် ဥပဇ္ဈာယ်ဆရာထံ ဝိနည်းပါဠိတော်ကို အဋ္ဌကထာတွဲလျက် သင်ယူသည်။ ကျောက်ကာရွာ ရှင်ဝဏ္ဏထံ ဋီကာကျော် စာဝါတက်၍ အားလပ်ချိန်တွင် ဖျောက်ဆိပ်ပင်၊ မြင်ထင်၊ အုတ်ရှစ်ပင်ကျောင်းစာတိုက်သေတ္တာများမှ ဂန္ထန္တရ ကျမ်းဂန်အမျိုးမျိုးကို လေ့လာဖတ်ရှုသည်။

ရဟန်း ၂ ဝါမြောက် ၁၈၆၇ ခုတွင် မန္တလေးနေပြည်တော် မြောက်ပြင်စံကျောင်းတိုက် ရာဇဂုရုဘွဲ့ ၂ တန်ရ စံကျောင်းဆရာတော် ရှင်သုဒဿန (၁၈၁၅—၁၈၈၈) ထံ ခိုဝင်၍ ပရိယတ်စာပေ သင်ယူသည်။ စံကျောင်းဆရာတော်ထံ ဝိနည်းပါဠိ၊ အဋ္ဌကထာ၊ အဘိဓမ္မာ အဋ္ဌကထာ ၃ ကျမ်းကို လိုက်ဝါ၊ စလင်းဂဏ္ဌိကျမ်းပြု စာချ စလင်းရှင်ပဏ္ဍိစ္စ (၁၈၄၃—၁၉ - ) ထံ ပါစိတျာဒိအဋ္ဌကထာ၊ သမ္မောအဋ္ဌကထာ၊ ပဥ္စမကြိုဏ်အဋ္ဌကထာ တို့ကို ဆိုဝါ၊ စာချ ရှင်ခေမိန္ဒထံ ပါရာဇိကဏ် အဋ္ဌကထာ၊ စာချ မိုင်းခိုင်းရှင်ပဏ္ဍိတ (၁၈၄၂—၁၈၉၉) ထံ အဘိဓမ္မာ အဋ္ဌကထာ သင်ယူသည်။ စာဝါအားလပ်ချိန်တွင် ပိဋကတ်တော်အုပ် မိုင်းခိုင်းအတွင်းဝန် ဦးယံ၊ ယောမင်းကြီး ဦးဘိုးလှိုင်၊ စာတော်ပြင် ဦးဖားတို့ထံ စာကြည့်နည်း၊ စာရေးနည်း နည်းခံသည်။ အထူးအားဖြင့် စံကျောင်းတိုက်စာချ စလင်းရှင်ပဏ္ဍိစ္စကို ဓမ္မာစရိယဆရာပြု၍ စာပေလေ့လာသင်ယူသည်။

၅ ဝါရ ၁၈၇၁ ခု စက်တင်ဘာလ ၁၄ ရက်တွင် မြနန်းစံကျော် ရွှေနန်းတော်တွင်း မြနန်းပြဿဒ်၌ အဘိဓမ္မာ ပိဋကတ် 'ကထာဝတ္ထုပါဠိတော်' ကို အာဂုံပြန်ဆိုခဲ့သည်။ ၁၈၇၁ ခု ဧပြီလ ၁၅ ရက်မှ စက်တင်ဘာလ ၁၂ ရက်ထိ ကျင်းပသော ပဥ္စမသင်္ဂါယနာတင်ပွဲတွင် စံကျောင်းတိုက်သံဃာ ၁၄၄ ပါးနှင့်အတူ 'သံယုတ္တနိကာယ်ပါဠိတော်'ကို သင်္ဂီတိဘာဏကအဖြစ် ပါဝင်ရွတ်ဆိုခဲ့သည်။

၈ ဝါရ ၁၈၇၄ ခုတွင် စံကျောင်းတိုက် ပထမစာချ၊ ခရေပင်ကျောင်းဘုန်းကြီးအဖြစ် စံကျောင်းဆရာတော်၏ ချီးမြှောက်ခံရသည်။ ၁၁ ဝါရ ၁၈၇၇ ခု ဇွန်လ ၁၀ ရက်တွင် မင်းတုန်းမင်းကြီး၏ ပထမစာတော်ချဘွဲ့တံဆိပ်နှင့် ဆွမ်းဆံတော်များ ဆက်ကပ်လှူဒါန်းခံရသည်။ စံကျောင်းတိုက်၌ စာပေပို့ချနေစဉ် ၁၃ ဝါရတွင် စံကျောင်းဆရာတော်၏ 'ဝိသုတိပုစ္ဆာ ခေါ် အမေးပုစ္ဆာ နှစ်ဆယ်ကို ဖြေဆိုသော ဝိသုတိပုစ္ဆာအဖြေလွှာ'ကို ပြုစုစီရင်သည်။ အဖြေလွှာကို ဓမ္မာစရိယဆရာရင်း စလင်းဆရာတော်၏ ကျေနပ်အားရ ခံရသည်။ နောင်အခါ ယင်းအဖြေလွှာကို 'ပါရမီဒီပနီ' အမည်ဖြင့် ပုံနှိပ်ထုတ်ဝေသည်။ စံကျောင်းတိုက်တွင် ၁၆ ဝါရသည်တိုင် ပရိယတ်စာပေ ပို့ချနေရာမှ ၁၈၈၂ ခုတွင်

စံကျောင်းတိုက် မီးသင့်ခြင်း၊ မှော်စရိယဆရာရင်း စလင်းမြို့ ပြောင်းရွှေ့သီတင်းသုံးခြင်း၊ တိုင်းရေးပြည်ရေး မငြိမ်သက်ခြင်းများကြောင့် တပည့်သံဃာ တစ်ကျိပ်ကျော်နှင့်အတူ မုံရွာမြို့ ရွှေစည်းခုံကျောင်းတိုက် ပြောင်းရွှေ့ခဲ့သည်။

မုံရွာ ရွှေစည်းခုံကျောင်းတိုက်တွင် ပရိယတ်စာပေ ပို့ချ သီတင်းသုံးနေရာမှ ၁၈၈၄ ခုတွင် မုံရွာမြို့ တော်ကုန်းဘုရားအနီး ပြောင်းရွှေ့ ဝါကပ်သည်။ ၁၈၈၅ ခုတွင် မုံရွာမြို့ ညောင်တပင်ရပ် (လေ့ကူး) သင်္ဂြိုဟ်ဦးဝိုင်းကျောင်း ပြောင်းရွှေ့ စာပေပို့ချသည်။ ထိုနှစ်မှာပင် ထင်ရှားလှသော 'နွားမေတ္တာစာ' ရေးသားခဲ့ရာ လေ့ကူးဘုန်းကြီးဟု အမည်တွင်ခဲ့သည်။ ၂၁ ဝါရ ၁၈၈၇ ခုတွင် ဦးဝိုင်းကျောင်းမှ မုံရွာမြို့ မြောက်ဘက် လယ်တီတောရသို့ တစ်ပါးတည်း တောထွက်ခဲ့ရာမှ တပည့်တပမ်းများ လိုက်လာ၍ ပရိယတ္တိစာပေ ပို့ချပေးရာ လယ်တီတောရကျောင်းတိုက် အမည်နှင့် လယ်တီဘုန်းကြီးဟု အမည်တွင်ခဲ့သည်။ လယ်တီတောရတွင် ပရိယတ္တိစာပေပို့ချခြင်း၊ ဝိပဿနာ ကျင့်ကြံအားထုတ်ခြင်း၊ တရားမဟာပြောဆုံးမခြင်း၊ ဂန္ထဝိုရစာပေကျမ်းဂန် ပြုစုခြင်း၊ သံဃာ့ဝတ်ဆောက်တည်ခြင်းတို့ကို လုံ့လကြီးစွာ ဆောင်ရွက်သည်။

၁၈၉၆ ခုနှစ်တွင် အိန္ဒိယနိုင်ငံ မဇ္ဈိမဒေသ ဘုရားဖူးကြွရောက်သည်။ မန္တလေးမှ ရန်ကုန်ဘထွက် မီးရထားပေါ်မှာပင် 'ပဋိစ္စသမုပ္ပါဒ်ပျို့လင်္ကာ' ကို ရေးဖွဲ့သည်။ ရန်ကုန်မှအထွက် ပင်လယ်ကူးသင်္ဘောပေါ်၌ ပဋိစ္စသမုပ္ပါဒ် ပျို့လင်္ကာအဖြေကို စီရင်သည်။ အိန္ဒိယမှအပြန်တွံတေးနယ် ဒလတောတန်း ဆပုဂံတောရ၌ ပဋိပတ္တိ ကျင့်ကြံအားထုတ်သည်။ ၁၈၉၇ ခုတွင် မုံရွာ လယ်တီတိုက်ဝါဆို၍ 'ပရမတ္ထဒီပနီ' ခေါ် 'သင်္ဂြိုဟ်မဟာဋီကာသစ်ပါဌ်'ကို ရေးသားသည်။ ၁၈၉၈ ခုတွင် ကျိုက်ထိုမြို့ သခြံတောင်၌ ကျင့်ကြံအားထုတ်နေသည့် တပည့် ရှင်တိလောကကို ချီးမြှောက်သောအားဖြင့် ကျိုက်ထီးရိုးဘုရားဖူး ကြွသည်။ ဝိဇ္ဇာမဂ္ဂဒီပနီကိုလည်း စီရင်သည်။

၁၈၉၉ ခုတွင် မုံရွာအနီး လယ်စဉ်ရွာ ဓမ္မိကာရုံတိုက်၌ ဝါကပ်ပြီး 'နိဗ္ဗာနဒီပနီ'ကို ရေးသားသည်။ နိဗ္ဗာနဒီပနီကို ဒုတိယရွှေကျင်သာသနာပိုင် မဟာဝိသုဒ္ဓါရာမဆရာတော် (၁၈၃၈—၁၉၁၆)က ကျေနပ်အားရလှ

သဖြင့် သူ၏ 'ဆိဒ္ဓပိဓာနနီ' ကျမ်း၌ ထည့်သွင်းပုံနှိပ်ဖော်ပြသည်။ ၁၉၀၀ ပြည့်နှစ်တွင် 'ဥတ္တမပုရိသဒီပနီ' ကို စီရင်သည်။ ထို့နောက် ဒီပဲရင်း မြောက်ဘက် မဟာမြိုင် ဝက်ရဲတော၌ ကျင့်ကြံအားထုတ်နေသည့် တပည့် ကြီး ရှင်ကုန္တကထံ ကြွရောက်သည်။ ထိုနှစ်ဝါတွင်းကာလပတ်လုံး ရှင်ကုန္တက ကို အနီးကပ် ကြည့်ရှုစောင့်ရှောက် လမ်းညွှန်သည်။ ရှင်ကုန္တကမှာ နောင် အခါ ကြောင်ပန်းဆရာတော်အဖြစ် ထင်ရှားသည်။ ၁၉၀၁ ခုတွင် မုံရွာ လယ်တီတိုက်ပြန်၍ ဝါကပ်သည်။ 'ပဋိစ္စသမုပ္ပါဒ်ဒီပနီ'ကို စီရင်သည်။ ထိုနှစ်မှာပင် ရန်ကုန် ကဝိမျက်မှန်ပုံနှိပ်တိုက်မှ ပရမတ္ထဒီပနီကို ပုံနှိပ်ထုတ်ဝေသည်။ ပရမတ္ထဒီပနီတွင် သီဟိုဠ်ဖြစ် ဝိဘာဝနီခေါ် ဋီကာ ကျော်၏ မှားယွင်းနေသောအချက်ပေါင်း ၂၄၅ ချက်ကို နသုန္ဒရံ နယုဇ္ဇတိ နသမေတိ ဟူသော အသုံးအနှုံးဖြင့် ပယ်ဖျက်ထားရာ ပရိယတ္တိစာပေ လောက၌ ခြောက်ခြားသွားခဲ့သည်။ ထိုအချိန်မှစ၍ နှစ်ပေါင်း ၂၀ နီးပါး လယ်တီဆရာတော်၏ ပရမတ္ထဒီပနီကို ပြန်လှန်ချေပသောကျမ်း၊ ထောက် ခံသောကျမ်းများ ထွက်ပေါ်လာရာ ဋီကာစစ်ပွဲကြီးဟု တင်စားကြသည်။ အဘိဓမ္မာအရာ ထင်ရှားသည့် ဒုတိယမြို့ပြင်ကြီးဆရာတော်၊ မန်လည် ဆရာတော်တို့က ပရမတ္ထဒီပနီဘက်မှ ရပ်တည်ခဲ့ကြသည်။

၁၉၀၄ ခုတွင် ကင်းဝန်မင်းကြီးထံသို့ 'မိုက်မလင်းနိုင်လို့ မြိုက်ခင်း ညာဆီမှာ ခါတော်မှီ သီမဝေ့နိုင်ဘု. . .' အစချီ သံဝေဂလေးချိုးကြီး ရေးပို့ရာမှ မန္တလေးမြို့ ကင်းဝန်မင်းကြီးအိမ်ဦး၌ 'ဒိဋ္ဌိပြုတ်ဝိပဿနာ' တရားများ ၃ ည ဟောပြောခဲ့သည်။ တရားပွဲအပြီးတွင် ကင်းဝန်မင်း ကြီးက 'ဩော် ငါတို့ကျေးဇူးရှင် ပဥ္စမသံဂါယနာတင် ဘဝရှင်မင်းတရား ကြီး ယခုတရားမျိုး နာမသွားရရှာပေဘူး၊ ဝမ်းနည်းလိုက်ပါဘိ' ဟု ငိုကြွေး မြည်တမ်းခဲ့သည်။ ထိုနှစ်မှာပင် ပျဉ်းမနား အင်ကြင်းမြိုင်တောရ၌ ဝါကပ်၍ မလှိုင်၊ တောင်သာမြို့များ၌ တရားပွဲများ ကျင်းပဟောပြော သည်။ တောင်သာမြို့တရားပွဲတွင် တရားပွဲနှင့်အတူ ပရမတ္ထသံခိပ် အသင်း ဖွဲ့စည်းပေးခဲ့သည်။ ထိုအချိန်မှစ၍ အဘိဓမ္မာသံခိပ်တရားပွဲ၊ ပလိပ်ရောဂါ တားဆီးရေးတရားပွဲများ နိုင်ငံအနှံ့ ဟောပြောခဲ့သည်။ အနယ်နယ် အရပ်ရပ်မှ မေးလျှောက်သော အမေးပုစ္ဆာများ၊ ဝိနိစ္ဆယများ ကိုလည်း ရှင်းလင်းဖြေဆိုပေးသည်။ နိုင်ငံရပ်ခြားမှ မေးလျှောက်သော

အမေးပုစ္ဆာ၊ အထူးအားဖြင့် လန်ဒန်ပါဠိအသင်းက မေးလျှောက်သော အမေးများကို ပါဠိဘာသာဖြင့် ဖြေဆိုပေးသည်။ ပါဠိဘာသာအပြင် အင်္ဂလိပ် ဘာသာပြန်အဖြစ် ယစ်မျိုးမင်းကြီး ဦးရွှေဇံအောင်၊ မစိုးရိမ် ပထမကျော် ရှင်ဉာဏတို့က ဆောင်ရွက်ခဲ့သည်။ လန်ဒန် ပါဠိအသင်းကြီးကို အဘိဓမ္မာ၊ ယမိုက်၊ ပဋ္ဌာန်းနှင့် ပတ်သက်၍ အကူအညီ ပေးခဲ့သည်။ ၁၉၁၃ ခုနှစ်တွင် မန္တလေးမြို့၌ နိုင်ငံခြားသာသနာပြု အသင်းကြီး တည်ထောင်ရာ နာယကအဖြစ် ဦးဆောင်ခဲ့သည်။ မုံရွာ၊ ပျဉ်းမနား၊ ညောင်တုန်း၊ ရွှေတောင်၊ ဟင်္သာတ စသည့်မြို့များတွင် အသင်းခွဲများ တည်ထောင်၍ နိုင်ငံရပ်ခြား ဗုဒ္ဓသာသနာပြန့်ပွားရေး အတွက် ဆောင်ရွက်သည်။ လန်ဒန် ပါဠိစာပေအသင်းက ပါဠိအဘိဓာန် ပြုစုရေး အကူအညီတောင်းခံရာ မစိုးရိမ်တိုက်အား တာဝန်လွှဲအပ်၍ သဒ္ဒတ္ထရတနာဝလိနာမကံ မဟာပါလိအဘိဓာန်ကို ပြုစုစေခဲ့သည်။

ပရမတ္ထဒီပနီခေါ် သင်္ဂြိုဟ်မဟာဋီကာသစ်ပါဌ်၊ နရုတ္တိဒီပနီ ခေါ် ဝုတ္တိမောဂ္ဂလာန်ဋီကာပါဌ်၊ ပဋ္ဌာနုဒ္ဒေသဒီပနီပါဌ်၊ သမ္မာဒိဋ္ဌိဒီပနီပါဌ်၊ အနုဒီပနီပါဌ် စသော ပါဠိကျမ်းများ၊ ရူပဒီပနီ၊ လက္ခဏဒီပနီ၊ အနတ္တ ဒီပနီ၊ အာဟာရဒီပနီ၊ ကမ္မဋ္ဌာနဒီပနီ၊ အာနာပါနဒီပနီ၊ ရောဂန္တရဒီပနီ၊ သာသနဝိသောဓနီ (၃ တွဲ) စသော မြန်မာကျမ်းအပါအဝင် စုစုပေါင်း ကျမ်း ၈၀ ကျော် ပြုစုခဲ့သည်။ ဝိပဿနာဒီပနီ၊ နိယာမဒီပနီ၊ ပဋ္ဌာနုဒ္ဒေသ ဒီပနီ၊ စတုသစ္စဒီပနီ၊ ဗောဓိပက္ခိယဒီပနီ၊ အလင်းကျမ်း၊ ဝိဇ္ဇာမဂ္ဂဒီပနီ စသော ကျမ်းအချို့ကို အင်္ဂလိပ်ဘာသာပြန်ဆိုခဲ့သည်။

၁၉၁၅ ခုတွင် အင်္ဂလိပ်အစိုးရ၏ ပထမဆုံးအကြိမ် ဆက်ကပ် သော 'အဂ္ဂမဟာပဏ္ဍိတ'ဘွဲ့တံဆိပ်၊ ၁၉၂၁ ခုတွင် ရန်ကုန်တက္ကသိုလ်က ဆက်ကပ်သော ဒီလစ် (ပါရဂူ) ဘွဲ့များ ရရှိခဲ့သည်။

ပရိယတ် ပဋိပတ် စာပေဆိုင်ရာ ထူးချွန်သော တပည့်အမြောက် အများ ပေါ်ထွန်းခဲ့ရာ ကြောင်ပန်းဆရာတော်၊ သင်္ချိုင်းတောင်ဆရာ တော်၊ ဒုတိယလယ်တီဆရာတော်၊ လယ်တီပဏ္ဍိတ ဦးမောင်ကြီး၊ လယ်တီ ဦးကောဝိဒ၊ ပုပ္ပါး ဦးကျော်ရင်၊ လယ်တီဦးဝါယာမ (အဂ္ဂမဟာပဏ္ဍိတ ဆရာမြို့)၊ လယ်တီဝဏ္ဏတ (ဦးလှတင်)၊ လယ်တီ ဦးပဒုမ၊ အနာဂမ် ဆရာသက်ကြီးတို့သည် ထင်ရှားလှသည်။

သက်တော် ၇၇ သိက္ခာ ၅၆ ဝါအရ ၁၉၂၃ ခုနှစ် ဇွန်လ ၂၇ ရက် ဗုဒ္ဓဟူးနေ့ နေ့လည် ၂း၃၀ နာရီတွင် ပျဉ်းမနားမြို့ လယ်တီစံကျောင်း၌ ခန္ဓာဝန်ချခဲ့ပါသည်။





# နော်မံကျောင်းကြီးဆရာတော် ရှင်ပညာ

(၁၈၄၆ — ၁၉၃၄)

ကိုလိုနီခေတ်ဦး ရန်ကုန်မြို့ သာသနာရေး ရှေ့ဆောင်ဆရာတော် တစ်ပါး ဖြစ်သည်။ နော်မံကျောင်းကြီးဆရာတော်၊ အင်းစိန်ဆရာတော် ဦးပညာ အမည်နှစ်မျိုးဖြင့် ထင်ရှားသည်။ ပရိယတ်စာပေကို မန္တလေးမြို့ လေးပြင်လေးရပ် တံဆိပ်ရ မရ ဆရာတော်များ၊ ရာဇဂုရုဘွဲ့တံဆိပ်ရ မြင်းမူနယ် တွင်းကြီးရွာ တွင်းကြီးဆရာတော်၊ ညဝါအကျော် မြို့ပြင်ကြီးအနီး ရေကြည်ပေါက် ဦးဝိသုဒ္ဓ၊ ကျမ်းဂန်သွားနည်းယူနည်းတို့၌ အလွန်ဆန်းကြယ် ကျယ်ဝန်း၍ ဉာဏ်ရည်ထင်ရှားလှသော ရေစကြိုမင်းအိုတိုက် ရှင်ဝရ သမ္မောဓိ တို့ထံ သင်ယူခဲ့သည်။ ရဟန်း ၅ ဝါရမှစ၍ ပရိယတ္တိစာပေ ပြန်လည်ပို့ချခြင်း၊ ၁၀ ဝါရ ကျောင်းထိုင်ဖြစ်စဉ် ဥဘတောဝိဘင်း အာဂုံ ဆောင်ခြင်း၊ အသက်ထက်ဆုံး ဝိနည်းလေးစောင် အာဂုံဆောင်ခြင်းတို့ကြောင့် ဝိနယဓရပုဂ္ဂိုလ်အဖြစ် ထင်ရှားသည်။ ကိုယ်တိုင် ဝိနည်းလေးစားယုံမျှ မက ဝိနည်းဆောင်ပုဂ္ဂိုလ်များ ပေါ်ထွန်းလာစေရန် ကျောင်းဒါယကာ သူဌေးကြီးဦးဘိုးသာ (ဆာဖိုးသာ)နှင့် ဒါယကာ ဒါယိကာမများ အထောက် အပံ့ဖြင့် ဝိနည်းစာပြန်ပွဲကြီးကို ၁၈၉၀ ပြည့်နှစ်မှစ၍ နော်မံကျောင်းကြီး၌ နှစ်ပေါင်း ၂၀ ကျော် ဦးဆောင် ကျင်းပပေးခဲ့ရာ ရန်ကုန်မြို့တော် သာသနာရေးလောကတွင် ဩဇာကြီးမားခဲ့ပါသည်။

ပညာ၊ ရှင်၊ နော်မံကျောင်းကြီးဆရာတော် —

၁၈၄၆ ခု ဖေဖော်ဝါရီလ ၁၉ ရက် ကြာသပတေးနေ့တွင် ဇန့်ကျိ တိုက်နယ် ပုလဲအုပ်စု ကျေးနင်းကြီးရွာ၌ ဖွားသည်။ အဖ ဦးဖြူ၊ အမိ ဒေါ်ခြူ ဖြစ်သည်။ မွေးချင်းငါးယောက်တွင် အထွေးဆုံး၊ ငယ်မည် မောင်ဖော့ ဖြစ်သည်။ အစ်ကို ဦးဖဲသည် မင်းတုန်းမင်းလက်ထက်၌ နတ်စု လက်ဝဲဗိုလ်ကလေး၊ အမ ဒေါ်မြိုင်သည် ရွှေလုံမြင်းဝန် ဗိုလ်မှူးကတော် ဖြစ်သည်။

၈ နှစ်အရွယ်တွင် ကျေးနင်းကြီးရွာ လေ့တင်ကျောင်းဆရာတော် ရှင်ကလျာဏထံ စာပေသင်ယူသည်။ ၁၄ နှစ်တွင် မိဘနှစ်ပါးက ရှင်ဒါယကာ၊ ရှင်ကလျာဏက ဥပဇ္ဈာယ်ဆရာပြု၍ သာမဏေဖြစ်သည်။ ဘွဲ့ ရှင်ပညာ ဖြစ်သည်။ သာမဏေဝတ်ဖြင့် အဘိဓမ္မတ္ထသင်္ဂဟ၊ ကစ္စည်းသဒ္ဒါကျမ်းများ သင်ယူသည်။ ၁၆ နှစ်ရွယ် သာမဏေ ၂ ဝါရတွင် မန္တလေးမြောက်ပြင် မဏ္ဍလာရာမခေါ် ပြည်တိုက်၊ မင်းတပ်ဗိုလ်မှူးကျောင်း၊ ပထမစာချ ဘထွေးတော် ရှင်ဇိနထံ ပြောင်းရွှေ့ ပညာသင်သည်။ ရှင်ဇိနမှာ ပြည်ဆရာ တော် ရှင်မေဓါလင်္ကာရ (၁၇၈၈— ၁၈၆၄) ၏ လက်ထောက်စာချ၊ ဝိနည်း ငါးကျမ်းပြန် ဖြစ်သည်။

အသက် ၂၀ ပြည့်ချိန် ၁၈၆၆ ခုနှစ်တွင် ဇာတိကျေးနင်းကြီးရွာ မိဘနှစ်ပါးက ရှင်ဒါယကာ၊ ပုလဲမြို့ ဥဘတောဝိဘင်းဆောင် ဝိနည်းမိုရ် ဂိုဏ်းအုပ် ရှင်သုမင်္ဂလက ဥပဇ္ဈာယ်ပြု၍ ကျေးနင်းကြီး ရွာကျောင်း၌ ရဟန်းဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ပညာဖြစ်သည်။ ရဟန်းဖြစ်ပြီး မန္တလေးမြို့ မဏ္ဍလာရာမတိုက် ဘထွေးဆရာတော် ရှင်ဇိနထံ ပြန်၍ စံကျောင်းဆရာ တော် ရှင်သုဒဿန (၁၈၁၅—၁၈၈၈) သစ်ဆိမ့်ဆရာတော်၊ ဘထွေးတော် ရှင်ဇိနတို့ထံ ၂ နှစ်၊ စစ်ကိုင်းခရိုင် မြင်းမူမြို့နယ် တွင်းကြီးရွာ မြောက် ကျောင်း၌ သီတင်းသုံးနေသော ရာဇဂုရုဘွဲ့တံဆိပ်ရ တွင်းကြီးဆရာတော် နှင့် ညီတော် ပထမကျော် ရှင်ဝဇိရဗုဒ္ဓိတို့ထံ ၃ နှစ် နည်းခံသည်။ တွင်းကြီးဆရာတော်သည် ပုဂံမင်းလက်ထက် သာသနာပိုင် တားကရာ ဆရာတော် ရှင်ပညာဇောတ (၁၇၈၅—၁၈၆၀) ထံ စာပေပို့ချ နည်းခံနေစဉ် "ဣတိပုဒ်သည် နိပါတ်ပုဒ်သာမဟုတ်၊ အာချတ်ပုဒ်လည်း ရှိကြောင်း"

ပါဠိအကိုးအထောက်များဖြင့် လျှောက်ရာ သာသနာပိုင်၏ ကျေနပ်အားရခြင်း ခံရသည်။ ပုဂံမင်းလက်ထက် "ဝိလာသာဘိ သီရိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။

၁၈၇၁ ခုနှစ်တွင် မန္တလေးမြို့ ဘထွေးတော် ရှင်ဇိနထံ ပြန်လည်သီတင်းသုံးကာ စာပေပို့ချသည်။ ထိုစဉ် မင်းတုန်းမင်းနှင့် စည်ပုတ္တရာမိဖုရားတို့က စည်ပုတ္တရာတိုက်သစ်တည်၍ တွင်းကြီးဆရာတော်အား ပင့်လျှောက်စေသည်။ တွင်းကြီးဆရာတော်နှင့်အတူ ရှင်ပညာသည် လက်ထောက်စာချအဖြစ် ပရိယတ္တိစာပေ ပို့ချသည်။ စာပေပို့ချလျက်နှင့်ပင် မြောက်ပြင်စံကျောင်းဆရာတော် ရှင်သုဒဿန၊ အရှေ့ပြင် စလင်းဆရာတော်၊ မောင်းထောင်ဆရာတော်၊ ဘုံကျော်ဆရာတော်၊ ညောင်ကန်ဆရာတော်၊ ပထမ ရွှေကျင်ဆရာတော် ရှင်ဇာဂရ၊ အနောက်ပြင် စကုတိုက်ရှင်ပဒုမ (ရန်ကုန်မြို့၊ ဘင်္ဂလားဆရာတော်၏ အစ်ကို) ဒက္ခိဏာရာမဘုရားကြီးတိုက် ရှင်သုတလင်္ကာရ၊ မြို့ပြင်ကြီးရွာအနီး ရေကြည်ပေါက်စာသင်တိုက် စာချဆရာတော် ရှင်ဝိသုဒ္ဓ၊ ရေစကြိုမြို့ မင်းအိုတိုက်ရှင်ဝရသမ္ဘောဓိ တို့ထံတွင် ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။ ထိုသို့နည်းခံ သင်ယူနေစဉ် တွင်းကြီးဆရာတော်၏ ဆန္ဒအရ မြင်းမူမြို့နယ်လှော်ကနတ်ကျောင်း၊ ထို့နောက် ကုလားကြီးရွာ ရွှေရပ်သာ စာသင်တိုက်သို့ ပြောင်း၍ ပရိယတ္တိစာပေ ၆ ဝါ ပို့ချသည်။ ထိုမှတစ်ဖန် တောရဆောက်တည်ရန် ကုလားကြီးရွာ သရက်တော တောကျောင်း၌ ၃ ဝါသီတင်းသုံးသည်။ ထိုစဉ် မျက်စေ့ရောဂါရ၍ တောင်သာမြို့ သမားတော်ကြီး ဦးမှုံနှင့်ကုသရာ ရောဂါ ပျောက်ကင်းခဲ့သည်။ တောင်သာမြို့၌ပင်ခုံမင်း ဦးတုပ်က ကျောင်းဆောက်ကိုးကွယ်၍ တပည့်သံဃာ ၅၀ ခန့်ကိုစာပေပို့ချသည်။ မြင်းခြံမြို့ ကိုးဆောင်တိုက်နာယက ဘထွေးတော်ရှင်ဇောတက ကိုးဆောင်တိုက်ကို စာပေပို့ချရန် အပ်နှံသော်လည်းငြင်းပယ်ခဲ့သည်။ ထို့နောက် ဇာတိ ကျေးနင်းကြီးရွာ ပြန်လည်ကြွရောက်ပြီးလှေဂုတ်ရွာကျောင်း၌ ၁ ဝါ ဆိုသည်။

၁၈၈၇ ခုနှစ်တွင် တိုင်းရေးပြည်ရေး အခြေအနေများကြောင့်တပည့်သံဃာ ၆ ပါးနှင့်အတူ အောက်မြန်မာနိုင်ငံသို့ ရေလမ်းဖြင့် ကြွရောက်သည်။ ဟင်္သာတမြို့အရောက် မန္တလေးမြို့ မဏ္ဍလာရာမတိုက်တွင်

သီတင်းသုံးဖော် စာသင်ဘက် ဟသာၤတလယ်တိုက် ရှင်သာဂရ (၁၈၄၉—၁၉၁၁) ထံ ခေတ္တ သီတင်းသုံးသည်။ ဒွါရဂိုဏ်းတည် အုတ်ဖိုဆရာတော် ရှင် ဥက္ကံဝံသမာလာ (၁၈၁၈—၁၉၀၆) နှင့် မိတ်ဆွေ ရှင်သာဂရ တို့၏ ဟသာၤတတွင် စာပေပို့ချ သာသနာပြုရန် ဖိတ်ခေါ် တိုက်တွန်းခံရသည်။ ဟသာၤတတွင် ခေတ္တသီတင်းသုံးနေစဉ် မန္တလေးမြို့ ပညာသင်ဘက် ဟသာၤတ သရက်တောတိုက် ရှင်ရေဝတ၊ မြစ်ကွေ့ဆရာတော် ရှင်ပုည၊ ရှင်ရဝိန္ဒတို့သည် ဒွါရဂိုဏ်းဝင် ရှင်သာဂရနှင့် အဆက်အဆံမရှိ၊ သီးခြားဖြစ်နေရာ ဟသာၤတ၌ မနေတော့ဘဲ ရန်ကုန်မြို့အထိ စုန်ဆင်းခဲ့သည်။

ရန်ကုန်မြို့ ပုဇွန်တောင် ဆားလင်းတိုက်၊ ထို့နောက် မဲဇာလီကျောင်း၊ ထိုမှတစ်ဖန် ကျိုက်ထီးရိုးကျောင်း၊ ကျောက်တိုင်ကျောင်းများသို့ အသီးသီး ပြောင်းရွှေ့ကာ ပရိယတ္တိစာပေ ပို့ချသည်။ ဆွမ်းကိုယ်တိုင်ခံ၍ ပင်ပမ်းဆင်းရဲစွာ စာပေပို့ချနေရာ ၁၈၈၈ ခုနှစ်တွင် ပွဲစားကြီး ဦးရင်မောင်၊ ဦးယောင်း၊ ဦးအောင် (ဆာမောင်ခင်၏ အဖိုး)တို့ ဦးဆောင်လျက် ကျောင်းတိုက်တည်ရန် စီမံသည်။ ပွဲစားကြီး ဦးဘိုးသာ (ဆာဖိုးသာ) သည် ယောက္ခမ ဦးဝိုက် ဒေါ်သူတို့၏ အကူအညီဖြင့် အစိုးရနော်မံကျောင်းကြီးကို ငွေနှစ်သောင်းပေး ဝယ်ယူလှူဒါန်းသည်။ ထို့ပြင် ဦးဝိုက် ဒေါ်သူ၏ သားသမီးများဖြစ်သော ပွဲစားကြီး ဦးအောင်ကြီး၊ ဒေါ်စောညွန့်၊ ဦးဖိုးသာ၊ ဒေါ်ပု၊ ဦးရွှေမှန်၊ ဒေါ်အေးမြ၊ ဦးစံချိန်၊ ဒေါ်အေးမြူနှင့် အခြား စေတနာရှင်များက ကျောင်းရံ၊ ဇရပ်၊ သိမ်၊ ရေတွင်းများ ဆောက်လုပ်လှူဒါန်းခဲ့ရာ နော်မံကျောင်းကြီး ဆရာတော် ရှင်ပညာအဖြစ် အလွန်ထင်ရှားလာသည်။ ရှင်ပညာ၏ အုပ်ချုပ်မှုအောက်တွင် ပရိယတ္တိစာပေ သင်ယူနေသော သံဃာ ၁၀၀ ကျော်ရှိ၍ ရန်ကုန်မြို့၏ ကျက်သရေဆောင် စာသင်တိုက်ကြီးအဖြစ်ထင်ရှားလာသည်။

၁၈၉၀ ပြည့်နှစ်မှ စတင်၍ နော်မံကျောင်းဒါယကာ ဦးဘိုးသာ၊ ဒေါ်ပုနှင့် ဒါယကာများသည် ရှင်ပညာ၏ ဦးဆောင်မှုဖြင့် နတ်တော်လတိုင်း ဂိုဏ်းဂဏမခြား သံဃာတော်များ ဝိနည်းစာပြန်ပွဲကြီး ကျင်းပခဲ့သည်။ ကိုလိုနီခေတ်အတွင်း ပထမဦးဆုံး ပေါ်ပေါက်ခဲ့သော ဝိနည်းစာပြန်ပွဲကြီးဖြစ်၍ သမုတိသာသနာပိုင် ပခန်းဆရာတော် ရှင်နန္ဒမာလာ (၁၈၂၀—၁၉၂၈) ရဟန္တာဟု ထင်ရှားသော ပဲခူးတောရ ဦးသီလ (၁၈၃၂—၁၉၀၇)

၁၉၀၉ ခုနှစ်တွင် တောင်ခွင်သာသနာပိုင် ရှင်ဝိသုဒ္ဓါသီလာစာရ (၁၈၄၄—၁၉၃၈) တို့ ကြွရောက် ချီးမြှင့်သည်။ ရန်ကုန်မြို့ပေါ်မှ ဟံသာဝတီဂိုဏ်းချုပ် ငါးထပ်ကြီးဆရာတော် ရှင်အာသဘ (၁၈၃၂—၁၉၂၀)၊ ဘင်္ဂလားဆရာတော် ရှင်ရဝိန္ဒ၊ သံယုတ်ဆရာတော် ရှင်ကုမာရ (၁၈၅၀—၁၉၂၄)၊ အလယ်တောရ ဆရာတော် ရှင်ကောသလ္လ (၁၈၅၂—၁၉၄၆) တို့ စောင့်ရှောက် အားပေးခဲ့သည်။ ရဟန်းသံဃာများ စွမ်းနိုင်သမျှ ဝိနည်း ငါးကျမ်းပြန်၊ လေးကျမ်းပြန်၊ သုံးကျမ်းပြန်၊ ဥဘတောဝိဘင်းပြန်၊ ဝိနည်းငယ်လေးစောင်ပါဋ္ဌ်၊ ဝိနည်းငယ် သုံးစောင်ပါဋ္ဌ်၊ ဒွေမာတိကာ နှစ်စောင်ပါဋ္ဌ်ပြန် ဟူ၍ ပေါ်ထွက်လာခဲ့သည်။ စာပြန်ပွဲကြီးကို ဒါယကာ ဒါယိကာမ၊ ရဟန်းသံဃာများ စုပေါင်း၍ နှစ်ပေါင်း ၂၀ ကျော်မျှ ကျင်းပခဲ့သည်။

၁၉၁၅ ခုနှစ် ဒုတိယအကြိမ် လျှုဒါန်းသော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။

၁၉၁၆ ခုနှစ်တွင် အင်းစိန်စီရင်စု တိုက်ကြီးမြို့နယ် မြရာကုန်းကျောင်း သိမ်သမုတ်ပွဲမှအပြန် အင်းစိန်မြို့နယ် ကျိုက္ကလို့စေတီအနီး တောအုပ်၌ တောထွက် ကျင့်ကြံအားထုတ်သည်။ တောရဆောက်တည်နေရာမှ ဆာဘိုးသာ ဦးဆောင်သော ဒါယကာ ဒါယိကာမ များက အင်းစိန်မြို့ အနီးတွင် ကျောင်းတိုက် ဆောက်လုပ်လှူဒါန်းရာ အင်းစိန်ဆရာတော် ဦးပညာဟု အမည်တွင်ခဲ့သည်။

အင်းစိန်ကျောင်းတိုက်တွင် သီတင်းသုံး နေစဉ် သက်တော် ၈၉၊ သိက္ခာ ၆၉ ဝါရ ၁၉၃၄ ခုနှစ် စက်တင်ဘာလ ၁၆ ရက် တနင်္ဂနွေနေ့ နေ့လည် ၁၂း၁၀ နာရီတွင် တစ်ဘဝ တစ်ခန္ဓာ ချုပ်ငြိမ်းခဲ့ပါသည်။





## မိုးနံကုန်းဆရာတော်
## ရှင်ဇယန္တ
(၁၈၄၇ — ၁၉၁၃)

မြန်မာနိုင်ငံသာသနာဝင်တွင် ဝိနည်းအကျော် မိုးနံကုန်းဆရာတော် ဟု ထင်ရှားသည်။ ရတနာပုံခေတ် ပဌမသင်္ဂါယနာ သံဃာ့အဓိပတိ ဒက္ခိဏာရာမတိုက် ပထမဘုရားကြီးဆရာတော် ရှင်ဇာဂရ၊ ဝိနည်းကျင့်ဝတ် လည်းသန် ကျမ်းဂန်လည်း အထူးတတ်မြောက်သော သုဓမ္မာဝင် ဒုတိယ စလင်းဆရာတော် ရှင်ကေတုမာလာတို့၏ တပည့်ဖြစ်၍ မင်းတုန်းမင်း၏ မိဖုရားခေါင်ကြီး စကြာဒေဝီက ပစ္စည်းလေးပါး ဒါယကာခံသည်။ စလင်း တိုက်၏ ပထမစာတော်ချအဖြစ် ချီးမြောက်ခံရသည်။ ရဟန်း ၁၅ ဝါရတွင် ဇာတိ ရမည်းသင်းနယ် ပေကုန်းရွာပြန်ကြွ၍ မိုးနံကုန်းရွာ ဒက္ခိဏာရာမ တောင်ကျောင်း၌ ပရိယတ္တိစာပေပို့ချရာ ဝိနည်းကို အထူးအလေးထားခြင်း၊ ဝိနည်းပါဠိတော် အဋ္ဌကထာကို အမြဲပို့ချခြင်းတို့ကြောင့် ရမည်းသင်း မြောက်လက် မိုးနံကုန်းရွာ ဒက္ခိဏာရာမဆရာတော် ဟု ထင်ရှားခဲ့သည်။ သက်တော် ၆၀၊ သိက္ခာတော် ၄၀ ဝါအရတွင် တပည့်ကြီး ရှင်မေဓာဝီ၏ တိုက်တွန်းနှိုးဆော်မှုဖြင့် တောရဆောက်တည်ခဲ့သည်။ တောရဆောက် တည်ရာသို့ တပည့်ကြီး ၅၀ ခန့် ခိုမှီးလာရာ ဝိနည်းအလေးပေး ပရိယတ္တိ ပဋိပတ္တိတွဲသည့် ညောင်လွန့်တောရစာသင်တိုက် ပေါ်ထွန်းလာခဲ့သည်။ တပည့်ကြီး ရှင်မေဓါဝီမှာ နောင်အခါ ရဟန္တာဟု ကျော်ဇောသော ညောင်လွန့်ဆရာတော် ဖြစ်သည်။

ဖေယန္တ ရှင်၊ မိုးနံကုန်းဆရာတော် –

၁၈၄၇ ခုနှစ်တွင် ရမည်းသင်းမြောက်လက် (ပျော်ဘွယ်မြို့နယ်) ညောင်ပင်သာရွာ၌ ဖွားသည်။ အဖ ဦးအင်း အမိ ဒေါ်ဘုံကြီး (ဒေါ်အေး) ဖြစ်သည်။ ငယ်မည် မောင်မှုန် ဖြစ်သည်။

ပေကုန်းရွာ ဝန်းကျောင်းဘုန်းကြီး ရှင်ဉာဏထံ စတင်ပညာသင်သည်။ ဂဏန်းသင်္ချာ ကိုးကြောင်းလင်္ကာ၊ ဗေဒင်အခြေခံနှင့် ကစ္စည်းသဒ္ဒါ၊ အဘိဓမ္မတ္ထသင်္ဂဟကျမ်းတို့ သင်ယူသည်။ မိဘနှစ်ပါးက ရှင်ဒါယကာခံ၍ သာမဏေ ဖြစ်သည်။ ဥပဇ္ဈာယ်ဆရာမှာ ရှင်ဉာဏ။ သာမဏေဘွဲ့ ရှင်ဇေယန္တ ဖြစ်သည်။

ရှင်သာမဏေဖြစ်ပြီး ဥပဇ္ဈာယ်ဆရာ၏ လမ်းညွှန်မှုဖြင့် မန္တလေးမြို့တောင်ပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက်၌ ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။ ပထမဘုရားကြီးဆရာတော် ရှင်ဇာဂရ (၁၈၁၀—၁၈၇၄)၊ ဒုတိယ ဘုရားကြီးဆရာတော် ရှင်ပဏ္ဍိတ (၁၈၁၈—၁၈၈၄)၊ ညောင်ဦးဆရာတော် ရှင်သုတဗုဒ္ဓိ (၁၈၃၈—၁၈၈၀) တို့ထံ သင်ယူသည်။ သာမဏေဝတ်ဖြင့် မင်းတုန်းမင်းလက်ထက် ပထမပြန်စာမေးပွဲ ဝင်ရောက်ဖြေဆိုရာ ပထမငယ်၊ ပထမလတ်၊ ပထမကြီး အောင်မြင်သည်။ အသက် ၂၀ ပြည့်ချိန် ၁၈၆၇ ခုနှစ်တွင် ပထမ ဘုရားကြီးဆရာတော် ရှင်ဇာဂရကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဖြစ်သည်။ ဘွဲ့ ရှင်ဇေယန္တ ဖြစ်သည်။ ရဟန်းဒါယကာမှာ ပျော်ဘွယ်နယ် ဇီးတောရွာမှ ဦးဖိုးတူမိသားစု ဖြစ်သည်။

ရဟန်းဖြစ်ပြီး ဘုရားကြီးတိုက်မှာပင် စာပေ ဆက်လက်သင်ယူသည်။ ဘုရားကြီးတိုက်မှ တဖန် သုဓမ္မာဆရာတော် ၈ ပါးတွင် တစ်ပါး အပါအဝင်ဖြစ်သည့် ရာဇဂုရုတံဆိပ် သုံးတန်ရ ဒုတိယ စလင်းဆရာတော် ရှင်ကေတုမာလာ (၁၈၂၈—၁၈၈၈) ထံ ပြောင်းရွှေ့၍ ဝိနည်းငါးကျမ်းနှင့် အဘိဓမ္မာ ပါဠိတော် အဋ္ဌကထာ သင်ယူသည်။ စလင်းဆရာတော်မှာ မဟာဓမ္မိကာရာမ မြောက်စလင်းတိုက်နှင့် မဟာဝိဇိတာရာမ တောင်စလင်းတိုက် နှစ်တိုက်၏ အဓိပတိဖြစ်သည်။ ဝိနည်းကျင့်ဝတ်လည်းသန့် ကျမ်းဂန်လည်း အထူးတတ်မြောက်သည်ဟု ထင်ရှားသည်။ ရှင်ဇေယန္တသည် စလင်းဆရာတော်ထံ၌ ဝိနည်းနှင့်အညီ နေနည်းထိုင်နည်း နည်းခံ

သည်။ အခြား သံဃာများကိုလည်း စာဝါပြန်လည်ပို့ချရာ ပထမစာတော်ချ အဖြစ် ချီးမြှင့်ခံရသည်။ မင်းတုန်းမင်း၏ မိဖုရားခေါင်ကြီး စကြာဒေဝီက ပစ္စည်းလေးပါး ဒါယကာခံယူ၍ နေ့စဉ် ဆွမ်းအုပ်တစ်အုပ် ဆက်ကပ်ခံရသည်။ ၁၅ ဝါ ရသည့်တိုင် စလင်းတိုက်တွင် စာပေပို့ချ ပရိယတ္တိသာသနာပြုသည်။

မန္တလေးနေပြည်တော်၌ စာပေပို့ချရသည်ကို ငြီးငွေ့နေစဉ် ငယ်ဆရာ ဝန်းကျောင်းဘုန်းကြီး ရှင်ဉာဏ၏ အမိန့်အရ ၁၈၈၁ ခုနှစ်တွင် ဇာတိရမည်းသင်းနယ်ပြန်၍ သီတင်းသုံးသည်။ ဝါကျွတ်ချိန်တွင် ဆွေမျိုးများကို ချီးမြှောက်သောအားဖြင့် ပျော်ရွာနှင့် ပိတောက်ကုန်းရွာကြား ကျောင်းတည်၍ သီတင်းသုံးသည်။ ထို့နောက် တပည့်ရင်း ဦးဇောခေါ် ရှင်ဇောတအား ကျောင်းလွှဲအပ်ပြီး ငယ်ဆရာသီတင်းသုံးရာ ဝန်းကျောင်းပြန်၍ စာပေပို့ချသည်။ ၁၈၈၆ ခုနှစ်တွင် ငယ်ဆရာ၏ ခွင့်ပြုချက်အရ ပျော်ဘွယ်မြို့အရှေ့ဘက် မိုးနံကုန်းရွာ ဒက္ခိဏာရာမ တောင်ကျောင်း၌ စာသင်တိုက်ဖွင့်၍ စာပေပို့ချသည်။ ရမည်းသင်း၊ မိတ္ထီလာမှ စာသင်သားရဟန်းများ မန္တလေးမြို့ စာသင်သွားရာ မန္တလေးတောင်ပြင် ဒက္ခိဏာရာမဘုရားကြီးတိုက်ဆရာတော်များက "ဒီကျအောင် လာနေရသလား၊ မိုးနံကုန်းမှာ ဇယန်ပိန် ရှိသားပဲ၊ ဦးဇယန်ထံ သင်ယူကြလျှင် ပြီးရောပေါ့"ဟု မိန့်ဆိုရာ စာသင်သားများ မိုးနံကုန်းသို့ ရောက်လာကြသည်။ မိုးနံကုန်းရွာ ဒက္ခိဏာရာမတိုက်တွင် သီတင်းသုံး၍ စာပေပို့ချခြင်း၊ ဝိနည်းကို အလေးပေးလိုက်နာကျင့်သုံးခြင်း၊ ဝိနည်းငါးကျမ်း ပါဠိတော် အဋ္ဌကထာကို အမြဲပို့ချခြင်း၊ အနယ်နယ် အရပ်ရပ်မှ မေးလျှောက်လာသော ပုစ္ဆာများကို ဖြေကြားခြင်း၊ ကျမ်းပြုခြင်းတို့ဖြင့် ရမည်းသင်း မြောက်လက် မိုးနံကုန်းရွာ ဒက္ခိဏာရာမဆရာတော်ဟု ထင်ရှားခဲ့သည်။

မိုးနံကုန်းဆရာတော်၏ ဝိနည်းကျွမ်းကျင်မှု၊ ဝိနိစ္ဆယ အဆုံးအဖြတ် ပိုင်နိုင်မှုများကို အပိုင်း ၉ ပိုင်းဖြင့် တန်ဆာဆင်ထားသော 'တိပိဋက ပကိဏ္ဏက ဒီပနီကျမ်း' (၁၉၁၁) ဖြင့် သိနိုင်ပါသည်။ ဝိနိစ္ဆယအဆုံးအဖြတ်များကို စလင်းဆရာတော် ရှင်ကေတုမာလာ၊ ရှင်ကေတုမာလာ၏ ဆရာခင်မကန်ဆရာတော် ဦးပြားခေါ် ရှင်မဏိဇောတ တို့ထံမှရသော နည်းနိဿယတို့ကို အမှီပြု၍ ဆုံးဖြတ်သည်။ ၁၉၁၂ ခုနှစ်တွင် မန္တလေးမြို့

အထက်မြန်မာနိုင်ငံ မီးစက်ပုံနှိပ်တိုက်မှ တိပိဋကပကိဏ္ဏကဒီပနီကျမ်းကို ပထမအကြိမ် ပုံနှိပ်သည်။ ၁၉၂၈ ခုနှစ်တွင် ရန်ကုန်မြို့ ပြည်ကြီးမဏ္ဍိုင် ပိဋကတ်ပုံနှိပ်တိုက်မှ ထပ်မံပုံနှိပ်ခဲ့သည်။ ၁၉၂၈ ခုနှစ်မှာပင် ပြည်ကြီးမဏ္ဍိုင် ပုံနှိပ်တိုက်မှ မိုးနံကုန်းဆရာတော်၏ "သရဏာဒိဝိနိစ္ဆယနှင့် ဒါနာဒိဒီပနီကျမ်း" နှစ်စောင်တွဲကို ပုံနှိပ်ခဲ့ပါသည်။ သာသနာပိုင် တောင်ခွင်ဆရာတော် ရှင်ဝိသုဒ္ဓါသီလာစာရ က မိုးနံကုန်းဆရာတော်အား ရမည်းသင်းနယ် ရန်အောင်ဂိုဏ်းအုပ်အဖြစ် ခန့်အပ်ခဲ့သည်။ ရန်အောင်ဂိုဏ်းမှာ ဘိုးတော်ဘုရားလက်ထက် ရာဇဂုရုဘွဲ့တံဆိပ်ရ သာသနာပြုဆရာတော် ရှင်သာရမဥ္ဇူ ၁၇၈၅ ခုနှစ်က စတင်ခဲ့သော ဂိုဏ်းဖြစ်သည်။

သက်တော် ၆၀၊ သိက္ခာ ၄၀ ဝါအရ ၁၉၀၈ ခုနှစ် မတ်လ ၁၆ ရက် တနင်္လာနေ့တွင် တပည့်ကြီး ရှင်မေဓာဝီ၏ တိုက်တွန်းနှိုးဆော်မှုဖြင့် ဆရာတပည့်နှစ်ပါး တောထွက်ခဲ့သည်။ တပည့်ကြီး ဦးဇောခေါ် ရှင်ဇောတ သီတင်းသုံးရာ ပျော်ရွာတောကျောင်း၌ ဝါကပ်သည်။ တပည့်ကြီး ရှင်မေဓာဝီမှာ နောင်အခါ ရဟန္တာဟု ထင်ရှားသော ညောင်လွန့်ဆရာတော်ဖြစ်သည်။ တပည့်ရှင်ဇောတသည် ကျင့်ကြံအားထုတ်မှုအရာတွင် အလွန်ထင်ရှား၍ ပဋိပတ်အရာတွင် ညောင်လွန့်ဆရာတော်အလား ပေါက်မြောက်သည်ဟု ယူဆခံရသည်။ မိုးနံကုန်းဆရာတော်နှင့် တပည့်ကြီး ရှင်မေဓာဝီတို့ ပျော်ရွာတောကျောင်း၌ တောရဆောက်တည် ကျင့်ကြံအားထုတ်သည့် သတင်းကို ကြားသိကြသော မိုးနံကုန်းဆရာတော်၏ တပည့်ကြီး ၅၀ ခန့်သည်လည်း မိုးနံကုန်းဆရာတော်ထံ ဝင်ရောက်လာကြသည်။ ထိုသို့ ဆရာနှင့်အတူ တပည့်များ စပေါင်းသီတင်းသုံး၍ ပရိယတ်ပဋိပတ်ကျင့်ကြံ အားထုတ်ရာ ၁၉၀၉ ခုနှစ် ဇူလိုင်လ ၁ ရက် ကြာသပတေးနေ့တွင် တညီတညွတ်တည်း စုဝေးဆုံးဖြတ်၍ စည်းမျဉ်း ၁၂ ချက်နှင့်အညီ ဝိနည်းဦးစားပေး 'ညောင်လွန့်တောရကျောင်းတိုက်' ပေါ်ထွန်းလာပါသည်။ တပည့်ကြီး ၅၀ အား ဝိနည်းပါဠိတော်ကို အဋ္ဌကထာ၊ ဋီကာ၊ ဂဏ္ဌိ၊ အာစရိယဝါဒများဖြင့် ညှိ၍ စေ့စေ့စပ်စပ် ပို့ချသည်။ တပည့်ကြီး ရှင်မေဓာဝီကို စာဆို ရှင်ကဝိန္ဒ (နောင် တပ်ကုန်း ငွေတောင်တောရ ပထမဆရာတော်) အား စာထောက်သတ်မှတ်၍ ပို့ချသည်။ ထိုအချိန်က မိုးနံကုန်းစာသင်တိုက်၏ သတင်းသည် အလွန်ထင်ရှားခဲ့သည်။

မိုးနံကုန်းဆရာတော်၏ တပည့်ပေါင်းများစွာအနက် ညောင်လေးပင်မြို့ ကောက်ကွေ့ဝေဇယန္တာ ဆရာတော်၊ လယ်ဝေးမြို့ မြွေရိုးကြီးကျောင်းတိုက် ပတ္တပိုဏ်ဆရာတော် ရှင်အာစာရ၊ အဂ္ဂမဟာပဏ္ဍိတ ချောင်းဦးဓမ္မာရုံ ဆရာတော် ရှင်ဒီပမာလာ၊ တပ်ကုန်း ငွေတောင်တောရ ပထမဆရာတော် ရှင်ကဝိန္ဒနှင့် ညောင်လွန့်ဆရာတော် ရှင်မေဓာဝီတို့သည်ထင်ရှားကြသည်။ အထူးသဖြင့် မိုးနံကုန်းဆရာတော်၏ အားထားရာလက်ရုံးတပည့်ကြီး ရှင်မေဓာဝီသည် နောင်အခါ ရဟန္တာဟု အပူဇော်ခံရပါသည်။

ရှင်ဇယန္တသည် ဝိနည်းပိဋကတ်တော်ကို ပို့ချ၍ ပဋိပတ္တိကို ကျင့်ကြံအားထုတ်နေစဉ် သက်တော် ၆၅၊ သိက္ခာ ၄၅ ဝါအရ ၁၉၁၃ ခုနှစ် မတ်လ ၁၄ ရက် သောကြာနေ့ နေ့လည် ၁၂း၀၀ နာရီတွင် ဝမ်းသွန်သောရောဂါဖြင့် ညောင်လွန့်တောရ၌ တစ်ဘဝ တစ်ခန္ဓာ ချုပ်ငြိမ်းခဲ့ပါသည်။





# ကြောင်ပန်းဆရာတော်
## ရှင်ကုန္ဒက
(၁၈၆၀ — ၁၉၂၇)

ကိုလိုနီခေတ်ဦး မြန်မာနိုင်ငံ ပဋိပတ္တိသာသနာတွင် ကြောင်ပန်းဝိပဿနာ၊ ကြောင်ပန်းတရားနှင့်အတူ ကြောင်ပန်းဆရာတော် အမည်ဖြင့် ထင်ရှားသည်။ ကမ္ဘာကျော် လယ်တီဆရာတော်၏ လက်ရင်းတပည့်ကြီး ဖြစ်ရုံမျှမက လယ်တီဆရာတော်ကိုယ်တိုင် ရှင်ရဟန်း ဒါယကာခံ စောင့်ရှောက်ပျိုးထောင်ခဲ့သည့် ပဋိပတ္တိအမွေခံ တပည့်ရင်းဖြစ်သည်။ ပရိယတ္တိစာပေကို မန္တလေးမြောက်ပြင် စံကျောင်းတိုက်စာချ ရှင်ဉာဏ (လယ်တီဆရာတော်) နှင့် ရာဇဂုရုဘွဲ့ ၃ တန်ရ ဆီးဘန်နီဆရာတော်တို့ထံ သာမဏေ ၁ ဝါ၊ ရဟန်း ၁၀ ဝါရသည်တိုင် သင်ယူခဲ့သည်။ ပဋိပတ္တိကျင့်စဉ်ကို လယ်တီဆရာတော်၏ လမ်းညွှန်စောင့်ရှောက်မှုဖြင့် မဟာမြိုင် ဝက်ရဲတောတွင် ၆ နှစ် ကျင့်ကြံအားထုတ်ခဲ့သည်။ ကျင့်ကြံအားထုတ်မှုတွင် လယ်တီဆရာတော်၏ ကျေနပ်အားရမှုခံရကာ ပဋိပတ္တိသာသနာ ပြန့်ပွားရေးအတွက် တရားဟောပြောရန် တိုက်တွန်းခံရသည်။ ကြောင်ပန်းတရားတွင် တုံးနာမ် တိုင်နာမ်နှင့်ပတ်သက်၍ အငြင်းပွားရာ လယ်တီဆရာတော်က 'ကြောင်ပန်း၏ဉာဏ် လူသာမန် မှီရန်ခဲယဉ်းပါသကွာ' ဟု မိန့်ဆိုခဲ့သည်။ ကြောင်ပန်းဆရာတော်ကမူ 'ပဏ္ဍိခေါ် တောင်ပံနီတို့က၊ မောင်ကြဲစည် တုံးဟာရုပ်ပါလို့၊ ဟုတ်မလိုပြော။ ဝိညာဏ်၊ မာယူပမာဏ်လို့၊ ပိဏ္ဍောပမံ၊ သုတ္တန်က လင်းရက်ကနှင့်၊ ဗုဒ္ဓကိုရုပ်ခံလို့ ငြင်းကြလျှင် မင်းတို့သဘော' ဟု တုံ့ပြန်ခဲ့ပါသည်။

ကွန္တက၊ ရှင်၊ ကျောင်းပန်းဆရာတော် —

၁၈၆၀ ပြည့် စက်တင်ဘာလ ၁၇ ရက် တနင်္ဂနွေနေ့တွင် အလုံ စီရင်စု၊ ကျုံးပင်ချောင်ရွာ (မုံရွာခရိုင်၊ ဘုတလင်မြို့နယ်) ၌ ဖွားသည်။ အဖ တောင်သူ ဦးမြ၊ အမိ ဒေါ်ဒွေးလှိုင် ဖြစ်သည်။ မွေးချင်းနှစ်ယောက် တွင် အကိုကြီး၊ အမည် မောင်သံတူ တွင်သည်။

၆ နှစ်အရွယ်တွင် ကျုံးပင်ချောင် ရွာဦးကျောင်းဆရာတော် ရှင်မုနိန္ဒထံ စတင်ပညာသင်သည်။ ငယ်စဉ်ကပင် ဉာဏ်ထက်မြက်၊ စိတ်နေစိတ်ထား တည်ကြည်ငြိမ်သက်သည်။ ၁၄ နှစ်အရွယ်တွင် မိဘနှစ်ပါးက ရှင်ဒါယကာ၊ ငယ်ဆရာရင်း ရှင်မုနိန္ဒကို ဥပဇ္ဈာယ်ယူ၍ သာမဏေဖြစ်သည်။ ဘွဲ့ ရှင်ကွန္တက။ သာမဏေဝတ်ဖြင့် ရွာဦးကျောင်းတွင် ပညာသင်နေစဉ် ၃ ဝါရ၌ ဥပဇ္ဈာယ်ဆရာ ပျံလွန်သည်။ ဆရာတော်ဈာပနအပြီး ကိုရင် ကွန္တက မကျန်းမာ၍ လူထွက်ခဲ့ရသည်။

လူဝတ်ကြောင်ဘဝတွင် မိဘတောင်ယာလုပ်ငန်းကို ကူညီလုပ် ကိုင်ပေးရသည်။ သာမဏေပြန်ဝတ်ရန် ရည်ရွယ်နေစဉ် ဖခင်ကွယ်လွန် သည်။ မိခင်နှင့် ညီငယ်ကိုငဲ၍ တောင်သူလုပ်ငန်း ဦးစီးဆောင်ရွက်ရာ အသက် ၁၉ နှစ်တိုင် ဖြစ်သည်။

၁၉ နှစ်တွင် မိခင်၏ဆန္ဒကို ဆန့်ကျင်၍ စစ်ကိုင်းတောင် ညောင်ပင်သာချောင် ခေတ္တရောက်နေသော ရှင်ဉာဏထံ သာမဏေ ပြုသည်။ ရှင်ဉာဏက ပစ္စည်းလေးပါး ဒါယကာ၊ ဥပဇ္ဈာယ်ဆရာခံ၍ ချီးမြှောက်သည်။ သာမဏေဘွဲ့ ရှင်ကွန္တက ဖြစ်သည်။ ရှင်ဉာဏမှာ မန္တလေးမြောက်ပြင် စံကျောင်းစာချဖြစ်၍ နောင်အခါ လယ်တီဆရာ တော် ရှင်ဉာဏ (၁၈၄၆-၁၉၂၃) အဖြစ် အလွန်ထင်ရှားသည်။ သာမဏေဖြစ်ပြီး ရှင်ကွန္တကသည် ဥပဇ္ဈာယ်ဆရာနှင့်အတူ မန္တလေး မြောက်ပြင် စံကျောင်းတိုက်လိုက်ပါ၍ ပရိယတ္တိစာပေ သင်ယူသည်။

သာမဏေ ၁ ဝါရ ၁၈၈၀ ပြည့် ဝါကျွတ်ကာလ စာဝါနားချိန် တွင် ရှင်ဉာဏနှင့်အတူ စစ်ကိုင်းတောင် ညောင်ပင်သာချောင် လိုက်ပါ၍ ရဟန်းပြုသည်။ ရဟန်းဒါယကာ ရှင်ဉာဏ၊ ဥပဇ္ဈာယ်ဆရာ ညောင်ပင် သာချောင် ရေထွက်ဂူဆရာတော် ဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ကွန္တက။

ဥပဇ္ဈာယ် ရေထွက်ဂူဆရာတော်မှာ မန္တလေးမြောက်ပြင် မဟာခေမိကာ ရာမခေါ် သစ်ဆိပ်တိုက် ဒုတိယသစ်ဆိမ့်ဆရာတော် ရှင်ပညာသီဟ ဖြစ်၍ မြောက်ပြင်ခြသေ့်အဖြစ် ပရိယတ် ထင်ရှားသည်။ ပိဋကတ်သုံးပုံ ကျောက်ထက်အက္ခရာတင် ကျောက်စာပြင်ဆရာတော် ဖြစ်သည်။

ရဟန်းဖြစ်ပြီး ရှင်ဉာဏနှင့်အတူ စံကျောင်းတိုက် ခရေပင်ကျောင်း ပြန်၍ ပရိယတ်စာပေများ ဆက်လက်ဆည်းပူးသည်။ ရဟန်း ၂ ဝါရတွင် စံကျောင်းတိုက် မီးသင့်ခြင်း၊ တိုင်းရေးပြည်ရေး ရှုပ်ထွေးလာခြင်းများ ကြောင့် ရှင်ဉာဏမှာ မုံရွာ ရွှေစည်းခုံကျောင်းတိုက် ပြောင်းရွှေ့သည်။ ရှင်ကုန္တကမှာ ဓမ္မာစရိယဆရာရင်း ရှင်ဉာဏ၏ လမ်းညွှန်မှုဖြင့် မန္တလေး မှာပင် ဆီးဘန်နီဆရာတော် ရှင်နရိန္ဒ (၁၈၁၁—၁၈၈၈) ထံ မှီခို၍ ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။

ရဟန်း ၁၀ ဝါရ ၁၈၉၁ ခု ဧပြီလတွင် မုံရွာ လယ်တီတော၌ ကျောင်းတိုက်တည် စာပေပို့ချနေသော ဆရာရင်း လယ်တီဆရာတော်၏ အမိန့်ဖြင့် လယ်တီတိုက်၌ ပရိယတ္တိစာပေ ပို့ချသည်။ မုံရွာ လယ်တီ တိုက်တွင် ရှင်တိလောက (သေချေတောင် ဦးတိလောက)၊ ရှင်ဉာဏော ဘာသ (ဒုတိယလယ်တီ ဆရာတော်) တို့နှင့်အတူ လယ်တီစာချအဖြစ် ၇ နှစ် တာဝန်ထမ်းဆောင်ခဲ့သည်။ ၁၈၉၈ ခု မေလတွင် တောထွက် ပဋိပတ္တိ ကျင့်ကြံအားထုတ်သည်။ ပထမဦးစွာ ရေဦးမြို့ ငှက်ကျတောင် ဆရာတော်၊ ထို့နောက် ဘုတလင်နယ် ဝက်ရဲရွာအနီး မဟာမြိုင် တောတွင်းဝင်၍ ပဋိပတ္တိ ကျင့်ကြံအားထုတ်သည်။ သုံးနှစ်ခန့်အကြာ နာမ်တရားတို့၏ ဆန်းကြယ်မှုကို အဖြေရှာမရ၍ လယ်တီဆရာတော်ထံ '. . . နာမ်ရိပ်အစဉ် မှန်ရိပ်လို ပမာ တင်၍ ဉာဏ်ယှဉ်ကာ သမ္ဘဇည ရယ်နှင့် ဒဿနာဧကန္တကို မြင်ရမတုန်း' လေးချိုးဖြင့် အကူအညီ တောင်းခံသည်။ ထိုနှစ် ဝါတွင်းသုံးလ ကာလပတ်လုံး လယ်တီဆရာ တော်၏ အနီးကပ်စောင့်ရှောက်မှု ခံယူကာ ဝက်ရဲတောတွင်း၌ ကျင့်ကြံ အားထုတ်သည်။ ဝါကျွတ်လျှင် ဆရာတပည့်နှစ်ပါး အဖျားရောဂါကုသရန် ဘုတလင်ဗိုလ်တဲကြွ၍ ဆေးဝါးကုသမှု ခံယူသည်။ ထို့နောက် ဆရာနှင့် လမ်းခွဲ၍ ဝက်ရဲတောပြန်၍ ၃ နှစ်ခန့် ဆက်လက် ကျင့်ကြံအား ထုတ်သည်။

၁၉၀၃ ခုတွင် ဝက်ရဲတောမှခွာ၍ လေးမိုင်ခန့်အကွာ ကူတော၊ ရွာမွန်၊ ကတိုး၊ သုံးရွာကြား ကျောင်းပန်းတောရ ပြောင်းရွှေ့သီတင်းသုံးသည်။ ကိုယ်တိုင် ကျင့်ကြံအားထုတ်ရုံမျှမက ကိုယ်တွေ့ ဝိပဿနာ တရားကို စတင်ဟောပြောရာ ကျောင်းပန်းဆရာတော်ဟု အမည်တွင်လာသည်။ ကျောင်းပန်းတောရတွင် လေးဝါခန့် သီတင်းသုံး တရားဟောပြောခဲ့ရာ ကျောင်း၊ ဇရပ်၊ ရေတွင်း၊ ရေကန် တို့ဖြင့် ကျောင်းပန်းတောရသည် စည်ကားလာသည်။ ထိုစဉ်က ကျောင်းပန်းတောရ စည်ပင်ပုံကို သံချိုဆရာကြီး မောင်းထောင်ဦးကျော်လှက '. . . တစ်လုံးဂါတ်ကယ်နှင့်၊ ရုံးမှတ်ကာ ဌာနာထူတဲ့၊ ရွာရွှေကူ ရွှေမွန်ရေ့တွင်မှ၊ လွန်မွေ့စွာ အဘိညာဉ်ရှုပေတဲ့၊ ရှင်သုမေဓာသို့၊ ဒေသနာဝေကာ ပွားကြရအောင်၊ တရားဟောညွှန်တတ်ပေတဲ့၊ တောရမြတ်ထေပုဂ္ဂိုလ်. . .' ဟု ဖွဲ့ဆိုခဲ့သည်။ ၁၉၀၆ ခုတွင် ထင်ရှားလှသော 'ဝိဝဋ္ဋဒီပနီ' ကျမ်း ရေးသားခဲ့သည်။

၁၉၀၉ ခုတွင် ကျောင်းပန်းတိုက်ကြီးကို ချောင်းမီးတိုဆရာတော် ရှင်ကုလ္လဝံသကို လွှဲအပ်၍ တစ်ပါးတည်း အနယ်နယ်အရပ်ရပ် လှည့်လည် ကျင့်ကြံအားထုတ်သည်။ ဂျင်မယ်တောရတွင် ဝါကပ်နေရာမှ ၁၉၁၂ ခုတွင် ဘုတလင်မြို့ အနောက်တောင်ဘက် တစ်မိုင်ခန့်အကွာတွင် တောရ ပြောင်းရွှေ့ ဆောက်တည်ရာ နောင်အခါ ကျောင်းပန်းတောရဟု ထင်ရှားလာသည်။ ဘုတလင်မြို့ ကျောင်းပန်းတောရတိုက်ကို ဗဟိုပြု၍ ဘုတလင်၊ မုံရွာ၊ အလုံ၊ ဒီပဲယင်းမြို့နယ်အနှံ့ ကျောင်းပန်းဝိပဿနာတရားများ ဟောကြားခဲ့ရာ အချို့ပုဂ္ဂိုလ်များ၏ ဝေဖန်ဆန့်ကျင်မှုများနှင့် ကြုံတွေ့ခဲ့ရသည်။ ကျောင်းပန်းတရားတွင် တုံးနာမ်၊ တိုင်နာမ်နှင့် ပတ်သက်၍ အငြင်းပွားကြရာ လယ်တီဆရာတော်က 'ကျောင်းပန်း၏ဉာဏ် လူသာမန် မှီရန်ခဲယဉ်းပါသကွာ' ဟု မိန့်ဆိုခဲ့သည်။ ကျောင်းပန်းဆရာတော်ကမူ 'ပဏ္ဍိတ်ခေါ် တောင်ပံနိတို့က၊ မောင်ကြံ့စည် တုံးဟာ ရုပ်ပါလို့၊ ဟုတ်မလို ပြော။ ဝိညာဏ်၊ မာယူပမာဏ်လို့၊ ဝိဇ္ဇောပမံ၊ သုတ္တန်က လင်းရက်က နှင့်၊ ဗုဒ္ဓကိုရုပ်ခံလို့ ငြင်းကြလျှင် မင်းတို့သဘော' ဟု တုန့်ပြန်ခဲ့သည်။

ကျောင်းပန်းဆရာတော်သည် လယ်တီဆရာတော်၊ ဆီးဘန်နီ ဆရာတော်တို့၏ တပည့်ပီသစွာ ကဗျာလင်္ကာ အဖွဲ့အနွဲ့ ကျွမ်းကျင်သည်။ ပြုစုခဲ့သော ဝိဝဋ္ဋဒီပနီ (၁၉၀၇—၉)၊ ဝိပဿနာဒီပနီ (၁၉၁၀)၊

သဘာဝဒီပနီ (၁၉၁၁)၊ သုံးလောကဒီပနီ (၁၉၁၆)၊ ရတနာဒီပနီ (၁၉၁၇)၊ ကြောင်ပန်းဟောစဉ်ကျမ်း (၁၉၂၅) များကို နောင်အခါ စုပေါင်းပုံနှိပ်၍ 'ကြောင်ပန်း ၆ စောင်တွဲ' အမည်ဖြင့် ထင်ရှားသည်။

၁၉၂၃ ခု ဇွန်လ ၂၇ ရက်တွင် ပျဉ်းမနားမြို့၌ လယ်တီဆရာတော်ဘုရားကြီး ခန္ဓာဝန်စွန့်ပြီး လယ်တီဆရာတော်၏ ဒီပနီကျမ်းစာများ ကျောက်ထက်အက္ခရာတင်ရေးအတွက် အလှူငွေရှာဖွေရန် ဓမ္မကထိက ၅ ပါး ခန့်အပ်ရာ ကြောင်ပန်းဆရာတော်သည် တစ်ပါးအပါအဝင် ဖြစ်သည်။

သက်တော် ၆၈ သိက္ခာ ၄၈ ဝါရ ၁၉၂၇ ခု ဇန်နဝါရီလ ၅ ရက် ဗုဒ္ဓဟူးနေ့ နံနက် ၃း၀၀ နာရီတွင် ဘုတလင်မြို့ ကြောင်ပန်းတောရ တိုက်၌ ခန္ဓာဝန်ချခဲ့ပါသည်။





# ညောင်ချောင်းဆရာတော်
## ရှင်ဉာဏဝံသ
(၁၈၆၆ - ၁၉၄၁)

ကိုလိုနီခေတ်ဦး မြစ်ဝကျွန်းပေါ်မှ သထုံဒေသတိုင် ညောင်ချောင်းဆရာတော်၊ သံကြိုးဆရာတော်၊ နှုတ်ခမ်းမွေးဆရာတော် အမည်အမျိုးမျိုးဖြင့် ထင်ရှားခဲ့သော မြန်မာ့ကထိက ဆရာတော်ဖြစ်သည်။ ဒွါရဂိုဏ်းတည် အုဂ်ဖိုရ် ဆရာတော်နှင့် ဓနုဖြူသဒ္ဓမ္မဇောတိကာရာမတိုက် ဒုတိယဆရာတော်တို့၏ တပည့်ရင်းဖြစ်သည်။ ရဟန်း တစ်ဝါရကပင် သီရိလင်္ကာနိုင်ငံ၌ ဘာသန္တရ ဒေသန္တရ ပိဋကတ်စာပေများ သင်ယူခဲ့သည်။ သီရိလင်္ကာမှအပြန် ဗုဒ္ဓဝံသအဋ္ဌကထာကို လက်ရင်းထား၍ 'ဘုရားရုပ်ပွားတော်၌ နှုတ်ခမ်းမွေးရှိသင့်ကြောင်း ဟောပြော၍ ဥတ္တမင်္ဂဝိနိစ္ဆယစာတန်း၊ ဥတ္တမင်္ဂဝိနိစ္ဆယ ဋီကာ ရေးသားထုတ်ဝေခဲ့ရာ မန်လည်ဆရာတော်၏ "လုပ်ငန်းရယ်ပို၊ နှုတ်ခမ်းကို သူကြည်ညိုသတဲ့၊ သီဟိုဠ်ပြန်ဘုန်း။ ထင်တွေးပို၊ ဖင်မွေးတော် ဘယ်လိုဆိုပ၊ သီဟိုဠ်ပြန်ဆရာဉာဏ်ရဲ့၊ အပဒါန် ရွှေစာတန်းလို့ရယ်၊ ကျမ်းပြပါအုံး"ဟု သရော်ခံရသည်။ ပျို့ရွှယ်စဉ်က အတွေးထူး အတွေးဆန်း၊ ဉာဏ်ထူးဉာဏ်ဆန်း၊ အယူထူး အယူဆန်း၊ ကျမ်းထူး ကျမ်းဆန်းများကြောင့် ဝေဖန်စာချိုးခံရသော်လည်း ဘုရားဟော ပါဠိတော်များကို အမြဲလက်ကိုင်ပြု အချိန်ကာလကို ကုန်လွန်လေ့ရှိကြောင်း ရွှေကျင်နိကာယသာသနာပိုင် ရွှေဟသ်ာဆရာတော်က မှတ်တမ်းတင်ခဲ့ပါသည်။

ဉာဏဝံသ၊ ရှင်၊ ညောင်ချောင်းဆရာတော် —

၁၈၆၆ ခုနှစ် ဒီဇင်ဘာလ ၁၈ ရက် အင်္ဂါနေ့တွင် မအူပင်ခရိုင်၊ ဓနုဖြူမြို့နယ် ညောင်ချောင်းရွာ၌ ဖွားသည်။ အဖ ဦးရွှေခင် အမိ ဒေါ်မမ ဖြစ်သည်။ မွေးချင်းလေးယောက်တွင် အကြီးဆုံးဖြစ်၍ အမည် မောင်ဘိုးမောင် ဖြစ်သည်။

ညောင်ချောင်းရွာ ခါးပန်းနီကျောင်း (နောင် ကလျာဏီကျောင်း) ရှင်ပညာဝံသထံ စတင်ပညာသင်သည်။ ၁၁ နှစ်တွင် ရှင်ပညာဝံသကို ဥပဇ္ဈာယ်ယူ၍ သာမဏေဖြစ်သည်။ သာမဏေ ၉ ဝါရ အသက် ၂၀ တွင် ဓနုဖြူ တောင်ပေါ်ကျောင်းခေါ် သဒ္ဓမ္မဇောတိကာရာမတိုက် သိမ်၌ ရဟန်းဖြစ်သည်။ ဥပဇ္ဈာယ်ဆရာမှာ တောင်ပေါ်တိုက်တည် ဟင်္သာတ ဘုရားကြီးဆရာတော် ရှင်သာဂရဗုဒ္ဓိ (၁၈၄၉—၁၉၁၁) ဖြစ်သည်။ ရဟန်းဖြစ်ပြီး တောင်ပေါ်တိုက်၌ ဆက်လက်ပညာသင်သည်။

ရဟန်း တစ်ဝါရ ၁၈၈၈ ခုနှစ်တွင် အုတ်ဖိုရ်ဆရာတော် သီရိလင်္ကာ နိုင်ငံ စွယ်တော်ဖူးကြွရာ လိုက်ပါ၍ သီရိလင်္ကာနိုင်ငံ ကိုလံဘိုမြို့ မကုဋာ ရာမတိုက်တည် ရှင်ဝိနယာလင်္ကာရထံ နေရစ်ခဲ့သည်။ သီရိလင်္ကာနိုင်ငံ ကိုလံဘိုမြို့ ဝိဇ္ဇောဒယ ပရိဝေဏကကျောင်းတိုက် သီရိသုမင်္ဂလ ဆရာ တော် (၁၈၂၇ ၁၉၁၁) ထံ သုံးနှစ် သီတင်းသုံး၍ သီဟိုဠ်ဆရာတော်များထံ၊ သက္ကတ၊ ဘင်္ဂလီ၊ နာဂရီ၊ ဟိန္ဒီ၊ သီဟိုဠ်ဘာသန္တရနှင့် ပိဋကတ်စာပေများ သင်ယူသည်။ ၁၀ နှစ်ခန့်အကြာ မြန်မာပြည် ပြန်ခဲ့သည်။ မြန်မာပြည် ပြန်ရောက်ပြီး အုဂ်ဖိုရ်ဆရာတော်၊ မြန်အောင် ဂူကိုးလုံးဆရာတော်၊ မန္တလေး မြတောင်ဆရာတော်တို့ထံတွင် ထပ်မံ နည်းခံသင်ယူသည်။

၁၉၀၁ ခုနှစ် ဓနုဖြူမြို့ ဝါတွင်းတရားပွဲ၌ 'မြတ်စွာဘုရား၏ မျက်နှာ တော်၌ ဘုရားရှင်၏ လက်သစ်တော်အားဖြင့် နှစ်သစ်၊ ယခုခေတ်လူတို့၏ လက်သစ်အားဖြင့် ကိုးသစ်ပမာဏရှိသော မုတ်ဆိတ်မွေး၊ နှုတ်ခမ်းမွေး ရှိကြောင်း၊ ဘုရားရုပ်တုတော်များ၌ မုတ်ဆိတ်ကြင်စွယ်တော် တပ်သင့်ကြောင်း' ထည့်သွင်းဟောကြားခဲ့သည်။ တရားပွဲအပြီး ဒါယကာအချို့က ဘုရား ရုပ်တုတော်၌ မုတ်ဆိတ်ကြင်စွယ်တပ်သင့်ကြောင်း စာအုပ်စာတန်း ရေးသားပါရန် လျှောက်ထားခဲ့သည်။ ထို့ကြောင့် ၁၉၀၁ ခုနှစ်တွင်

ဟံသာဝတီပုံနှိပ်တိုက်က ရှင်ဉာဏဝံသ၏ "ဥတ္တမင်္ဂဝိနိစ္ဆယစာတန်း" ထုတ်ဝေခဲ့သည်။ ထိုစာတန်း ထွက်ပေါ်လာလျှင် အသုတ်လေးထပ်ကျောင်း ဆရာတော် ရှင်သုန္ဒရ က "မာသု ဒါဋ္ဌိက ဝိနိစ္ဆယစာတန်း"၊ သာသနာပိုင် ဦးဥဒဲ့ယျ၏တပည့် ပရက္ကမဆရာကြီး အမည်ခံပုဂ္ဂိုလ်က 'ဗုဒ္ဓုပဝါသုနိဂ္ဂဟ စာတန်း'တို့ဖြင့် ပြန်လည်ချေပ ဆန့်ကျင်ကြသည်။ မန်လည်ဆရာတော်ကမူ "လုပ်ငန်းရယ်ပို၊ နှုတ်ခမ်းကို သူကြည်ညိုသတဲ့၊ သီဟိုဠ်ပြန်ဘုန်း၊ ထင်တွေးပို၊ ဖင်မွေးတော် ဘယ်လိုဆိုပ၊ သီဟိုဠ်ပြန် ဆရာဉာဏ်ရဲ့၊ အပဒါန် ရွှေစာတန်းလို့ရယ်၊ ကျမ်းပြပါအုံး"ဟု စာချိုးခဲ့သည်။ ရှင်ဉာဏဝံသကလည်း ၁၉၀၂ ခုနှစ်တွင် ဟံသာဝတီတိုက်က "ဥတ္တမင်္ဂဝိနိစ္ဆယဋီကာ" ထပ်မံ ထုတ်ဝေခဲ့သည်။ ထိုအချိန်မှစ၍ နှုတ်ခမ်းမွေးဆရာတော်ဟု အမည်တွင် ခဲ့သည်။

ရှင်ဉာဏဝံသသည် ပါဠိ၊ သက္ကတ၊ သဒ္ဒါကျမ်းများမှ ထုတ်နုတ်၍ သဒ္ဒလိလာကျမ်း၊ ဂဗ္ဗလီလာကျမ်း (၁၈၉၈)၊ သီလဝိသုဒ္ဓိကထာကျမ်း၊ က္ကရိယာပထကောသလ္လကျမ်း၊ အမ္ဗုလဒီပနီကျမ်း၊ သာသနာနုဂ္ဂဟ စာတန်းများ ရေးသားခဲ့သည်။ သီလဝိသုဒ္ဓိ ကထာကျမ်းတွင် အဟိဖေဏက ခေါ်အပ်သော ဘိန်းသည် သူရာငါးပါး၊ မေရိယငါးပါးတွင် မပါ၊ ဥပုဒ် သည်များ သုံးစွဲအပ်ကြောင်း။ က္ကရိယာပထကောသလ္လ ကျမ်းတွင် တင်ပလ္လင်ခွေသော က္ကရိယာပုဒ်ဖြင့် တရားနာသော်လည်း အဂါရဝ မဖြစ်၊ ဂါရဝသာဖြစ်ကြောင်း ရှင်းလင်းရေးသားထားသည်။ ရှင်ဉာဏဝံသသည် အတွေးထူး၊ အရေးဆန်း၊ ဉာဏ်ထူးဉာဏ်ဆန်းများကြောင့် တစ်မူထူးခြား ခဲ့သည်။ အသံဩဇာကောင်း၍ အကြောင်းအရာတိုင်းကို နှုတ်မဆိတ်တမ်း၊ နားထောင်ကောင်းအောင် ပြောနိုင် ဟောနိုင်၏။ လောကရေး၊ ဓမ္မရေး တို့တွင် ဗဟုသုတကြွယ်ဝ၍ တန်ဖိုးပွတ္တိ ဉာဏ်ကောင်းသည်။ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ နှံ့စပ်၍ ထင်ရှားသော ဓမ္မကထိကတစ်ပါး ဖြစ်သည်။ တရားဟောရာတွင် သက်န်းရုံလျက် အပိုစကားမပါ၊ အသံချဲ့စက်မပါဘဲ တရားနာပရိသတ် တစ်ထောင်ကျော်ကို ပေါက်အောင် ဟောနိုင်သည်။ အသံဩဇာပြည့်စုံ၍ က္ကန္ဒြေရရ တည်တည်ငြိမ်ငြိမ် ဟောလေ့ရှိသည်။

၁၉၁၂ ခုနှစ်က ဝေဠုဝန်ဆရာတော် ရှင်ပဏ္ဍာဝံသ (၁၈၆၅— ၁၉၄၃) သာယာဝတီခရိုင် ထိန်တောမြို့ ဝေဠုဝန်တိုက်၌ သီတင်းသုံးနေစဉ်

ဟဒယဝတ္ထု ဝိနိစ္ဆယနှင့်ပတ်သက်၍ ဆွေးနွေးရာ ဝေဠုဝန်ဆရာတော် ထံမှ ပါဠိတော်စကားကိုသာ ကြားချင်ပါသည်၊ အဋ္ဌကထာ၊ ဋီကာစကား မပြောပါနှင့်ဟု စကားခံ တောင်းဆိုခဲ့သည်။ ဝေဠုဝန်ဆရာတော်မှာ ဂူသုံးလုံးဆရာတော်ထံတွင် ပညာသင်ဖက်ဖြစ်၍ အဘိဓမ္မာအရာတွင် အလွန် ကျွမ်းကျင်နိုင်နင်းသည်။ မူလဋီကာပို့ချရာတွင် အလွန်ထင်ရှား သည်။ အဘိဓမ္မာအကျော် မြို့ပြင်ကြီးဆရာတော် ရှင်စန္ဒဝံသနှင့် ပြည်မြို့ ပွင့်လှသိမ်ကုန်းဆရာတော် ရှင်နာရဒတို့၏ တပည့်ကြီးဖြစ်သည်။ ဝေဠုဝန် နိကာယ၏ ဒုတိယမြောက် အဓိပတိဖြစ်သည်။ ထို့ကြောင့် ညောင်ချောင်း ဆရာတော်သည် ဝေဠုဝန်ဆရာတော်ထံမှ ပါဠိတော်စကားကိုသာ တောင်းခံ ခဲ့ခြင်းဖြစ်သည်။

၁၉၂၆ ခုနှစ်က ဟင်္သာတမြို့တွင် ရာဇဝတ်ဝန်ကလေး စိဒန်တရာ အမှုပြုသော တရားနာပရိသတ်အပေါင်းကို တရားဟောရာ တရားအဆုံး၌ ယခုဟောကြားအပ်သော ဗျာဒိတ်တော်စကားတို့ကို နောင်လာနောက်သား တို့ ကောင်းစွာ သတိပြုမိစေရန် သထုံခရိုင်၊ ဘီးလင်းမြို့နယ် ကေလာသ တောင်ထိပ်၌ "အဟောအစ္ဆရိယာဝတ သောဏုတ္တရာယစေတီကျောက်စာတိုင်" စိုက်ထူမည်ဖြစ်ကြောင်း မိန့်ကြားခဲ့ရာ ပုသိမ်မြို့ မင်းကတော်ကြီး မမိက ဒါယကာခံ၍ ကျောက်စာတိုင် စိုက်ထူခဲ့သည်။ ကျောက်စာပါ စကားကို အကျယ်ချဲ့ ကျမ်းစာရေးသားပါရန် ဒါယကာများက ထပ်မံလျှောက်ထားရာ "သောဏုတ္တရာယစေတီကျောက်စာ" စာတမ်းရေးသားခဲ့သည်။ ထိုစာတမ်းတွင် ဆကေသဓာတုဝင်ကို ကိုးကား၍ "သာသနာ တစ်ဝက်ကျော်လျှင် (၁၉၅၆) သထုံခရိုင် ဘီးလင်းဒေသ၌ ဆံတော်ရှင်စေတီ ၆ ဆူ ထင်ရှားစွာ ပေါ်ထွန်း မည်။ ကြီးစွာသော ပူဇော်သက္ကာယ ပြုကြလတ္တံ့"ဟု ဖော်ညွှန်းခဲ့သည်။

ပရိယတ္တိ ဝိသာရဒ၊ ဂန္ထန္တရဝဟုသုတ၊ ဘာသန္တရကောဝိဒဖြစ်သော ဓမ္မကထိကအကျော် ညောင်ချောင်းဆရာတော် ရှင်ဉာဏဝံသသည် သက်တော် ၇၅ သိက္ခာ ၅၆ ဝါရ ၁၉၄၁ ခု နိုဝင်ဘာလ ၁၁ ရက် ကြာသပတေးနေ့ နေ့လည် ၁၂၀၀ နာရီတွင် တစ်ဘဝ တစ်ခန်းခွာ ချုပ်ငြိမ်း ခဲ့ပါသည်။





## မင်းကွန်းဇေတဝန်ဆရာတော် ရှင်နာရဒ

(၁၈၆၉ — ၁၉၅၅)

မြန်မာနိုင်ငံသာသနာဝင်တွင် ပရိယတ်ပဋိပတ် စွယ်စုံထင်ရှား သည်။ ရဟန်း ၆ ဝါရတွင် ကိုယ်တိုင်ကျမ်းပြုရပါက အဋ္ဌကထာကျမ်း ကိုသာ စီရင်မည်ဟု ကြုံးဝါးခဲ့သည်။ ကြံရွယ်သည့်အတိုင်း သက်တော် ၅၂ တွင် ပါဠိဘာသာဖြင့် 'ပေဋကောပဒေသ အဋ္ဌကထာ'ကို စီရင်ခဲ့သည်။ ယင်းပေဋကောပဒေသ အဋ္ဌကထာပါဠ်ကို ရသေ့ကြီး ဦးခန္တီ က မန္တလေး စန္ဒာမုနိဘုရား၌ ကျောက်ထက်အက္ခရာတင်ခဲ့သည်။ ထို့ပြင် ပခုက္ကူ မဟာဝိသုတာရာမတိုက်တည် ရေစကြိုဆရာတော် ရှင်ဂန္ဓသာရ၏ 'ကင်္ခါဝိတရဏီ အဋ္ဌကထာနိဿယ'ကို ကျေနပ်အားရ နှစ်သက်လှသဖြင့် ရှင်ဂန္ဓသာရ၏ နည်းကိုမှီး၍ 'ဝိသုဒ္ဓိမဂ်အဋ္ဌကထာနိဿျ'ကိုလည်း စီရင် ခဲ့သည်။ သက်တော် ၇၀ တွင် မိုးညှင်းဆရာတော်၏ မေတ္တာရပ်ခံချက်အရ အဖွင့်ကျမ်း မရှိသေးသော မိလိန္ဒပဥှာအဋ္ဌကထာကို နိဿယ ဖွင့်ဆိုခဲ့ရာ အဋ္ဌကထာကျမ်းပြုဆရာတော်ဟု ထင်ရှားပါသည်။ ပဋိပတ်နှင့် ပတ် သက်၍ တိမ်မြုပ်နေသော (သတိပဋ္ဌာန်နည်း)ကို ပြန်လည်ဖော်ထုတ်ပြီး မြန်မာပြည်အနှံ့ ပြန့်နှံ့စေခဲ့သည်။ ကိုယ်တိုင်လည်း ရဟန္တာအလား ထင်ရှား၍ ခန္ဓာဝန်ချပြီး မီးသင်္ဂြိုဟ်ရာ ဓာတ်တော်များ ကျန်ရစ်ခဲ့သည်။ ပဋိပတ္တိအမွေခံတပည့်များအနက် မဟာစည်ဆရာတော်နှင့် တောင်ပုလု ဆရာတော် နှစ်ပါးသည် အထူးထင်ရှားပါသည်။

နာရဒ၊ ရှင်၊ မင်းကွန်းဇေတဝန်ဆရာတော် —

၁၈၆၉ ခုနှစ် ဇန်နဝါရီလ ၁၇ ရက် စနေနေ့တွင် စစ်ကိုင်းတိုင်း မင်းကွန်းအနောက်ဘက် ကန်ကြီးကုန်းရွာ၌ ဖွားသည်။ အဖ ဦးညို အမိ ဒေါ်ပိုင် ဖြစ်သည်။ မွေးချင်းလေးယောက်တွင် ဒုတိယမြောက်၊ တစ်ဦး တည်းသော သားဖြစ်သည်။ အမည် မောင်သာဗျော တွင်သည်။

အသက် ၈ နှစ်တွင် ကန်ကြီးကုန်းရွာ စော်ကဲကျောင်းဆရာတော်ထံ စတင်ပညာသင်သည်။ ဉာဏ်ထက်၍ ဖွဲ့လုံ့လကြီးသည်။ ၁၂ နှစ်တွင် ဗုဒ္ဓ ဘာသာအခြေခံစာများ၊ သဒ္ဒါကြီးရှစ်စောင်နှင့် အဘိဓမ္မာ မာတိကာ ညဝါ ကျမ်းများ သင်ယူသည်။ ၁၄ နှစ်တွင် မိဘနှစ်ပါးက ရှင်ဒါယကာပြု၍ သာမဏေ ဖြစ်သည်။ ဘွဲ့ရှင်နာရဒ၊ ဥပဇ္ဈာယ်ဆရာမှာ စော်ကဲဆရာတော် ဖြစ်သည်။ သာမဏေဝတ်ဖြင့် ဝိနည်းငါးကျမ်း သင်ယူခဲ့သည်။

သာမဏေ ၄ ဝါရတွင် မိဘနှစ်ပါး ကွယ်လွန်၍ လူဝတ်လဲသည်။ အသက် ၂၀ တွင် နောင်တော်ဝမ်းကွဲ မန်ကျည်းတောစုကျောင်း ဆရာတော် ရှင်လက္ခဏထံ သာမဏေပြန်ဝတ်သည်။ ထို့နောက် ရှင်လက္ခဏကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဖြစ်သည်။ ရဟန်းဒါယကာမှာ ကျောက်ပန်းရွာ အဒေါ် ဝမ်းကွဲ ဒေါ်အံဇာ၊ ဦးပေါ်စမိသားစုဖြစ်သည်။ ရဟန်းဘွဲ့ ရှင်နာရဒ၊ ရှင်လက္ခဏထံမှာပင် ပါဠိတော် အဋ္ဌကထာ ဋီကာများ ဆက်လက်သင်ယူ သည်။ ထို့နောက် မင်းကွန်း ဦးပုကြီးတောင်ပေါ်ကျောင်းတိုက် သုံးဂိုဏ်းချုပ် ဆရာတော် ရှင်ရာဇိန္ဒထံ ပရိယတ္တိစာပေ သင်ယူသည်။ မင်းကွန်းမှတစ်ဖန် မန္တလေးမြို့ မိုးကောင်းတိုက် ဒက္ခိဏာရာမဘုရားကြီးတိုက်၊ မြတောင်တိုက် တို့တွင် ပိဋကတ်ပါဠိတော်၊ အဋ္ဌကထာ ဋီကာတို့ ဆက်လက်သင်ယူသည်။

မန္တလေးမှ မြန်မာပြည်အောက်ပိုင်း ရွှေတောင်မြို့ ဝေဠုဝန် ကျောင်းတိုက် ဝေဠုဝန်ဆရာတော် ရှင်ပဏ္ဍဝံသ (၁၈၆၅—၁၉၄၃) ထံ ပြောင်းရွှေ့ ပရိယတ္တိစာပေသင်ယူသည်။ ရာသီဥတုနှင့် ကျန်းမာရေး မမျှတ၍ မင်းကွန်းတောင်ပေါ်ကျောင်းတိုက် ပြန်လည်သီတင်းသုံး စာပေ ပို့ချသည်။ ရဟန်း ၆ ဝါရတွင် လယ်တီဆရာတော် ရှင်ဉာဏ (၁၈၄၆— ၁၉၂၃) စီရင်သော 'ပရမတ္ထဒီပနီဋီကာ' ကျမ်းကို တွေ့မြင်ရရာ မိမိသာ ကျမ်းပြုလျှင် ဋီကာမပြုဘဲ အဋ္ဌကထာကိုသာ စီရင်မည်ဟု ကြံစည်ခဲ့သည်။

ထိုသို့ကြံရွယ်နေစဉ် တစ်ည 'အောက်သွားများ ပြုတ်ကျ' သည်ဟု အိပ်မက် မက်သည်။ အိပ်မက်ကိုစွဲ၍ လူဝတ်လဲသည်။ တစ်နှစ်ခန့်အကြာ မင်းကွန်း အလယ်တောရဆရာတော် ရှင်မဇ္ဈိမသာရ၏ ဟောပြောဆုံးမမှုကြောင့် ရဟန်းပြန်ဝတ်သည်။ ဥပဇ္ဈာယ်ဆရာမှာ တောင်ပေါ်ကျောင်း ဆရာတော် ရှင်ရာဇိန္ဒ ဖြစ်သည်။

ရဟန်းပြုပြီး တောင်ပေါ်ကျောင်းတိုက်၌ လက်ထောက်စာချအဖြစ် စာပေပို့ချသည်။ ထို့နောက် မြန်မာပြည်အောက်ပိုင်း လက်ပံတန်းမြို့ ပြောင်း၍ စာပေပို့ချသည်။ ပရိယတ္တိစာပေပို့ချမှုကို သံဝေဂရကာ မင်းကွန်း အလယ်တောရဆရာတော်ထံ ပြန်လည်သီတင်းသုံး၍ စာပေကြည့်ရှုလေ့လာသည်။ ထိုသို့ စာပေကြည့်ရှုနေစဉ် အလယ်တောရဆရာတော်၏ 'သံသရာဝဋ်ဆင်းရဲမှ လွတ်မြောက်ရေးတရားမှာ သတိပဋ္ဌာန်တရား'သာ ဖြစ်ကြောင်း သတိပေးဆုံးမမှုကို နာကြားရရာမှ ပဋိပတ္တိသို့ ကူးပြောင်းခဲ့သည်။ အလယ်တောရဆရာတော် ရှင်မဇ္ဈိမသာရ မှာ သီးလုံးဆရာတော် ရှင်စန္ဒိမာ၏ တပည့်တပါးဖြစ်၍ အနာဂါမ်ဆရာတော်ကြီးဟု ထင်ရှားပါသည်။ ရှင်နာရဒ ၁၀ ဝါရတွင် အလယ်တောရ အနောက်ဘက် လေးဖာလုံကွာ၌ ကမ္မဋ္ဌာန်းကျောင်းငယ်ဖြင့် တစ်ပါးတည်း ကျင့်ကြံအားထုတ်သည်။ ထိုမှတဖန် လူသူ ပိုမိုကင်းဝေးရာ အလယ်တောရ သမုံချပ်ချောင် ပြောင်းရွှေ့ကျင့်ကြံသည်။ သက်တော် ၄၀ တွင် တရားရခဲ့သည်။

ရှင်နာရဒသည် သတိပဋ္ဌာန်တရားတော်အရ 'သွား သွားတယ် မှတ်၊ ရပ် ရပ်တယ် မှတ်၊ ထိုင် ထိုင်တယ် မှတ်၊ အိပ် အိပ်တယ် မှတ်'ဟု အမှတ်တရားကို အလေးပေး၍ ဟောပြောသည်။ မင်းကွန်းနှင့် မွေးရပ်ဇာတိတွင် သတိပဋ္ဌာန်တရားတော်အတိုင်း ဟောပြောရာ ကဲ့ရဲ့ရှုတ်ချမှုများကိုသာ ကြုံတွေ့ရသည်။ သို့သော် သတိပဋ္ဌာန်တရားကို ဆက်လက် ဟောပြောရာ မန္တလေးမြို့ မြောက်ပြင် သူရဲဈေးရပ် ပွဲစားကြီး ဦးသစ်၊ ပွဲကတော် ဒေါ်ကျော့ ဇနီးမောင်နှံသည် ပထမဆုံး ယုံကြည်ကျင့်ကြံသော တပည့်များ ဖြစ်လာသည်။ ထို့နောက် မြို့လှမှ ဦးစံဒွန်း၏ ပင့်လျှောက်မှုဖြင့် မြို့လှ ဗိုလ်တဲကုန်း ကမ္မဋ္ဌာန်းဌာန၌ ၂ နှစ်ခန့် သတိပဋ္ဌာန်တရား ဟောပြောသည်။ မြို့လှမှ ရေတာရှည်၊ သာဂရ၊ ဆွာ၊ ဖြူး၊ ဒိုက်ဦး၊ တောင်ငူ၊ ညောင်လေးပင်၊ ပဲနွယ်ကုန်း၊ ကညွတ်ကွင်း၊ ပဲခူး၊ မအူပင်၊

ဟသ်ာတ၊ နတ္တလင်း၊ ကြို့ပင် ကောက်၊ ရွှေတောင်၊ ပြည်၊ ဖျဉ်းမနား၊ ပျော်ဘွယ်မြို့တို့၌ သတိပဋ္ဌာန် အလုပ်ပေးတရားကို ဟောကြားခဲ့သည်။ အချို့ဒေသများတွင် ဆန့်ကျင် ကန့်ကွက်မှု၊ ရှုံ့ချမှုများ ကြုံတွေ့ရသည်။

၁၉၁၃ ခုနှစ်တွင် မော်လမြိုင်က ပင့်လျှောက်၍ ကြွရာ ရထားပေါ်၌တွေ့ရသော သထုံမေယဝန် အောက်ကျောင်းဘုန်းကြီး ရှင်ကေလာသ၏ လျှောက်ထားချက်အရ သထုံမြို့၌ သတိပဋ္ဌာန်တရား ဟောပြောသည်။ ၁၉၁၄ ခုနှစ်တွင် မေယဝန်ကျောင်းတိုက်မှ သာသနပဋ္ဌောတိကတိုက်၊ ထိုမှ ယခု ဇေတဝန်ကျောင်းဟု ထင်ရှားမည့်နေရာ၌ အငြိမ်းစားအရေးပိုင် ဦးဘိုးစနှင့် ဒါယကာ ဒါယိကာမများ စုပေါင်း၍ ကမ္မဋ္ဌာန်းကျောင်းတိုက် တည်ခဲ့သည်။ ဇေတဝန်ကျောင်းတိုက်တွင် 'သတိပဋ္ဌာန်တရား' ပြသရာ တဖြည်းဖြည်း ထင်ရှား၍ မင်းကွန်းဇေတဝန်ဆရာတော်ဟု အမည် ထွက်ပေါ်လာသည်။

၁၉၂၀ ပြည့်နှစ်တွင် မင်းကွန်းဂူကလေးချောင်ကို ပြန်လည် သီတင်းသုံးသည်။ ငယ်ရွယ်စဉ်က ကြံရွယ်ခဲ့သော 'အဋ္ဌကထာကျမ်း' ပြုရေး အတွက် ပေဋကောပဒေသ ပါဠိတော်ကို အာဂုမ်ဆောင်၍ ပါဠိဘာသာ ဖြင့် ပေဋကောပဒေသ အဋ္ဌကထာ ပြုစုရာ ၁၉၂၄ ခုနှစ်တွင် ကျမ်းပြီး ခဲ့သည်။ ယင်းအဋ္ဌကထာပါဠိကို ၁၉၂၆ ခုနှစ်တွင် မန္တလေးမြို့ ရတနာ သိဒ္ဓိ ပိဋကတ်ပုံနှိပ်တိုက်မှ ပုံနှိပ်ထုတ်ဝေသည်။ ရသေ့ကြီးဦးခန္တီက မြန်မာပြည်ဖြစ် အဋ္ဌကထာကျမ်းကြီးကို မန္တလေး စန္ဒာမုနိဘုရားတွင် ကျောက်ထက်အက္ခရာ တင်ခဲ့သည်။ တရားထူးရရာ မင်းကွန်းချောင်တွင် ၁၉၂၆ ခုနှစ်၌ 'ဇေတဝန်ကျောင်းသစ်' တည်၍ အနယ်နယ် အရပ်ရပ်မှ ကမ္မဋ္ဌာန်းပြု တပည့်များအား 'ဝိသုဒ္ဓိမဂ်အဋ္ဌကထာ'ကို ပို့ချသည်။ ၁၉၂၇ ခုနှစ်တွင် သထုံပြန်၍ သီတင်းသုံးသည်။

သထုံမြို့ ဇေတဝန်ကျောင်းတိုက်၌ သီတင်းသုံးနေစဉ် ပေါင်တော်ကူး ဆရာတော်၊ ချမ်းသာကြီးဆရာတော်နှင့် ရသေ့ကြီးဦးခန္တီတို့၏ တောင်းပန် လျှောက်ထားချက်အရ 'ပေဋကောပဒေသ အဋ္ဌကထာ'ကို နိဿယ ပြန်ဆိုသည်။ ပထမတွဲကို ၁၉၂၈၊ ဒုတိယတွဲကို ၁၉၃၅၊ တတိယတွဲကို ၁၉၃၆ ခုနှစ်တွင် နိဿယ ပြန်ဆို ပြီးစီးခဲ့သည်။ ပေဋကောပဒေသ အဋ္ဌကထာ နိဿယ ပထမတွဲကို ၁၉၃၅ ခုနှစ်တွင် မြန်မာပိဋကတိုက်၊

ဒုတိယတွဲနှင့် တတိယတွဲကို ၁၉၃၇ ခုနှစ်တွင် မြန်မာဇေယျာပုံနှိပ်တိုက်တို့က ပုံနှိပ်ထုတ်ဝေခဲ့သည်။ ပေဋကောပဒေသ အဋ္ဌကထာနိဿယ ပထမတွဲပြုစုပြီး ၄ နှစ်အကြာ ၁၉၃၂ ခုနှစ်တွင် မော်လမြိုင်တောင်ဝိုင်းလေးမှ ရှင်သောဘဏ (နောင်အခါ မဟာစည်ဆရာတော်)၊ ၁၉၃၈ ခုနှစ်တွင် သာစည်မြို့ ရေလယ်ကျောင်းမှ ရှင်နန္ဒိယ (နောင် တောင်ပုလုဆရာတော်) တို့ ရောက်ရှိ၍ သတိပဋ္ဌာန်တရား နည်းခံခဲ့သည်။ ၁၉၃၈ ခုနှစ်မှာပင် မိုးညှင်းဆရာတော် ရှင်သုမန တောင်းပန်၍ 'မိလိန္ဒပဉ္စာအဋ္ဌကထာ' ကို ပါဠိဘာသာဖြင့် ပြုစုရာ ၁၉၄၁ တွင် ပြီးစီးသည်။ ၁၉၄၈ ခုနှစ်တွင် ရန်ကုန်မြို့ ပဋိပတ္တိသာသနာ့နုဂ္ဂဟ အသင်းကြီးက ပုံနှိပ်ထုတ်ဝေခဲ့သည်။ မိလိန္ဒပဉ္စာ အဋ္ဌကထာကျမ်း ထွက်ပေါ်လာသောအခါ ကျမ်းပါ 'ဘိက္ခုနီမ' နှင့် ကထိန်ကဏ္ဍများနှင့်ပတ်သက်၍ မကျေနပ်မှုများ ပေါ်ပေါက်လာရာ ကထိန်နိဿယကို ထပ်မံရေးသားခဲ့သည်။

မင်းကွန်း ဇေတဝန်ဆရာတော်သည် မူလက ရွှေကျင်ဂိုဏ်းဝင်ဖြစ်သည်။ နောင်အခါ ပဋိပတ်ကို အလေးပေးရာမှ ရွှေကျင်ဂိုဏ်းမှ ဂဏဝိမုတ်အဖြစ် နုတ်ထွက်ခဲ့သည်။ ပရိယတ္တိဆိုင်ရာ ထင်ရှားလှသော ပါဠိအဋ္ဌကထာကျမ်းကြီး နှစ်ကျမ်းအပြင် ဝိသုဒ္ဓိမဂ် အဋ္ဌကထာနိဿျသစ်၊ တောလေးဆယ်ဖွင့်၊ နိဗ္ဗာနကထာ၊ မူလ ပရိယာယသုတ် နိဿယ၊ ဝိပဿနာဉာဏ်စဉ်ကျမ်းကြီး စသော ကျမ်းပေါင်း ၂၀ ကျော် ပြုစုခဲ့သည်။ ပဋိပတ္တိနည်းခံ တပည့်များအနက် မဟာစည် ဆရာတော် ရှင်သောဘဏ နှင့် တောင်ပုလုဆရာတော် ရှင်နန္ဒိယတို့အပြင် ပဲခူး ဆံတော်တွင်း ဆရာတော် ရှင်ကေလာသ၊ အင်းစိန် မင်းကွန်းဆရာတော် ရှင်ဝိသုဒ္ဓ၊ မော်လမြိုင် မြို့ပေါက်ဝ သတိပဋ္ဌာန်ဆရာတော် ဦးပဏ္ဍဝံသ၊ တောင်တွင်းဘိက္ခုအမည်ခံ ဒုတိယမူလမင်းကွန်းဆရာတော် ရှင်တိက္ခာစာရ၊ ဆရာကြီး ဦးမြတ်ကျော်၊ မြို့လှမြို့ ဆရာကြီးဦးထွန်းတို့သည် ထင်ရှားသည်။ မင်းကွန်း ဇေတဝန် သတိပဋ္ဌာန် ဌာနခွဲပေါင်း ၁၀၀ ကျော် ကျန်ရစ်သည်။

မင်းကွန်း ဇေတဝန်ဆရာတော်သည် သက်တော် ၈၇ သိက္ခာ ၆၀ ဝါအရ ၁၉၅၅ ခုနှစ် မတ်လ ၁၈ ရက် သောကြာနေ့ နေ့လည် ၁၂း၃၀ နာရီတွင် သထုံမြို့ မင်းကွန်း ဇေတဝန်ကျောင်းတိုက်၌ တစ်ဘဝ ချုပ်ငြိမ်းခဲ့သည်။



## မိုးညှင်းဆရာတော်
## ရှင်သုမန
(၁၈၇၃ — ၁၉၆၄)

ဝိနည်းအကျော် သုံးဂိုဏ်းချုပ် ခင်မွန်ဆရာတော်၊ ကျင့်ကြံမှု ဖွဲ့လုံ့လအကျော် ရေစကြို ဂူဖြူဆရာတော်၊ ဘုရားငယ်တစ်ဆူအလား ထင်ရှားသည့် လယ်တီဆရာတော်တို့၏ နည်းခံ တပည့်တစ်ပါးဖြစ်သည်။ အထူးသဖြင့် လယ်တီဆရာတော်၏ ဩဝါဒအတိုင်း စကားမပြော၊ သာမှုနာမှုမလိုက်၊ တရားမဟောဘဲ ဝိပဿနာတရားကို ၁၀ နှစ်တိတိ စူးစူးစိုက်စိုက် ကျင့်ကြံအားထုတ်ခဲ့၍ မိုးညှင်းကိုယ်တော်၊ မိုးညှင်း ဆရာတော် အမည်များဖြင့် ထင်ရှားခဲ့သည်။ မြန်မာနိုင်ငံတစ်ဝန်း လယ်တီ ဆရာတော်၏ ပရမတ္ထသံခိပ်အဘိဓမ္မာတရား ပျံ့နှံ့ပြီးနောက် မိုးညှင်း ဆရာတော်၏ အရည်ကလာပ်၊ အဖတ်ကလာပ်ခေါ် ဓာတ်ခြောက်ပါး ဝိပဿနာတရားများ ပေါ်ထွန်း၍လာသည်။ ရသေ့ဝတ်ပေးခြင်းကို အကြောင်းပြု၍ လယ်တီနှင့် မစိုးရိမ်အနွယ်အချို့၏ ဆန့်ကျင်မှုများနှင့် ကြုံတွေ့ရသည်။ မိုးညှင်းဆရာတော်၏ မေတ္တာကမ္မဋ္ဌာန်း၊ ဆန်းကြယ် သော စိတ်ကူး၊ ထူးခြားသည့် ဗိသုကာလက်ရာ၊ အံ့ဩဘွယ် လောကီ လောကုတ္တရာ အစီအရင်တို့ဖြင့် တည်ခဲ့သော မုံရွာ မိုးညှင်းသမ္ဗုဒ္ဓေစေတီ၊ ရှေးဟောင်း သမ္ဗုဒ္ဓေဂါထာတို့နှင့်တွဲလျက် မိုးညှင်းဆရာတော်၏ ဂုဏ် သတင်းသည် ယနေ့တိုင် ပျံ့နှံ့နေဆဲဖြစ်သည်။

သုမန၊ ရှင်၊ မိုးညှင်းဆရာတော် —

၁၈၇၃ ခုနှစ် ဖေဖော်ဝါရီလ ၂၈ ရက် သောကြာနေ့တွင် ဟံသာဝတီခရိုင် သပြေကန်မြို့နယ် (ရန်ကုန်တိုင်း သန်လျင်မြို့နယ်) ဘားကူးရွာအနီး ဂုံညင်းစုရွာတွင် ဖွားသည်။ အဖ ဦးမိုး အမိ ဒေါ်ဘော် ဖြစ်သည်။ သားချင်း ၇ ယောက်တွင် အငယ်ဆုံးဖြစ်သည်။ အမည် မောင်ဘိုးစ တွင်သည်။ အမိ အသက် ၅၆ နှစ်တွင် ဖွားမြင်ခဲ့ခြင်း ဖြစ်သည်။

၅ နှစ်အရွယ်တွင် ရွာမှ ၂ တိုင်ဝေးသော မောင်းမရွာ ရှင်အာစာရ ထံ စတင်ပညာသင်သည်။ ငယ်စဉ်ကပင် စာပေထူးချွန်သည်။ စိတ်နှလုံး သိမ်မွေ့သည်။ ၁၄ နှစ်တွင် မိဘနှစ်ပါးက ရှင်ဒါယကာ၊ ရှင်အာစာရက ဥပဇ္ဈာယ်ပြု၍ သာမဏေဖြစ်သည်။ ဘွဲ့ ရှင်သုမန ဖြစ်သည်။ သာမဏေ ဝတ်ဖြင့် သဒ္ဒါ၊ သင်္ဂြိုဟ်၊ ငဲ့ကာကျော်၊ မာတိကာ စသော ပိဋကတ် စာပေများ သင်ယူသည်။

အသက် ၂၀ ပြည့်ချိန် ၁၈၉၂ ဇူလိုင် ၁ ရက် သောကြာနေ့တွင် မောင်းမရွာ ဆရာတော် ရှင်အာစာရကို ဥပဇ္ဈာယ်ယူ၍ ရဟန်းဖြစ်သည်။ ဘွဲ့ ရှင်သုမန ဖြစ်သည်။ ရှင်ဒါယကာမှာ မိဘနှစ်ပါးဖြစ်သည်။ ရဟန်း ၅ ဝါရသည့်တိုင် ဥပဇ္ဈာယ်ဆရာတော်ထံ စာသင်၊ စာချ သီတင်းသုံးသည်။

၆ ဝါတွင် မန္တလေးမြို့ ဒက္ခိဏာရာမဘုရားကြီးတိုက် စာချအကျော် ဦးရန်ကုန် ခေါ် ရှင်သုဇာတာလင်္ကာရထံ ပရိယတ္တိစာပေ ဆက်လက် ဆည်းပူးသည်။ ဘုရားကြီးတိုက်တွင် သီတင်းသုံး၍ စာချအကျော် ကျံုဝန် မိုးတားဆရာတော် ရှင်သုဇာတာလင်္ကာရ၊ မင်းဒင်ဆရာတော်၊ မိုင်းနိုင်း ဆရာတော် ရှင်ဝိသုဒ္ဓ၊ ရွှေရေဆောင်ဆရာတော် ဦးကြည် ခေါ် ရှင်အာဒိစ္စ ရံသီ (၁၈၇၅–၁၉၁၅)၊ ရွှေကျင်တိုက် မဟာဝိသုဒ္ဓါရာမဆရာတော် ရှင်ဝိသုဒ္ဓါစာရ (၁၈၃၈–၁၉၁၆) တို့ထံ နည်းခံသည်။ စာသင်သား သံယာငယ်များကို မာတိကာ၊ ဓာတုကထာ၊ ယမိုက်၊ ပဋ္ဌာန်းကျမ်းများ ပြန်လည်ပို့ချသည်။ ထိုသို့ပို့ချခဲ့သော ညဝါမှတ်စုများကို နောင်အခါ မိုးညှင်းညဝါ အလင်းပြကျမ်း (၁၉၆၂) ဖြင့် ပုံနှိပ်ခဲ့သည်။

မန္တလေးမြို့တွင် ၁၆ ဝါရသည့်တိုင် ပရိယတ္တိစာပေ သင်ယူပို့ချ နေစဉ် မိဘနှစ်ပါး ကွယ်လွန်သည်ကိုပင် ပြန်လည်ကြွရောက်ခြင်း မပြု

ခဲ့ချေ။ စာချဆရာတော်နှင့် သတင်းသုံးဖော်များအပေါ် ပြုအပ်သော သံဃာ၀တ်ကို စွမ်းနိုင်သမျှ ဖြည့်ဆည်းသည်။ ဥပုသ်နေ့ စာ၀ါအားလပ်ချိန်တွင် ရွာဟိုင်းသုသာန်၌ ဓုတင်ဆောင်လျက် ကမ္မဋ္ဌာန်းတရားအားထုတ်သည်။ ၁၇ ၀ါတွင် ဇာတိမြေကို ခေတ္တပြန်သည်။ ထို့နောက် မန္တလေးမှတစ်ဆင့် မြစ်ငယ်မြစ်အနီး အဲ့ဗျမက္ခရာတောရ၌ တစ်ပါးတည်း တောရဆောက်တည်၏။ ဓုတင် ၁၃ ပါးကို အခါအားလျော်စွာဆောင်၍ ကျင့်ကြံအားထုတ်ရာ ၂ နှစ်ခန့်တွင် လူပရိသတ် များလာ၏။ ထို့ကြောင့် မက္ခရာတောရကျောင်းကို စွန့်၍ စစ်ကိုင်းတိုင်း ချောင်းဦးနယ် ခင်မွန်ရွာ မဟာဗောဓိတောရကျောင်းတိုက် သုံးဂိုဏ်းချုပ် ခင်မွန်ဆရာတော် ရှင်ဇာဂရ (၁၈၂၉—၁၉၁၄) ထံ ၆ လ၊ ထို့နောက် ရေစကြို ဂူဖြူတောရဆရာတော် ရှင်မေဓာ (၁၈၂၈—၁၉၁၉) ထံ သုံးလ နည်းခံ၏။ ခင်မွန်ဆရာတော်မှာ ရှမ်းကလေးကျွန်းဆရာတော် ရှင်နန္ဒ၏ တပည့်ဖြစ်၍ ၀ိနည်းအရာတွင် ထင်ရှားသည်။ ရေစကြို ဂူဖြူတောရ ဆရာတော်မှာ ပဲခူးဘုန်းတော်ကြီး ဦးသီလကပင် အကျင့်ပဋိပတ်တွင် 'တို့ထက်သာသည်'ဟု ပူဇော်ခံရသည်။

၁၉ ၀ါရ ၁၉၁၁ ခုနှစ်တွင် မုံရွာမြို့ လယ်တီတောရဆရာတော် ရှင်ဉာဏ (၁၈၄၆—၁၉၂၃) ထံ ခို၀င်၍ ၀ိပဿနာ ကျင့်ကြံအားထုတ်မှု နည်းခံသည်။ လယ်တီဆရာတော်၏ ဩ၀ါဒအရ မုံရွာမြို့ အနောက်ဘက်၊ လက်ပတောင်းတောင်၌ ကျင့်ကြံ အားထုတ်၏။ ဥတုသပ္ပာယ မမျှ၍ ရောဂါစွဲကပ်ရာ လယ်တီဆရာတော်ထံ ပြန်လည်ခို၀င်သည်။ ကျန်းမာရေးကောင်းမွန်လာချိန် တရားအားထုတ်ရန် ခွင့်တောင်းရာ လယ်တီဆရာတော်က ကတိ (၆) ချက် တောင်းခံခဲ့သည်။ ၀ိပဿနာတရားကို မရမနေ အားထုတ်မည်ဆိုလျှင် (၁) ဒကာတို့ ပင့်ဆွမ်း လိုက်မစားရ။ (၂) ရဟန်းခံရှင်ပြု အလှူပွဲ မလိုက်ရ။ (၃) ဘုန်းကြီးပျံ အလှူအတန်း မလိုက်ရ။ (၄) စကားမပြော၊ တရားမဟောဘဲ ဆယ်နှစ် အားထုတ်ရမည်။ (၅) ၁၀ နှစ်ပြည့်မှ ကိုယ့်နေရာမှာ တရားဟောရမည်။ (၆) အသက် ၆၀ ပြည့်မှ နယ်လှည့်တရားဟောရမည်" ဟု ၀န်ခံကတိ တောင်းခံရာ ၀န်ခံကတိ ပေးအပ်ခဲ့သည်။

လယ်တီဆရာတော်၏ လမ်းညွှန်မှုဖြင့် မုံရွာမြို့ အရှေ့တောင်ဘက် ၆ မိုင်အကွာ မြေနဲတောရ၌ တစ်ပါးတည်း လေးတိုင်စင်ကျောင်းကလေး

ဖြင့် ဝိပဿနာတရား ကျင့်ကြံအားထုတ်သည်။ မြေနဲတောရသည် အင်းဝခေတ် မိုးညှင်းမင်းတရား၏ နန်းတက်မင်္ဂလာကုသိုလ်တော် ၂၇ ဌာနတွင် ၉ ဌာနမြောက်ဖြစ်၍ မိုးညှင်းမင်းတရား၏ အမည်ကိုစွဲလျက် မိုးညှင်းတောရဟု အမည်ပေးခဲ့သည်။ ရှင်သုမနသည်လည်း မိုးညှင်းဆရာတော်ဟု အမည်တွင်သည်။

၁၉ ဝါရ ၁၉၁၁ ခုနှစ်မှစ၍ ခင်မွန်ဆရာတော်၏ အနေအထိုင်၊ ဝိနည်းရိုသေမှု၊ ရေစကြို ဂူဖြူဆရာတော်၏ ကျင့်ကြံအားထုတ်မှု ဌွဲ လှံ့လ၊ လယ်တီဆရာတော်၏ ဝိပဿနာ နည်းနာနိဿယအတိုင်း ကျင့်ကြံအားထုတ်ရာ တစ်နှစ်ကျော်ချိန်တွင် အနီးအနား မြေနဲ အောင်သာ မင်းရွာဆယ်ကြီးတို့မှ ဒါယကာ၊ ဒါယိကာမများ ဝေယျာဝစ္စကုသိုလ် ပြုလုပ်လာကြသည်။ သို့သော် လယ်တီဆရာတော်၏ ဩဝါဒအတိုင်း စကားမပြောဘဲ ဆက်လက် ကျင့်ကြံအားထုတ်ရာ ၅ လအတွင်း တရားသဘော တွေ့ခဲ့သည်။ ထိုသို့ ကျင့်ကြံအားထုတ်နေစဉ် အနှောင့်အယှက် ဘေးအန္တရာယ်များ အမျိုးမျိုး ကြုံတွေ့ခဲ့ရသော်လည်း မှုတင်အမျိုးမျိုးဆောင်၍ မေတ္တာကမ္မဋ္ဌာန်းအစွမ်းဖြင့် ကျော်လွှန်နိုင်ခဲ့သည်။ ၁၀ နှစ်ပြည့်ချိန်တွင် ဝိသုဒ္ဓိကျင့်စဉ်ကျမ်းကြီး၊ ပဋ္ဌိစ္စသမုပ္ပါဒ်ကျင့်စဉ်ကျမ်းကြီး၊ ဝိပဿနာ အလုပ်ပေးကျင့်စဉ်ကျမ်းကြီး သုံးကျမ်းကို စီရင်ပြီးစီးသည်။

တရားကျင့်ကြံ အားထုတ်သည့် ၁၀ နှစ်ပြည့်ချိန် ၁၉၂၁ ခုနှစ်တွင် စစ်ကိုင်းတောင်ရိုး ဇေတဝန်ဆေးတိုက် လယ်တီစံကျောင်း၌ ဆေးကုသမှုခံယူနေသော လယ်တီဆရာတော်ထံ ဝါကျွတ် သွားရောက်ကန်တော့သည်။ ကန်တော့ပြီးနောက် တရားအားထုတ်မှု အစီအစဉ်ကို လျှောက်ထားရာ လယ်တီဆရာတော်က ကျေနပ်အားရ၍ "ထူးတဲ့ ပုဂ္ဂိုလ်၊ တကယ်ချီးကျူးထိုက်တဲ့ ပုဂ္ဂိုလ်၊ တစ်မိုးအောက် တစ်ယောက်ပဲ၊ ဇမ္ဗူတလူပဲ၊ ကမ္ဘာမှာ ရှာမှရှားတဲ့ ပုဂ္ဂိုလ်ပဲ။ ငါ့ကိုယ်စား ကမ္ဘာမှာ သာသနာပြုပေတော့။ ဝိပဿနာတရားကြီးကို ယခု အားထုတ်ပုံ၊ အားထုတ်နည်းအတိုင်း ရဟန်းရှင်လူတို့အား ဟောကြားပြသ ဆုံးမပေတော့ဗျား" ဟု မိန့်ဆိုခဲ့သည်။

လယ်တီဆရာတော်၏ ဩဝါဒအရ သက်တော် ၅၀ သိက္ခာ ၃၁ ဝါရ ၁၉၂၁ ခုမှစ၍ မိုးညှင်းတောရ သစ်ပင်အောက် ထန်းရွက်မိုးမဏ္ဍပ်ဖြင့် ဝိပဿနာတရားများ ဟောကြားခဲ့သည်။ ၁၉၂၂ ခုနှစ်တွင် တွံတေး

ရှင်နာရဒ (နောင် မိုးညှင်းတောရ တတိယမြောက်တိုက်ကြပ်)၊ ၁၉၂၃ ခုနှစ်တွင် ရှင်သုမင်္ဂလ (နောင် ဒုတိယမိုးညှင်းဆရာတော်)၊ ရှင်အာသဘ (နောင် မိုးညှင်းတိုက် တိုက်ကြပ်) တို့ ရောက်ရှိလာ၍ နည်းခံ ကျင့်ကြံ ဟောပြောရာ နေ့စဉ် လူပရိသတ် ၁၀၀ ခန့် ရှိလာသည်။ သီလရှင်ပရိသတ် အတွက် ဒေါ်ကုမ္မာရီ၊ ဒေါ်စန္ဒာရီတို့ကို အကြီးအမှူးခန့် စီမံအုပ်ချုပ်စေ ခဲ့သည်။ ထိုနှစ် လယ်တီဆရာတော် ပျဉ်းမနားမြို့ လယ်တီစံကျောင်းတွင် မကျန်းမမာ ဝေဒနာခံစားနေရရာ နောက်ဆုံး သွားရောက်ကန်တော့၍ 'အနတ္တဒီပနီ' ကျမ်းစာ ဖတ်ရွတ်ပူဇော်ခဲ့သည်။

သက်တော် ၆၀ ၁၉၃၂ ခုတွင် ပြင်ဦးလွင်မြို့၌ ပထမဆုံး နယ်လှည့် တရားပွဲ ဟောပြောခဲ့သည်။ ၁၉၃၃ ခုနှစ်တွင် နေရင်း ဦးကောဝိဒ၏ ပင့်လျှောက်ချက်အရ မော်လမြိုင်၊ ထို့နောက် မော်လမြိုင်ကျွန်း၊ ဝါးခယ်မ၊ သရက်တော၊ ဘိုကလေး၊ ဖျာပုံ၊ ရန်ကုန်မြို့များတွင် ခုနစ် (၆)ပါးတရား၊ ဝိပဿနာအဟော တရားပွဲများ ကျင်းပ၍ ဂတိဝိသုဒ္ဓိအသင်းများ ဖွဲ့စည်း တည်ထောင်သည်။ ထင်ရှားကျော်ကြားလာသည်နှင့်အမျှ ရသေ့ဝတ် ပေးခြင်းကို အကြောင်းပြု၍ ဆန့်ကျင်ဝေဖန် ပြစ်တင်ခြင်းခံရသည်။ ဆန့်ကျင်ဝေဖန်မှုများ ကြားမှပင် မိုးညှင်းဓမ္မကထိကများ အကူအညီဖြင့် နိုင်ငံအနှံ့ တရားပွဲများ ၄ ကြိမ်ထွက်၍ ဝိပဿနာတရားများ ဟောကြား ခဲ့ရာ ထိုခေတ်က အလွန်ထင်ရှားခဲ့သည်။

မိုးညှင်းတောရသည် ၃၇ မိုင် ကျယ်ဝန်းလာ၍ ကျောင်းကန်၊ ဇရပ်၊ နာရီစင်တို့ဖြင့် အလွန်စည်ကားလာသည်။ ရဟန်းရှင်လူ ပရိသတ် ယောဂီ ၃၀၀ ကျော်၊ နေ့စဉ် အဝင်အထွက် ပရိသတ် ၂၀၀ ကျော်ခန့် အမြဲလာ၍ ၁၉၃၉ ခုနှစ်တွင် မိုးညှင်းတောရအတွက် မီးရထားဘူတာ ဖွင့်ပေးရသည်။ ၁၉၃၉ ဇူလိုင်လ ၂၀ ရက်တွင် မိုးညှင်းတောရ၌ မိုးညှင်းဆရာတော်၏ လမ်းညွှန်မှု၊ အမြင့်မြို့ ဗိသုကာဆရာကြီး ဦးဟံကြီး၏ ဦးဆောင်မှုဖြင့် ဆန်းကြယ်သော စိတ်ကူး၊ အံ့မခန်း ဗိသုကာလက်ရာ၊ ထူးခြားသော လောကီ လောကုတ္တရာ အစီအရင်တို့ဖြင့် မိုးညှင်းသမ္ဗုဒ္ဓေစေတီကြီး ပန္နက် ရိုက် တည်ဆောက်ခဲ့သည်။ ဒုတိယကမ္ဘာစစ်ငွေ့စစ်ရိပ်များ သန်းနေစဉ် ၁၉၄၀ ပြည့်နှစ် နိုဝင်ဘာလ ၁၈ ရက် တနင်္လာနေ့တွင် ဗုဒ္ဓါဘိသေက အနေကဇာတင်ပွဲ ကျင်းပနိုင်ခဲ့သည်။ သမ္ဗုဒ္ဓေစေတီ အတွင်းအပြင်

တည်ဆောက်မှု လုပ်ငန်းအရပ်ရပ်ကိုမူ ၁၉၅၈ ခုနှစ်ရောက်မှ အပြီးသတ်ခဲ့သည်။

၁၉၄၁ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ် ဆက်ကပ်ခြင်းခံရသည်။

ဒုတိယကမ္ဘာစစ်အတွင်း သမ္ဗုဒ္ဓေစေတီနှင့် မိုးညှင်းတောရတိုက်သည် ပြည်သူအများ၏ စစ်ဘေးခိုလှုံရာ ဌာနတစ်ခု ဖြစ်ခဲ့၏။ သမ္ဗုဒ္ဓေစေတီတော်တည်ရာ မိုးညှင်းတောရအတွင်း ဗုံးကျသော်လည်း ဗုံးမကွဲ၊ အမြောက်ဆန် ထိမှန်သော်လည်း အန္တရာယ်ကင်းခဲ့ရာ အံ့ဩဖွယ် ဖြစ်ခဲ့ရသည်။

ဒုတိယကမ္ဘာစစ်ပြီးချိန် သက်တော် ၇၂ သိက္ခာတော် ၅၃ ဝါရှိပြီဖြစ်ရာ ဇရာလက္ခဏာမှ ရှောင်လွှဲမရတော့ချေ။ ၁၉၄၇ ခုနှစ်တွင် မျက်စိခွဲစိတ်ကုသခဲ့ရသည်။ ၁၉၄၈ ခုနှစ်တွင် အဆုတ်ရောဂါ ရလာ၍ ၁၉၅၃ ခုနှစ်တွင် ရန်ကုန်ဆေးရုံ၊ တပ်မတော်ဆေးရုံများ၌ တက်ရောက် ကုသခဲ့ရသည်။

သက်တော် ၉၃၊ သိက္ခာ ၇၄ ဝါအရ ၁၉၆၄ ခုနှစ် စက်တင်ဘာ ၂၉ ရက် အင်္ဂါနေ့ ညနေ ၆း၀၀ နာရီတွင် မုံရွာမြို့ မိုးညှင်းတောရကျောင်းတိုက်၌ တစ်ဘဝ တစ်ခန်း ချုပ်ငြိမ်းခဲ့ပါသည်။





# စံကျောင်းဆရာတော် ရှင်ဝါယာမ

(၁၈၇၄ — ၁၉၄၇)

မြန်မာနိုင်ငံ ပရိယတ္တိနယ်ပယ်၌ အလင်္ကာနိဿယ ကျမ်းပြုကျောင်းတုန်း ရွှေဟင်္သာတောရ ပထမစံကျောင်းဆရာတော်အဖြစ် ထင်ရှားသည်။ ပရိယတ် ပဋိပတ်စွယ်စုံ ဆရာစဉ်ဆက်မှ ဆင်းသက်၍ ကိုယ်တိုင်လည်း စွယ်စုံကျင့်ကြံအားထုတ်သည်။ ရွှေကျင်နိကာယတွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ပဉ္စမမြောက် ဆက်ကပ်ခံရသည့် ကျမ်းပြုဆရာတော်ဖြစ်သည်။ ထင်ရှားသော ပရိယတ္တိစာသင်တိုက်ကြီး၏ ပဓာနနာယကဆရာတော်ဖြစ်သော်လည်း ခုတင် ခြင်ထောင် လဲသွတ် ခေါင်းအုံးကိုမျှမသုံး၊ သင်ဖျာတစ်ချပ် သင်းပိုင်ဟောင်းတစ်ထည် သစ်သားခေါင်းအုံးငယ်မျှဖြင့် ခြိုးခြံခေါင်းပါးစွာ သီတင်းသုံးလေ့ရှိသည်။ ထို့ကြောင့် နဝမမြောက် ရွှေကျင်သာသနာပိုင်လောင်းလျာ စံကင်းဆရာတော်က 'ဆရာတော်ကဲ့သို့ ပုဂ္ဂိုလ်မျိုးသည် ဘယ်နေရာမှာပင်နေနေ တောမှာနေသည်နှင့် အတူတူဖြစ်သည်။ တောထွက်ဖို့လိုမည် မဟုတ်ပါ' ဟု လျှောက်ထားခဲ့သည်။ ထို့အတူ ဒသမမြောက် ရွှေကျင်သာသနာပိုင်လောင်းလျာ မြောင်းမြဆရာတော်ကလည်း 'စံကျောင်းဆရာတော်သည် အရာရာ ပါးနပ်လိမ္မာသော်လည်း ဖြောင့်မတ်သည်၊ အရှိန်အဝါနှင့် ပြည့်စုံသော်လည်း သည်းခံ၍ သိုသိပ်စွာ နေလေ့ရှိသည်။ စာပေကျမ်းဂန်နှင့်ပတ်သက်၍ ကျွမ်းကျင်လိမ္မာသော်လည်း ကြွားဝါမှုမရှိ'ဟု စံပြုမိန့်ဆိုခဲ့သည်။

**ဝါယာမ၊ ရှင်၊ စံကျောင်းဆရာတော် —**

၁၈၇၄ ခုနှစ် ဖေဖော်ဝါရီလ ၂၅ ရက် ဗုဒ္ဓဟူးနေ့တွင် ပဲခူးမြို့နယ် ကျောက်တန်းရွာ၌ ဖွားသည်။ အဖ လေ့သူကြီး ဦးအောင်လှ၊ အမိ ဒေါ်အောင် ဖြစ်သည်။ မွေးချင်း ၈ ယောက်တွင် သတ္တမမြောက်၊ အမည် မောင်ညက် ဖြစ်သည်။

၇ နှစ်အရွယ်တွင် ကျောက်တန်းရွာ ဘုန်းကြီးကျောင်း၌ စတင် ပညာသင်သည်။ ဗုဒ္ဓဘာသာ အခြေခံစာများ၊ ငါးရာ့ငါးဆယ် ဇာတ် အဋ္ဌကထာ၊ သဒ္ဒါကြီး ၈ စောင်၊ ကိုးကြောင်းဗိုလ်၊ မဏာရန္တပေဒင်ကျမ်းတို့ သင်ယူသည်။ ၁၄ နှစ်တွင် ရန်ကုန် ပုဇွန်တောင် အစိုးရအထက်တန်း ကျောင်း၌ ပညာဆည်းပူးသည်။ ပညာသင်ယူနေစဉ် ၁၇ နှစ်အရွယ်တွင် ဗုဒ္ဓဘာသာကို ဝေဖန်ထားသည့် 'ရွှေချိန်ခွင်' စာအုပ်ကို ဖတ်မိရာမှ သံဝေဂ ဖြစ်၍ ရွာပြန်ခဲ့သည်။ ရွာလည်ကျောင်း ဆရာတော်ထံ သာမဏေပြုသည်။ ဘွဲ့ ရှင်ဝါယာမ ဖြစ်သည်။ သာမဏေဝတ်ဖြင့် ကစ္စည်း သဒ္ဒါကြီး သင်ယူ သည်။

သာမဏေ ၁ ဝါရတွင် ရန်ကုန် ကျောင်းတော်ရာ ရွှေကျင်တိုက် ခေါ် မဟာဓမ္မဒီပိကာရာမတိုက် ပြောင်းရွှေ့ ပညာသင်သည်။ ကျောင်းတော်ရာ ဆရာတော် ရှင်သာသန (၁၈၄၃ – ၁၉၂၅) က ရှင်ဝါယာမကို ယွန်းကျောင်း ဘုန်းကြီး ရှင်မဇာတ ထံ အပ်နှံ၍ စာလိုက်စေသည်။ တစ်နှစ်အတွင်း သဒ္ဒါကြီး ၈ စောင်၊ သုတ်မာတိကာပါဠ် အကုန်အစင် ရသည်။

၁၈၉၃ ခုနှစ် ဇွန်လ ၂၅ ရက် တနင်္ဂနွေနေ့တွင် ကျောင်းတော်ရာ ဆရာတော်ကို ဥပဇ္ဈာယ်ယူ၍ ရဟန်းဖြစ်သည်။ မိဘများက ရှင်ဒါယကာ ခံသည်။ ရဟန်းဘွဲ့ ရှင်ဝါယာမ ဖြစ်သည်။ ကျောင်းတော်ရာ ဆရာတော် မှာ ရွှေကျင်ဆရာတော် ရှင်ဇာဂရ (၁၈၂၂ – ၁၈၉၄) ၏ တပည့်ကြီးတစ်ပါး ဖြစ်၍ ပရိယတ်ပဋိပတ် စွယ်စုံထင်ရှားသည်။ သီပေါမင်းလက်ထက် ရာဇဂုရုဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။

ရဟန်းဖြစ်ပြီး ကျောင်းတော်ရာဆရာတော်နှင့် ယွန်းကျောင်း ဘုန်းကြီးထံ ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။ အထူးအားဖြင့် ပါဠိ တော် အဋ္ဌကထာကြီးများ၊ ကင်္ခါအဋ္ဌကထာ၊ ဋီကာကျော်တို့ကို ဆိုဝါဖြင့်

ပလ္လင်ပေါက် သင်ယူသည်။ ပါဠိအဘိဓာန်၊ ဝုတ္တောဒယဆန်းကျမ်း၊ သုဗောဓာလင်္ကာရ၊ ဓာတွတ္ထသင်္ဂဟ၊ ဘေဒစိန္တာ၊ သဒ္ဒါငယ်ကျမ်းများနှင့် ဝိနည်းငါးကျမ်းကို အာဂုံဆောင်သည်။ 'ဥဘတောဝိဘင်း'ကိုမူ အချိန်အခါ မရွေး ပြန်ဆိုနိုင်စွမ်းရှိသည်။ ကျက်ဉာဏ်၊ မှတ်ဉာဏ်၊ သဘောဉာဏ် စွယ်စုံ ထက်မြက်၍ ရပြီးစာကို သုံးနှစ်ခန့် မမေ့မပျောက် မှတ်မိသည်။ ရဟန်း ၄ ဝါရတွင် ကျောင်းတော်ရာတိုက် စာချအဖြစ် ချီးမြှောက်ခံရသည်။

၁၉၀၁ ခုနှစ် မတ်လ ၃ ရက်နေ့တွင် ထိုစဉ်က ရဟန္တာဟု ထင်ရှားသော ပဲခူးဘုန်းတော်ကြီး ဦးသီလ (၁၈၃၂—၁၉၀၇) ၏ အမိန့်အရ ကျောင်းတော်ရာဆရာတော်သည် နောက်ပါ သံဃာ ၂၀ ခန့်ဖြင့် ညောင်တုန်း ရွှေဟင်္သာတောရတိုက်ကို လက်ခံ၍ ပရိယတ္တိစာသင်တိုက် တည်ထောင်သည်။ ရှင်ဝါယမသည် ကျောင်းတော်ရာဆရာတော်နှင့်အတူ လိုက်ပါ၍ ရွှေဟင်္သာတောရတိုက်၏ တိုက်အုပ်အဖြစ် တာဝန်ယူခဲ့ရသည်။ တိုက်အုပ်စာချဖြစ်သော်လည်း ရွှေဟင်္သာတောရ မှန်ကျောင်းဘုန်းကြီး ရှင်ဉာဏိန္ဒသဘ (ဦးစံအောင်)ထံ သက္ကတဘာသာ သင်ယူဆည်းပူးသည်။ ရှင်ဉာဏိန္ဒသဘမှာ ဋီကာကျော်ယောဇနာ ကျမ်းပြုအဖြစ် ထင်ရှားသည်။ နောင်အခါ အလွန်ထင်ရှားသော ရှင်အာဒိစ္စဝံသ (၁၈၈၂—၁၉၅၁) သည်လည်း ရှင်ဉာဏိန္ဒသဘ၏ အားထားရာ တပည့်တစ်ပါးဖြစ်သည်။

၁၉၀၇ ခုနှစ်တွင် အိန္ဒိယနှင့် သီရိလင်္ကာနိုင်ငံများသို့ ဘုရားဖူး သွားရောက်သည်။ သီရိလင်္ကာတွင် သီတင်းသုံးနေသော မြန်မာရဟန်းတော် ရှင်ဝိနယာလင်္ကာရ နှင့် ရှင်ဇယန္တတို့၏ အပ်နှံမှုဖြင့် သီရိလင်္ကာ သာမဏေ အပါး ၂၀ ကို ခေါ်ဆောင်၍ ညောင်တုန်း ရွှေဟင်္သာတောရ၌ ပရိယတ္တိ စာပေ သင်ကြားပေးသည်။ သာမဏေများ အသက်စေ့သော် ရဟန်းခံပေး၍ ပရိယတ္တိစာပေ ဆက်လက်သင်ယူစေသည်။ အချို့မှာ သီရိလင်္ကာပြန်၍ အချို့မှာ မြန်မာနိုင်ငံမှာပင် ပရိယတ္တိသာသနာ ဖြန့်ဝေသည်။ မြန်မာနိုင်ငံ တွင် ကျန်ရစ်သော သာမဏေများတွင် ဉာဏ်အထက်ဆုံး၊ အငယ်ဆုံး ရှင်ဝဇိရဉာဏမှာ နောင်အခါ ဆဋ္ဌသင်္ဂါယနာတင်ကာလ၌ ပိဋကတ် ဘာသာပြန်ဌာန စာပြင်မှူးချုပ် ပါဠိပါမောက္ခ ဆရာဉာဏ် (၁၈၉၇— ၁၉၇၈) အဖြစ် ထင်ရှားသည်။

ရှင်ဝါယာမ ၁၈ ဝါအရတွင် ကျောင်းတော်ရာ ဆရာတော်သည်

ညောင်တုန်းမှ ရန်ကုန်ကျောင်းတော်ရာသို့ ပြန်လည်ကြွရောက် သီတင်းသုံးသည်။ ရှင်ဝါယာမကို ရွှေဟင်္သာတောရတိုက်ပိုင်၊ ရှင်ကလျာဏ (၁၈၈၃—၁၉၅၁) ကို တိုက်အုပ် ခန့်အပ်ခဲ့သည်။ ထိုအချိန်တွင် ရွှေဟင်္သာတောရတွင် စာသင်စာချ သံဃာ ၁၀၀ ခန့် ရှိသဖြင့် ထင်ရှားသော စာသင်တိုက်အဖြစ် တည်ရှိနေသည်။ တိုက်အုပ်ဆရာတော် ရှင်ကလျာဏ ဦးဆောင်၍ အစိုးရ ပထမပြန်စာမေးပွဲ ဝင်ရောက်ဖြေဆိုနိုင်ရန် စာပေပို့ချသည်။ စည်းစနစ်ကောင်း၍ ခေါင်းဆောင်ကောင်းတို့၏ ဦးဆောင်မှုဖြင့် ရွှေဟင်္သာတောရသည် ပထမပြန် စာမေးပွဲဂေဇက်၌ ထိပ်တန်းကရပ်တည်နိုင်ခဲ့ရာ အလွန်ထင်ရှားသည်။ ရှင်ဝါယာမ သိက္ခာ ၃၀ ဝါအရတွင် ကျောင်းတော်ရာဆရာတော်က 'စံကျောင်းဆရာတော်' အဖြစ်ချီးမြှောက်သည်။ ရှင်ဝါယာမသည် ပရိယတ္တိစာပေပို့ချရုံမျှမက ဂန္ထမုခရခေါ် စာပေကျမ်းဂန် ပြုစုခဲ့ရာ အချို့ကျမ်းများမှာ အကြိမ်ကြိမ် ထပ်မံပုံနှိပ်ခဲ့ရသည်။ စာသင်သားများအတွက်သာမက အချို့ကျမ်းများမှာ ဒါယကာ၊ ဒါယိကာမများအတွက် အလွန် ကျေးဇူးများခဲ့သည်။

ပြုစုခဲ့သော စာပေကျမ်းဂန်များမှာ စေတိယ ဝိနိစ္ဆယကျမ်း (၁၉၁၃) ဩဝါဒဒီပနီ (၁၉၁၄) ကံညာဏ်ဝီရိယအဖွင့်ကျမ်း (၁၉၁၆) မင်္ဂလာအဖွင့်ကျမ်း (၁၉၂၀) သမ္ဗဒါအဖွင့်ကျမ်း (၁၉၂၁) လောကနီတိအဖွင့်ကျမ်း (၁၉၂၃) အတွင်းအောင်ခြင်းနှင့် အပြင်အောင်ခြင်း အဖွင့်ကျမ်း (၁၉၂၃) မေတ္တာအဖွင့်ကျမ်း (၁၉၂၄) သုနုရာနန္ဒကာဗျ သက္ကတဘာသာပြန် (၁၉၂၈) ယထာဘူတ ဝိနိစ္ဆယကျမ်း (၁၉၃၁) အလက်ာနိဿယကျမ်း (၁၉၃၂) အပရိယာနိယဆုံးမစာ (၁၉၃၂) ဥပါသကာကျင့်ထုံး၊ ဂိဟိဝိနယခေါ် လူကျင့်ဝတ်ကျမ်း (၁၉၄၂) ပရိဝါသမာနတ္တ ဝိနိစ္ဆယကျမ်း (၁၉၃၉) ဗုဒ္ဓစရိတကာဗျ သက္ကတဘာသာပြန် (၁၉၄၄) ဆုတောင်းပုံနည်းစုံကျမ်း ကမ္မဋ္ဌာန်းစီးဖြန်းပုံနည်းစုံကျမ်း၊ ကမ္မဋ္ဌာန ဝိနိစ္ဆယကျမ်း၊ ပါဠိ-မြန်မာအဘိဓာန်တို့ ဖြစ်သည်။ အချို့ကျမ်းများမှာ ပုံနှိပ်မှုအဖြစ် မရောက်သေးချေ။

၁၉၃၇ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့ ဆက်ကပ်ခံရသည်။ ရွှေကျင်နိကာယတွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့ ပဉ္စမမြောက် ဆက်ကပ်ခံရခြင်းဖြစ်သည်။

ရှင်ဝါယမသည် အနေအထိုင် ကျစ်လျစ်သိပ်သည်းသည်။ စကား

နည်းသည်။ ရဟန်းပီသည်။ သာသနာပြုစိတ် ထက်သန်သည်။ ပါဠိ သက္ကတ စွယ်စုံရသည်။ ခေတ်အမြင်၊ ခေတ်အတွေးရှိ၍ လောကီလောကုတ် အကျိုးများသော ကျမ်းဂန်များ ပြုစုခဲ့သည်။ ထို့ကြောင့် ရွှေကျင်နိကာယ ဥပဒေပြု ဂဏပါလက (၁၉၂၃) ရွှေကျင်နိကာယ မဟာနာယက (၁၉၃၂) ရွှေကျင်နိကာယ နယ်လှည့်သာသနာပြု (၁၉၃၅) ရွှေကျင်နိကာယ တွဲဖက် သာသနာပိုင် (၁၉၄၆) အဖြစ် တင်မြှောက်ခံရသည်။ ကျောင်းတိုက်တာဝန်၊ ဂိုဏ်းနိကာယတာဝန်များကို ထမ်းဆောင်နေစဉ် ပဋိပတ္တိကျင့်ကြံအားထုတ် မှုကို သိုသိပ်ကျစ်လျစ်စွာ အားထုတ်လေ့ရှိသည်။ 'ဒုတိယကမ္ဘာစစ်' မကူးမီ ၁၉၄၀ ပြည့်နှစ်တွင် သပိတ်တစ်လုံး သင်္ကန်းသုံးထည်ဖြင့် တောထွက် ကျင့်ကြံအားထုတ်ခဲ့သည်။

သက်တော် ၇၃၊ သိက္ခာတော် ၅၄ ဝါရ ၁၉၄၇ ခုနှစ် ဩဂုတ်လ ၂ ရက် စနေနေ့ နံနက် ၄း၂၀ နာရီတွင် ညောင်တုန်းမြို့ ရွှေဟင်္သာ တောရတိုက်၌ တစ်ဘဝ တစ်ခန္ဓာ ချုပ်ငြိမ်းခဲ့ပါသည်။





## ဇေယျဝတီဆရာတော်
## ရှင်သီလ
(၁၈၇၄ — ၁၉၅၇)

မြန်မာနိုင်ငံ သာသနာ့ဂိုဏ်း ၉ ဂိုဏ်းဝင် ကူးတို့ဂိုဏ်းသာသနာ၌ အထင်ရှားဆုံး၊ အကျိုးအပြုဆုံး ဆရာတော်ဟု ကူးတို့နိကာယသာသနာဝင် ကျမ်း၌ မှတ်တမ်းတင်ခံရသည်။ ထားဝယ်မြို့ ဇေယျဝတီ ပရိယတ္တိစာသင် တိုက်နှင့် ပဋိပတ္တိသာသနာ့ရိပ်သာတည် ပထမဇေယျဝတီဆရာတော်ဟု ထင်ရှားသည်။ ပရိယတ်၊ ပဋိပတ် စွယ်စုံ ကျင့်ကြံအားထုတ်၍ ပရိယတ် ပဋိပတ်မှအပ ဗာယီယကိစ္စဟူသမျှ မလိုလား။ ဝိနည်းအလေးထား၍ ရဟန်းပီသစွာ ကျင့်ကြံအားထုတ်ရေးကိုသာ ဆိုဆုံးမလေ့ရှိသည်။ ဆိုဆုံးမသည့်အတိုင်း ကိုယ်တိုင် ကျင့်ကြံအားထုတ်၍ နမူနာစံပြ ဖြစ်စေ ခဲ့သည်။ ပျို့ရွယ်စဉ်ကပင် နေ့ပရိယတ်၊ ညပဋိပတ် ကျင့်ကြံဆောင်ရွက် သည်။ သိက္ခာ ၄၀ ဝါအရတွင် တောရကျောင်းပြောင်း၍ ပဋိပတ္တိ ကျင့်ကြံ အားထုတ်သည်။ ပျံလွန်ခါနီးတွင် ‘ငါသည်တစ်မူကား ပစ္စည်းလေးပါး တည်းဟူသော (အာမိသ) အမွေကို မငဲ့မူ၍ တပည့်တို့၌ သနားခြင်း စသော နာယကဂုဏ်ခြောက်ပါးကို နှလုံးသွင်းလျက် ချစ်ခြင်း၊ မုန်းခြင်း စသော အဂတိတရားကို ဆုံးမ၍ မြတ်စွာဘုရား သာသနာတော်ကို အသက်ကဲ့သို့ စောင့်ရှောက်ခဲ့ပြီး သူတော်ကောင်းဖြစ်ကုန်သော သင်တပည့် တို့သည်လည်း ငါ့ကို သက်သေပြု၍ ဘုရားရှင်၏သာသနာကို စောင့်ရှောက် ကြကုန်လော့’ ဟု မှာတမ်းထား ကျောက်စာရေးထိုး သတိပေးခဲ့သည်။

## သီလ၊ ရှင်၊ ဧယျတိဆရာတော် —

၁၈၇၄ ခုနှစ် ဇွန်လ ၁၉ ရက် သောကြာနေ့တွင် တနင်္သာရီတိုင်း ထားဝယ်ခရိုင် လောင်းလုံမြို့နယ် မင်းရပ်ရွာ၌ ဖွားသည်။ အဖ လေ့သူကြီး ဦးဘိုးချေး အမိ ဒေါ်မွေးအုံ ဖြစ်သည်။ မွေးချင်း ၉ ယောက်တွင် အငယ်မ ြောက်ဖြစ်၍ အမည်ရင်း မောင်ချစ်ရင် ဖြစ်သည်။

၁၂ နှစ်အရွယ်တွင် မင်းရပ်ရွာ တလိုင်းမော်ကျောင်းဘုန်းကြီး ရှင်သုမန ထံ စတင်ပညာသင်သည်။ ၁၄ နှစ်တွင် ရှင်သုမနကို ဥပဇ္ဈာယ် ယူ၍ သာမဏေဖြစ်သည်။ ဘွဲ့ ရှင်သီလ ဖြစ်သည်။ သာမဏေဝတ်ဖြင့် ရှင်သုမနထံ ပရိယတ္တိစာပေ သင်ယူသည်။ ရှင်သုမန (၁၈၅၂—၁၉၃၅) သည် ဂဏဝိမုတ်စာချွန်ရ ကူးတို့ဂိုဏ်းတည် ရှင်သာရမဏ္ဍနှင့် ရှင်ဣန္ဒဝံသ တို့၏ လက်ရုံးတပည့်တစ်ပါးဖြစ်၍ ပိဋကတ်စာပေ ကျွမ်းကျင်သည်။ လူအမည်နှင့်တွဲ၍ ဘုန်းကြီးသိုင်းဟု လူသိများ၏။

သာမဏေ ၆ ဝါရ ၁၈၉၄ ခုနှစ်တွင် ထားဝယ်မြို့ ပိဋကတ်တိုက် ကျောင်းသိမ်၌ ရဟန်းဖြစ်၏။ ရဟန်းဒါယကာမှာ မိဘနှစ်ပါးဖြစ်သည်။ ဥပဇ္ဈာယ်ဆရာမှာ ကူးတို့ဂိုဏ်းတည် ဂိုဏ်းချုပ် ရှင်ဣန္ဒဝံသ (၁၈၃၁— ၁၉၁၇) ဖြစ်သည်။ ရဟန်းဘွဲ့ ရှင်သီလ ဖြစ်သည်။

ရဟန်း ၅ ဝါရသည့်တိုင် မမ္ဗာစရိယဆရာရင်း တလိုင်းမော် ဆရာတော် ရှင်သုမနထံ ပရိယတ္တိ စာပေသင်ယူသည်။ ထို့နောက် ရှင်သုမန၏ အစီအစဉ်ဖြင့် ရေနံချောင်းမြို့ စိန်ပန်းပင်ကျောင်းတိုက် ဆရာတော်၊ ဝိနည်းနှင့် ပိဋကတ်အကျော် မိုးနံကုန်းဆရာတော် ရှင်ဇယန္တ (၁၈၄၇ –၁၉၁၃)၊ မန္တလေး တောင်ပြင် မိုးတားတိုက် မိုးတားသာသနာပိုင် ကျီဝန်ဆရာတော် ရှင်သုဇာတာလင်္ကာရ (၁၈၃၀—၁၉၀၂)၊ ရန်ကုန်မြို့ အလုံ ဇေတနာရာမ ဆရာတော်တို့ထံ ပရိယတ်စာပေနှင့် ဘာသန္တရ သင်ယူ၏။ ထို့နောက် မမ္ဗာစရိယဆရာရင်း တလိုင်းမော်ဆရာတော်ထံ ပြန်လည်သီတင်းသုံးသည်။ ရဟန်း၊ သာမဏေ၊ ကျောင်းသားငယ်များအား စာပေပို့ချသည်။

၁၉၀၅ ခုနှစ် ရဟန်း ၁၂ ဝါရတွင် လောင်းလုံမြို့နယ် စပ်ပြဲရွာ ရေပုံးကျောင်းကို အလှူခံ၍ စာပေပို့ချသည်။ ၁၉၀၈ ခုနှစ်တွင် ထားဝယ်

မြို့ သမာဓိမြို့ဝန် သူဌေး စောရွှေညွန့်က ပစ္စည်းလေးပါး ဒါယကာခံ၍ ထားဝယ်မြို့၌ ဇေယျဝတီ ပရိယတ္တိစာသင်တိုက်ကို တည်ထောင်သည်။ ဆရာတူတပည့် ရှင်တေဇဝန္တကို တိုက်အုပ်ခန့်၍ ပရိယတ္တိစာပေ ပို့ချသည်။ ရှင်သီလသည် ပိဋကတ်အခြေခံ သဒ္ဒါ၊ သင်္ဂြိုဟ်၊ ကစ္စည်းမှစ၍ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ ပို့ချရာ သင်ရိုးပိဋကတ် ၇ ခေါက် ပေါက်သည်။ ပရိယတ္တိ ပို့ချရုံမျှမက ပါတိမောက်ကို ၇ ရက်တစ်ပတ်ကုန် ပူဇော်ရွတ်ဆို လေ့ရှိသည်။ နေ့တွင် စာဝါပို့ချပြီး ညအချိန်တွင် ကျောင်းတိုက် အရှေ့မြောက်ထောင့် လိုဏ်ဂူ၌ ပဋိပတ္တိ ကျင့်ကြံအားထုတ်သည်။ စာဝါနားချိန် ဝါဆို၊ သီတင်းကျွတ်၊ သင်္ကြန်ရက်များတွင် တပည့်ရဟန်း၊ သာမဏေများကို ဦးဆောင်၍ မင်းရပ်တောကျောင်း၊ ရေဖြူဂေါ့အင်းတောကျောင်း၊ ကတက်ကြီး ရန်ကင်းတောကျောင်းတို့၌ ပဋိပတ္တိ ကျင့်ကြံအားထုတ်သည်။

၁၉၂၀ ပြည့်နှစ်တွင် မွေးရပ်ဇာတိ မင်းရပ်ရွာ၌ မင်းရပ်တောကျောင်း တည်၍ ပဋိပတ္တိ ကျင့်ကြံအားထုတ်သည်။ တောကျောင်းကို ပဋိပတ္တိ ထက်သန်သော တပည့် တောင်ပွားဆရာတော် ရှင်တေဇိန္ဒ (၁၈၈၄—၁၉၆၆)၊ သမုတ်ဘုန်းကြီး ရှင်နန္ဒိယ (၁၈၉၁—၁၉၆၆)၊ ဘုန်းကြီးစီပိုး ခေါ် ရှင်ပညာ ဝံသတို့ကို လွှဲအပ်၍ တရားပြစေသည်။ ထိုဆရာတော်သုံးပါးလုံးပင် ပဋိပတ္တိအရာတွင် တရားထူးရသည်ဟု ထင်ရှားကျော်စောသည်။

ရှင်သီလသည် ပဋိပတ္တိ ကိုယ်တိုင်ကျင့်ကြံအားထုတ်ရုံမျှမက ပဋိပတ္တိအရာ ကိုယ်တွေ့တရားထူးရသော တပည့်ကြီးသုံးပါးနှင့် ပရိယတ် ကျွမ်းကျင်သော လူပြန်တော် ကပ္ပိယကာရက ဦးအုန်းတို့အား နိုင်ငံအနှံ့ ပဋိပတ္တိကျင့်စဉ် ဝိပဿနာနည်းလမ်းများ စူးစမ်းနည်းခံစေသည်။ အိန္ဒိယနှင့် သီဟိုဠ် (သီရိလင်္ကာ) ဘုရားဖူးမှအပြန်တွင် မိတ္ထီလာမြို့မှ ကမ္မဋ္ဌာန်း နည်းပြ ရှင်ဝိဇယကို ပင့်ဆောင်၍ မင်းရပ်တောရ၌ တရားပြစေခဲ့ပါသည်။ တရားစခန်းတွင် ဇေယျဝတီဆရာတော် ရှင်သီလသည် ယောဂီများ ထင်မြင်လာခဲ့သော ကိုယ်တွေ့တရားကို ကျမ်းဂမ်နှင့် ညီ-မညီ မေးမြန်း စိစစ်သော်လည်း အဆင့်အတန်း မဆုံးဖြတ်ဘဲ ရှေ့ကိုတိုး၍ ဆက်လက် အားထုတ်ခိုင်းလေ့ရှိသည်။

၁၉၁၉ ခုနှစ်တွင် ထားဝယ်မြို့ ပိန္နဲတောရပ်ကွက် လောကမာရဇိန် ဘုရားကြီး ဝေယျာဝစ္စအသင်းက စေတိယသင်္ဂဏနှင့်ပတ်သက်၍ အပ်

မအပ် လျှောက်ထားရာ 'စေတိယသဿက ဝိနိစ္ဆယစာတမ်း' ရေးသားခဲ့သည်။ ၁၉၃၃ ခုနှစ် သက်တော် ၆၀ သိက္ခာ ၄၀ ဝါအရ၌ ဇေယျဝတီစာသင်တိုက်ကြီးကို တပည့်စာချ ရှင်တေဇဝန္တ (၁၈၈၂—၁၉၇၉) ဦးဆောင်သော နာယကအဖွဲ့အား လွှဲအပ်၍ ဇာတိရပ်ရွာ မင်းရပ်တောကျောင်း ပြောင်း၍ ပရိယတ္တိ ကျင့်ကြံအားထုတ်သည်။ တပည့်ကြီး ရှင်တေဇဝန္တမှာ ဉာဏ်ပညာထက်မြက်၍ လောကီ၊ လောကုတ် စွယ်စုံကျွမ်းကျင်၏။ နောင်အခါ ဒုတိယဇေယျဝတီဆရာတော်၊ ကူးတို့နိကာယ အဌမမြောက် ဂိုဏ်းချုပ်ဆရာတော်အဖြစ် တင်မြှောက်ခံရသည်။ တိုက်ကြပ်ဆရာတော် ရှင်သာဂရ (၁၈၉၈—၁၉၉၁) မှာ နောင်အခါ တတိယ ဇေယျဝတီဆရာတော်၊ ကူးတို့နိကာယ ၁၁မမြောက်ဂိုဏ်းချုပ်အဖြစ် တင်မြှောက်ခံရသည်။ စာချ ရှင်ဝီရိယသည် နောင်အခါ စတုတ္ထဇေယျဝတီဆရာတော်၊ ကူးတို့နိကာယ ၁၃မ ဂိုဏ်းချုပ်ဆရာတော်အဖြစ် တင်မြှောက်ခံရသည်။

၁၉၃၃ မှ ၁၉၄၂ ခုနှစ်အထိ မင်းရပ်တောကျောင်းတွင် ပရိယတ္တိ ကျင့်ကြံအားထုတ်သည်။ ၁၉၄၂ ခုနှစ်တွင် စစ်ဘေးကြောင့် လောင်းလုံမြို့ အောင်သပြေကျောင်း၊ ထို့မှတစ်ဆင့် ဇေယျဝတီစာသင်တိုက်၊ ထို့မှတစ်ဖန် မင်းရပ်တောကျောင်းပြန်၍ သီတင်းသုံးသည်။ ၁၉၅၀ ပြည့်နှစ်တွင် နယ်မြေအေးချမ်းမှု အခြေအနေအရ ထားဝယ်မြို့ ဇေယျဝတီစာသင်တိုက်သို့ ပြန်၍ သီတင်းသုံးသည်။ ဇေယျဝတီစာသင်တိုက်၏ ပရိယတ္တိစာပေသင်ကြားပို့ချရေးကို တပည့်ကြီးများနှင့် လွှဲထားပြီးဖြစ်၍ ဝိပဿနာကျင့်ကြံအားထုတ်လိုသူ ရဟန်းရှင်လူများအား ကိုယ်တိုင် ဟောပြောနည်းညွှန်ပြသ၏။ ထိုနှစ်မှာပင် ဇေယျဝတီစာသင်တိုက်၏ မြောက်ဘက်လယ်မြေ ၆ ဧကဝယ်၍ ဇေယျဝတီ ပဋိပတ္တိသာသနာ့ရိပ်သာ တည်ထောင်၏။ ကျောင်း၊ ဇရပ်၊ ကမ္မဋ္ဌာန်းကျောင်းများ ပေါ်ထွန်းလာ၍ နိုင်ငံတော်အစိုးရ၏ ပဋိပတ္တိ သာသနာ့ရိပ်သာ နှစ်စဉ် ထောက်ပံ့လှူဒါန်းငွေ ရရှိသည်။ ၁၉၅၄—၁၉၅၆ ခုနှစ် ဆဋ္ဌမ သင်္ဂါယနာတင်ပွဲသို့ နိုင်ငံတော်သမ္မတနှင့် နိုင်ငံတော်ဝန်ကြီးချုပ်က ပင့်လျှောက်သော်လည်း ဇရာဒုဗ္ဗလ ဒုက္ခကြောင့် မကြွနိုင်တော့ချေ။

သက်တော် ၈၃ သိက္ခာ ၆၃ ဝါအရ ၁၉၅၇ ခုနှစ် မေလ ၁၄ ရက် တနင်္လာနေ့ ညနေ ၆ နာရီတွင် ထားဝယ်မြို့ ဇေယျဝတီကျောင်းတိုက်၌

တစ်ဘဝ တစ်ခန္ဓာ ချုပ်ငြိမ်းခဲ့ပါသည်။ ဆရာတော်၏ မှာတမ်းကို ပါဠိ-မြန်မာ နှစ်ဘာသာဖြင့် ကျောက်စာရေးထိုးခဲ့ပါသည်။ ထိုမှာတမ်းတွင် 'ငါသည်တစ်မူကား ပစ္စည်းလေးပါးတည်းဟူသော (အာမိသ) အမွေကို မငဲ့မူ၍ တပည့်တို့၌ သနားခြင်း စသော နာယကဂုဏ် ခြောက်ပါးကို နှလုံးသွင်းလျက် ချစ်ခြင်း၊ မုန်းခြင်း စသော အဂတိတရားကို ဆုံးမ၍ မြတ်စွာဘုရားသာသနာတော်ကို အသက်ကဲ့သို့ စောင့်ရှောက်ခဲ့ပြီး သူတော်ကောင်းဖြစ်ကုန်သော သင်တပည့်တို့သည်လည်း ငါ့ကို သက်သေပြု၍ ဘုရားရှင်၏ သာသနာကို စောင့်ရှောက်ကြကုန်လော့' ဟု ရေးသားခဲ့သည်။





## တောင်ပေါက်ဆရာတော်
## ရှင်စက္ကပါလ
(၁၈၇၇ — ၁၉၅၃)

ကိုလိုနီခေတ်နှင့် လွတ်လပ်ရေးခေတ်ဦး မြန်မာနိုင်ငံ သာသနာဝင်တွင် မန္တလေး မဟာဝေယန်ဘုံသာဆရာတော်၊ မော်လမြိုင် တောင်ပေါက်ဆရာတော် အမည်နှစ်မျိုးဖြင့် ထင်ရှားသည်။ ပါဠိ ပိဋကတ်နှင့် ဘာသန္တရ ဒေသန္တရ စွယ်စုံ ကျွမ်းကျင်နှံ့စပ်သည်။ သင်္ဃာဆရာတော်၊ ဝဇီရာရာမ ဆရာတော်တို့၏ အမွေခံ သာသနာပြုအဖြစ် မော်လမြိုင်မြို့ ပရိယတ္တိသဒ္ဓမ္မပါလအသင်းကြီး (၁၉၃၀)ကို တည်ထောင်၍ ပရိယတ္တိစာမေးပွဲများ ဦးဆောင်ကျင်းပခဲ့သည်။ သင်္ခတဘာသာကို မြန်မာဘုရင်လက်ထက် ပုဏ္ဏားတော်ကြီး သမာရသျှ၊ ရှင်စန္ဒြမဏိ (နောင် အိန္ဒိယသာသနာပြု ကုသိနာရုံ ဆရာတော်) တို့ထံ သင်ယူခဲ့သည်။ အိန္ဒိယနှင့် သီရိလင်္ကာနိုင်ငံတွင် ဘာသန္တရ ထပ်မံလေ့လာ၍ တိမ်မြုပ်ပျောက်ကွယ်နေသော စာပေကျမ်းဂန်များ ရှာဖွေစုဆောင်းပြီး နိဿယ ပြန်ဆိုခဲ့သည်။ သင်္ခတ၊ သီဟဠ၊ ပါဠိ စသော ဘာသန္တရ နိဿယကျမ်းပေါင်း ၅၀ ကျော် ပြုစုခဲ့သည်။ အထူးသဖြင့် ကျမ်းပေါင်း (၃၃၆) ကျမ်းကို ကိုးကား၍ အိန္ဒိယတွင် ကွင်းဆင်း သုတေသနပြုထားသည့် “ဗုဒ္ဓသာသနိက ပထဝိဝင်ကျမ်းကြီး” (၁၉၃၅) သည် အလွန်ထင်ရှားလှပါသည်။ ကာလကတ္တားတက္ကသိုလ် ပါဠိပါမောက္ခ ဒေါက်တာဘရူးဝါးက သူကြီး ဂေဇက်ဦးခင်မောင်အား ‘မြန်မာပြည်မှာ ဆရာတော်ပေါင်းများစွာနှင့် တွေ့ကြုံဆွေးနွေးဘူး၏။ ယခုဆရာတော်လောက် ခေတ်မီသောဆရာတော်ကို မတွေ့ကြုံဘူး’ဟု ပြောဆိုခဲ့ဘူးပါသည်။

**စက္ကပါလ၊ ရှင်၊ တောင်ပေါက်ဆရာတော် —**

၁၈၇၇ ခုနှစ် နိုဝင်ဘာလ ၂၀ ရက် အင်္ဂါနေ့တွင် မကွေးခရိုင် မြင်ကွန်းမြို့ ဈေးရပ်၌ ဖွားသည်။ အဖ ဦးရော အမိ ဒေါ်သက် ဖြစ်သည်။ မွေးချင်းမောင်နှမ နှစ်ယောက်တွင် အကြီး၊ အမည် မောင်ဘခင် ဖြစ်သည်။ ဖခင်မှာ သီပေါမင်းလက်ထက် ပျဉ်းမနား (နယ်ကျန်) စစ်ကဲ၊ အမိမှာ မလွန်မင်းလှ မြို့သူကြီးရိုးရာ ဖြစ်သည်။

မြို့လုလင်ခင်ကြီး ဦးထိန်သီးထံ စတင် ပညာသင်ခဲ့သည်။ မိခင်ဘက် အဖိုး ဦးရွှေမိုးထံမှ ဗေဒင်နှင့် လောကီပညာများ သင်ယူခဲ့သည်။ ၈ နှစ်အရွယ်ထိ မြင်ကွန်း၊ မင်းလှ၊ ပျဉ်းမနား။ မန္တလေး ပါတော်မူပြီးနောက် မင်းပြောင်းမင်းလွှဲတွင် မိဘများနှင့်အတူ ဟသ်ာတနယ် အဖျောက်ပဒုံးပိတ်ရွာ ပြောင်းရွှေ့နေထိုင်သည်။ မိဘနှစ်ပါး ကွယ်လွန်၍ မောင်နှမနှစ်ဦးတည်း ကျန်ရစ်စဉ် ၁၈၉၃ ခုနှစ်တွင် ဘုန်းတော်ကြီး ဦးဝါယာမနှင့်အတူ ပဒုံးပိတ်ရွာမှ မော်လမြိုင် လိုက်ပါခဲ့သည်။ ဦးဝါယာမမှာ မော်လမြိုင် ဝဇီရာရာမဆရာတော်၏ တပည့်ဖြစ်၍ သိမ်သမုတ်ရန် ပဒုံးပိတ်ရွာ ကြွရောက်လာခြင်းဖြစ်သည်။

၁၆ နှစ်အရွယ်တွင် မော်လမြိုင်မြို့ မန်ကျည်းတော ရွှေကျောင်းရောက်သည်။ မန်ကျည်းတော ရွှေကျောင်းမှာ သင်္ဃဇာဆရာတော် (၁၈၁၅—၁၈၈၆) နှင့် တပည့်ကြီး ပဇ်ရာရာမဆရာတော် (၁၈၃၀—၁၉၀၉) တို့ မော်လမြိုင်ရောက်စ သီတင်းသုံးရာ ကျောင်းဖြစ်သည်။ မန်ကျည်းတော ရွှေကျောင်းမှ ရတနာဘုံမြင့်ကျောင်း ဝဇီရာရာမဆရာတော်ထံ ရောက်သည်။ ဝဇီရာရာမဆရာတော်ထံ ပညာသင်ကြားနေစဉ် ကျောင်းဒကာ ဦးတိုးလုံ၊ ကျောင်းအမ ဒေါ်သွယ်၊ ဝဇီရာရာမဆရာတော်၏ တပည့် မြန်မာမင်းလက်ထက် ပထမပြန်၊ လူပျံတော်ပညာရှိ ဆရာကြီးဦးရန်နှင်းတို့၏ သားရင်းပမာ စောင့်ရှောက်ခံရသည်။

၁၇ နှစ် ၁၈၉၄ ခုတွင် ဝဇီရာရာမဆရာတော်ကို ဥပဇ္ဈာယ်ယူ၍ သာမဏေပြုသည်။ ဘွဲ့ **ရှင်စက္ကပါလ** ရှင်ဒါယကာမှာ တောင်ပေါက်ကျောင်းဒါယကာ ဦးတိုးလုံ ကျောင်းအမ ဒေါ်သွယ် ဖြစ်သည်။ သာမဏေ ၃ ဝါရသည့်တိုင် ဝဇီရာရာမဆရာတော်၊ တချရှင်ကေတုမာလာတို့ထံ

ပရိယတ္တိစာပေ သင်ယူသည်။ စာချ ရှင်ကေတုမာလာမှာ အင်္ဂလိပ်ခေတ် ပထမဆုံး ပထမကျော်၊ နောင် ရတနာဘုံပျံ့ဆရာတော်အဖြစ် ထင်ရှား သည်။ ရှင်စက္ကပါလသည် ဝဇီရာရာမဆရာတော်ထံ ပညာသင်နေစဉ် သီရိလင်္ကာ ရဟန်းသာမဏေများနှင့်အတူ စာတက်ခဲ့ရရာ ပါဠိစကား အပြောအဆို၊ ဂါထာဗန္ဓအဖွဲ့နှင့် သီဟိုဠ်ဘာသာတို့တွင် ငယ်စဉ်ကပင် ကျွမ်းကျင်လိမ္မာခဲ့သည်။

အသက် ၂၀ ပြည့်ချိန် ၁၈၉၇ ခုနှစ် မတ်လ ၁၉ ရက် သောကြာ နေ့တွင် ဝဇီရာရာမဆရာတော်ကို ဥပဇ္ဈာယ်ယူ၍ ရတနာဘုံမြင့်ကျောင်းတိုက် သုမင်္ဂလပသာဒနီသိမ်၌ ရဟန်းဖြစ်သည်။ ရဟန်းဘွဲ့ ရှင်စက္ကပါလ၊ ရဟန်း ဒါယကာမှာ တောင်ပေါက်ကျောင်းဒကာ ဦးတိုးလုံ ကျောင်းအမ ဒေါ်သွယ် ဖြစ်သည်။ မော်လမြိုင်မြို့ ရာဇဂုရုတံဆိပ်တော်ရ ကတိုးဆရာတော်၊ သီရိလင်္ကာရဟန်းတော် ရှင်ဒေဝါနန္ဒတို့က ကမ္မဝါစာဆရာတော်အဖြစ် ဆောင်ရွက်သည်။ ရှင်ဒေဝါနန္ဒမှာ နောင်အခါ သီရိလင်္ကာ ဥပသံဃာရာဇာ ဖြစ်သည်။ ရဟန်း ၃ ဝါရသည်တိုင် ဝဇီရာရာမဆရာတော်ထံ ဆက်လက် ပညာဆည်းပူးရာ သဒ္ဒါ၊ သင်္ဂြိုဟ်၊ ခုဒ္ဒသိက္ခာ၊ ဝိနည်းငယ်သုံးစောင်၊ အဘိဓာနပ္ပဒီပိကာ၊ ပါရာဇိကဏ်အဋ္ဌကထာ၊ နေတ္တိပါဠိတော် အဋ္ဌကထာ ဋီကာ၊ သဒ္ဒါနီတိ သုတ္တမာလာကျမ်းများကို ကျနသေချာ တတ်မြောက် ခဲ့သည်။

၁၉၀၁ ခုနှစ် ဇန်နဝါရီလ ၃ ရက်နေ့တွင် ဝဇီရာရာမဆရာတော် ဦးဆောင်၍ ရဟန်းသံဃာ ၈၀ ကျော်၊ လူဒါယကာ ဒါယိကာမ ၄၀၀ ကျော်တို့ သီရိလင်္ကာနိုင်ငံသို့ တတိယအကြိမ် ကြွရောက်ရာ အတူလိုက်ပါ ခဲ့သည်။ သီရိလင်္ကာမှအပြန် ဆရာကြီး ဦးရန်နှင်း၏ ညွှန်ကြားမှုဖြင့် ရန်ကုန်မြို့ ဗဟန်းရပ် ဝေဠုဝန်ဂိုဏ်းတည် ဝေဠုဝန်ဆရာတော် ရှင်ပဏ္ဍဝံသ (၁၈၆၅—၁၉၄၃) ထံ အဘိဓမ္မာ ပါဠိတော် အဋ္ဌကထာ ဋီကာများ သင်ယူ ခဲ့သည်။ ဝေဠုဝန်ဆရာတော်မှာ အဘိဓမ္မာဆိုင်ရာ နေတ္တိ၊ မူလဋီကာ အပို့အချကောင်း၍ အဘိဓမ္မာပါရဂူအဖြစ် ထင်ရှားသည်။ ထို့ပြင် အဘိ ဓမ္မာဆိုင်ရာ အလွန်ထင်ရှားလှသော မြို့ပြင်ကြီးဆရာတော် ရှင်စန္ဒဝံသ (၁၈၂၇—၁၉၀၁)၊ ပြည်မြို့ ပထမ ပွင့်လှသိမ်ကုန်းဆရာတော် ရှင်နာရဒ (၁၈၃၂—၁၉၀၂) တို့၏ နည်းခံတပည့်ဖြစ်သည်။ ရှင်စက္ကပါလသည်

ဝေဠုဝန်ဆရာတော်ထံ ၃ နှစ် ပညာသင်ယူနေစဉ် တဖက်တွင်လည်း ပရိယတ္တိစာပေ ပြန်လည်ပို့ချသည်။

ရဟန်း ၇ ဝါရ ၁၉၀၃ ခုနှစ်တွင် ဝဇီရာရာမဆရာတော်၏ အမိန့်အရ မန္တလေးမြို့ အနောက်ပြင် စကုတိုက်ပန်းတိမ်ကျောင်း ပြောင်းရွှေ့သီတင်းသုံး၍ စာချအကျော် ချမ်းသာကြီးဆရာတော် ရှင်ပဏ္ဍိဝံသ၊ ဆင်တဲဆရာတော် ရှင်ဝိမလတို့ထံ သင်ရိုးပိဋကတ်ကို နေ့ဝါ ညဝါဖြင့် ထပ်မံသင်ယူသည်။ ကိုယ်တိုင်လည်း ရဟန်းသာမဏေများကို ပြန်လည် စာပေပို့ချသည်။ ထို့ပြင် မြန်မာမင်းလက်ထက် ပုဏ္ဏားတော် သမာရသျှံထံ သင်္ခတဘာသာ နည်းခံသင်ယူသည်။ ပုဏ္ဏားတော်ကြီး ကွယ်လွန်ပြီး သင်္ခတဘာသာကို မန္တလေး ပတ္တမြားတိုက်တွင် ပရိယတ္တိ စာပေသင်ယူနေသော ရခိုင်ရဟန်းတော် ရှင်စန္ဒိမဏိထံ ဆက်လက်သင်ယူသည်။ ရှင်စန္ဒိမဏိမှာ ငယ်စဉ် သာမဏေဘဝကပင် မဟာဗောဓိအသင်း တည်ထောင်သူ သီရိလင်္ကာအမျိုးသား အနာဂါရိကဓမ္မပါလ (၁၈၆၄—၁၉၃၃) ၏ အစီအစဉ်ဖြင့် အိန္ဒိယတွင် ပညာသင်ခဲ့ပြီး ပရိယတ္တိစာပေ သင်ယူရန် မန္တလေးရောက်နေခြင်းဖြစ်သည်။ နောင်အခါ အိန္ဒိယ သာသနာပြု ကုသိနာရုံဆရာတော် ရှင်စန္ဒမဏိ (၁၈၇၅—၁၉၇၂) အဖြစ် ထင်ရှားသည်။

၁၉၀၄ ခုနှစ်တွင် ဝဇီရာရာမဆရာတော် သီတင်းသုံးရာ စစ်ကိုင်းတောင်ရိုး ခိုတောင်တောရ ရတနာဘုမ္မိချောင်၌ ပရိယတ္တိစာပေပို့ချသည်။ ၁၉၀၅ ခုနှစ်တွင် ဝဇီရာရာမဆရာတော်နှင့်အတူ မော်လမြိုင်လိုက်ပါ၍ ပရိယတ်စာပေပို့ချသည်။ ၁၉၀၆ ခုနှစ်တွင် ဝဇီရာရာမဆရာတော်နှင့်အတူ စစ်ကိုင်းတောင်ရိုး ရတနာဘုမ္မိချောင် ပြန်လည်သီတင်းသုံးကာ ပရိယတ္တိစာပေပို့ချခြင်း၊ ဂန္ထန္တရကျမ်းဂန်ပြုစုခြင်းတို့ကို ၁၅ ဝါ တိုင်တိုင် ဆောင်ရွက်သည်။

၁၉၂၁ ခုနှစ်တွင် မန္တလေးမြို့ အနောက်ပြင် ဆိုင်းတန်းရပ် ကျောင်းဒါယကာကြီး ဦးဘိုး၊ သား ဆန် ဦးသန်းတို့၏ တစ်သိန်းကျော်တန် မဟာဝေယန်ဘုံသာ အုတ်ကျောင်းအလှူကို လက်ခံ၍ ပရိယတ္တိစာပေပို့ချသည်။ အထူးသဖြင့် သင်္ခတဘာသာ ကျမ်းစာများကို ရဟန်းရှင်လူတို့အား ပို့ချခဲ့ရာ မဟာဝေယန်ဘုံသာ ဆရာတော်ဟု ထင်ရှားပါသည်။ ၁၉၂၄ ခုနှစ်

တွင် မဟာဝေယန်ဘုံသာ ကျောင်းတိုက်အတွင်း "စက္ကာလင်္ကာရ" သိမ်ကို ဦးစီးသမုတ်သည်။ ၁၉၂၅ ခုနှစ်တွင် အိန္ဒိယနိုင်ငံ ဗုဒ္ဓသာသနိက သမိုင်းဝင် နေရာဌာနများကို လှည့်လည်လေ့လာသည်။ ထို့နောက် သီရိလင်္ကာနိုင်ငံသို့ ဒုတိယအကြိမ် ကြွရောက်သည်။ သီရိလင်္ကာတွင် သဒ္ဒါ၊ ဆန်း၊ အဘိဓာန်၊ အလင်္ကာကျမ်းများ၏ သီဟိုဠ်နိဿယ အမျိုးမျိုးကို သုံးလကြာ ရှာဖွေ စုဆောင်းခဲ့သည်။ အပြန်တွင် သီဟိုဠ်နိဿယ၊ သင်္ခတကျမ်းဂန်များနှင့် တိုက်ဆိုင်၍ ကျမ်းဂန်အသီးသီး၏ ပုဒ်ပါဌ် အက္ခရာမှားများကို စီစစ် ဝေဖန် သုတ်သင်ခြင်း၊ နိဿယသစ် ပြန်ဆိုခြင်းတို့ကို အလေးပေး ဆောင် ရွက်သည်။

၁၉၂၈ ခုနှစ်တွင် မိဘပမာ စောင့်ရှောက်ခဲ့သော ရှင် ရဟန်း ဒါယကာ မော်လမြိုင် တောင်ပေါက် ကျောင်းဒါယကာကြီး ဦးတိုးလုံ၏ လျှောက်ထားချက်အရ မော်လမြိုင်ကို ပြန်လည်ပြောင်းရွှေ့ သီတင်းသုံး သည်။ တောင်ပေါက်ကျောင်း၌ ပရိယတ္တိစာပေပို့ချခြင်း၊ ကျမ်းဂန် သုတ်သင် တည်းဖြတ်ခြင်း၊ နိဿယပြန်ဆိုခြင်းတို့ကို ဆက်လက်ဆောင်ရွက်သည်။ ထို့ပြင် မော်လမြိုင်မြို့ ပရိယတ္တိသာသနာ တည်တံ့ထွန်းကားရေးအတွက် ပရိယတ္တိသဒ္ဓမ္မပါလ အသင်းကြီးကို ၁၉၃၀ ပြည့်နှစ်တွင် ဦးဆောင်တည် ထောင်၍ ပရိယတ္တိစာမေးပွဲများ ဦးဆောင်ကျင်းပပေးခဲ့သည်။

၁၉၃၅ ခုနှစ်တွင် အင်္ဂလိပ်အစိုးရ၏ "အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။

ပြုစုခဲ့သော ကျမ်းပေါင်း ၆၀ နီးပါး ရှိသည်။ အချို့မှာ အဘိဓာန် ချနက် နိဿယ၊ မောဟဝိစ္ဆေဒနီ အဌကထာ နိဿယ၊ မုဒ္ဓ ဗောဓဗျာကရဏ နိဿယ (သင်္ခတဘာသာပြန်)၊ အမရကောသ နိဿယ (သင်္ခတဘာသာ ပြန်)၊ အဘိဓမ္မာဝတာရ အဌကထာနိဿယ၊ ဝတ္တာရဏနိဿယ (သီဟိုဠ် ဘာသာပြန်)၊ ဟာလောဝတာရ ချနက်နိဿယ၊ ကစ္စာယန ဓါတု မဉ္ဇူသာ နိဿယ၊ ဂန္ဓာဘာရဏ နိဿယ၊ သဒ္ဒသာရတ္ထဇာလိနီ နိဿယ၊ ရသဝါ ဟိနီဂါထာများ နိဿယ၊ ပဉ္စတန္တရ နိဿယ (သင်္ခတဘာသာပြန်)၊ ဗုဒ္ဓသာသနိက ပထဝီဝင်ကျမ်းကြီး၊ ဝုတ္တောဒယ ဆန်းနိဿယ၊ သက္ကစ္စခဏ္ဍ နိဿယ (သီဟိုဠ်ဘာသာပြန်)၊ ပါတက ပကာသ ဗျာကရဏ နိဿယ

(ပါကတ ဘာသာပြန်)၊ မဟာဗောဓိဝံသ အဋ္ဌကထာ နိဿယ စသည်တို့ ဖြစ်သည်။

၁၉၃၈ ခုနှစ်တွင် ပါတကမဥ္စရီခေါ် ပါတက ဗျာကရိုဏ်းကျမ်း ပြုစုရန် ရန်ကုန်မြို့ သရက်တောကျောင်းတိုက် တောင်ဘီလူးကျောင်း၌ ဝါကပ်သည်။ စာသင်စာချ ကျမ်းဂန် ပုဒ်ပါဋ် အက္ခရာတည်းဖြတ်ရာတွင် ဇွဲလုံ့လကြီးမား၍ ဘာသန္တရများစွာ ကျွမ်းကျင်လိမ္မာလှသော တောင်ပေါက်ဆရာတော်ဟု ထင်ရှားသည်။ နိုင်ငံတော် သံဃမဟာနာယက၊ ပါဠိ ပညာရေးအဖွဲ့ ဥက္ကဋ္ဌ၊ ဆဋ္ဌသင်္ဂါယနာ ဩဝါဒါစရိယ၊ သံဃာ့နာယက၊ ဝိနိစ္ဆယ ဝိနယဓရအဖြစ် တင်မြှောက်ခံရသည်။

သက်တော် ၇၆ သိက္ခာ ၅၀ ဝါ အရ ၁၉၅၃ ခုနှစ် ဇူလိုင်လ ၂၉ ရက် ဗုဒ္ဓဟူးနေ့ ညနေ ၄း၂၂ နာရီတွင် မော်လမြိုင် တောင်ပေါက်ကျောင်းတိုက် သဒ္ဓမ္မောဒယကျောင်း၌ ခန္ဓာဝန်ချခဲ့ပါသည်။





## မဟာဝိဇယာရာမဆရာတော်
## ရှင်ဇဝန
(၁၈၇၇ — ၁၉၅၉)

မြန်မာနိုင်ငံ ပရိယတ္တိသာသနာဝင်တွင် ပခုက္ကူအရှေ့တိုက် ခေါ် မဟာဝိဇယာရာမတိုက်တည် မဟာဝိဇယာရာမဆရာတော် အမည်ဖြင့် ထင်ရှားသည်။ ဒုတိယကမ္ဘာစစ်မတိုင်မီ ပခုက္ကူအလယ်တိုက် ခေါ် မဟာဝိသုတာရာမတိုက်၌ စာလိုက်သံဃာ ၁၀၀၀ နီးပါးရှိစဉ်က မဟာဝိဇယာရာမတိုက်၌ သံဃာ ၆၀၀ ခန့် ရှိသည်။ ပခုက္ကူစာချနည်း၏ အာဒိကမ္မိက ရေစကြိုဆရာတော် ရှင်ဂန္ဓသာရ၏ လက်ရုံးတပည့်ကြီးတစ်ပါးဖြစ်၍ ပခုက္ကူစာချနည်း၏ မီးရှူးတန်ဆောင်ပမာ အလွန်ထင်ရှားသည်။ ပါဠိ သက္ကတ ဘာသန္တရနှင့် စာသင်စာချ အဟောအပြော စွယ်စုံထူးချွန်သည်။ ဝိနည်းပါဠိတော်ငါးကျမ်း နိဿယ၊ သံယုတ်ပါဠိတော်ငါးကျမ်း နိဿယ၊ နေတ္တိ၊ ဝိသုဒ္ဓိမဂ် အဋ္ဌကထာ၊ အမရကောသ သက္ကတ နိဿယသစ် အပါ အဝင် ကျမ်းပေါင်း ၃၀ ကျော် ပြုစုခဲ့သည်။ ကိုလိုနီခေတ် ၁၉၂၈ ခုနှစ် ကပင် အဂ္ဂမဟာပဏ္ဍိတဘွဲ့ ဆက်ကပ်ခံရသည်။ ဂျပန်ခေတ်တွင် နိုင်ငံတော် သံဃမဟာနာယက၊ ဆဋ္ဌသင်္ဂါယနာတွင် သံဃမဟာနာယက၊ အဘိဓဇ မဟာရဋ္ဌဂုရုဘွဲ့တံဆိပ်များ ဆက်ကပ်ခံရသည်။ ဆဋ္ဌသင်္ဂါယနာတွင် အမေး၊ အဖြေ ပြုလုပ်ရန် အကြံပြု၍ ကိုယ်တိုင်လည်း အမေးပုစ္ဆကအဖြစ် ဆောင်ရွက်ခဲ့သည်။ အထူးအားဖြင့် စာမေးပွဲကို အဓိကမထားဘဲ ပိဋကတ် သုံးသွယ်၊ နိကာယ်ငါးရပ် အကုန်အစင် ပို့ချသင်ကြားသည့် ပခုက္ကူစာချနည်း ဦးဆောင်ဆရာတော်တစ်ပါးအဖြစ် အလွန် ကျော်စောထင်ရှားပါသည်။

ဇဝန၊ ရှင်၊ မဟာဝိဇယာရာမဆရာတော် —

၁၈၇၇ ခုနှစ် ဩဂုတ်လ ၁၄ ရက် အင်္ဂါနေ့တွင် မြင်းခြံခရိုင် ညောင်ဦးမြို့နယ် သေရောက် ဇီးတောရွာ၌ ဖွားသည်။ အဖ ဦးပိန်ကျော် အမိ ဒေါ်သောင်း ဖြစ်သည်။

၁၀ နှစ်အရွယ်တွင် သေရောက် ရွှေမြင်ထင်ကျောင်း ဂိုဏ်းအုပ် ဆရာတော် ရှင်စန္ဒိမာ (၁၈၆၂—၁၉၃၀) ထံ စတင် ပညာသင်သည်။ ၁၂ နှစ်တွင် ရှင်စန္ဒိမာကို ဥပဇ္ဈာယ်ယူ၍ သာမဏေဖြစ်သည်။ မိဘနှစ်ပါးက ရှင်ဒါယကာခံသည်။ သာမဏေဘွဲ့ ရှင်ဇဝန၊ ရှင်ဂမ္ဘီသာရ အမည်နှစ်မျိုး ရသည်။ ရှင်ဇဝနအမည်ဖြင့် ထင်ရှားသည်။ သာမဏေဝတ်ဖြင့် ဥပဇ္ဈာယ် ဆရာထံတွင် ပရိယတ်စာပေ သင်ယူသည်။

သာမဏေ ၇ ဝါရ ၁၈၉၆ ခုနှစ် နိုဝင်ဘာလ ၁၉ ရက် ကြာသပတေး နေ့တွင် ရှင်စန္ဒိမာကိုပင် ဥပဇ္ဈာယ်ယူ၍ ရဟန်းဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ဇဝန ဖြစ်သည်။ ရဟန်း ၂ ဝါရသည့်တိုင် ဥပဇ္ဈာယ်ဆရာနှင့် ပခန်းကြီး တေမျှော်ဆရာတော်ထံ ပရိယတ်စာပေ ဆက်လက်ဆည်းပူးသည်။ ရဟန်း ၂ ဝါရတွင် ပခုက္ကူမြို့ ပန်းစွာတိုက် ရေစကြိုဆရာတော် ရှင်ဂန္ဓသာရထံ နိကာယ်ကြီးများ သင်ယူသည်။ ရဟန်း ၃ ဝါရတွင် မန္တလေးမြို့ကို ပြောင်းရွှေ့ ပညာသင်သည်။

ရဟန်း ၃ ဝါရမှ ၈ ဝါရသည့်တိုင် မန္တလေးမြို့ တောင်ပြင်ဒက္ခိဏာရာမ ဘုရားကြီးတိုက် တိုက်အုပ်ဆရာတော် ရှင်ဝိမလဗုဒ္ဓိ (၁၈၅၈—၁၉၄၃)၊ စာချအကျော် ဦးရန်ကုန် ခေါ် ရှင်သုဇာတာလင်္ကာရ (၁၈၄၇—၁၉၀၆)၊ စာချ ဦးဇာဂရ ခေါ် ရှင်ဇာဂရာဘိဝံသ (၁၈၆၇—၁၉၄၇)၊ ရာဇဂုရု ဘွဲ့တံဆိပ် နှစ်တန်ရ ကျီဝန် မိုးတားသာသနာပိုင် ရှင်သုဇာတ (၁၈၃၀—၁၉၀၂)၊ ရာဇဂုရု ဘွဲ့တံဆိပ်နှစ်တန်ရ မဟာဝေယန်ဘုံကျော်တိုက် မိုးကောင်းဆရာတော် ရှင်နာဂိန္ဒ (၁၈၃၃—၁၉၀၉)၊ မင်းရွာဆရာတော် ရှင်အရိယာလင်္ကာရတို့ထံ ပိဋကတ်စာပေများ သင်ယူသည်။ ရဟန်း ၆ ဝါရတွင် မိုးကောင်းတိုက်၏ ဂဏဝါစက စာချအဖြစ် ချီးမြှောက်ခံရသည်။

၈ ဝါရတွင် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် ရေစကြိုဆရာတော် ရှင်ဂန္ဓသာရထံ ပြန်လည်ပြောင်းရွှေ့၍ ကျောင်းနေစာချအဖြစ် ချီးမြှောက်

ခံရပါသည်။ ရေစကြိုဆရာတော်၏ လက်အောက် တိုက်တာဝန်ခံငါးပါး တွင် တစ်ပါးအပါအဝင်ဖြစ်သည်။ ၁၉၁၄ ခုနှစ်၊ အောက်တိုဘာ ၅ ရက်တွင် ရေစကြိုဆရာတော် ပျံလွန်ရာ ရှင်ပညာ (၁၈၇၈-၁၉၄၆) သည် မဟာဝိသုတာရာမဆရာတော် ဖြစ်လာသည်။ မဟာဝိသုတာရာမ တိုက်၌ ၂၃ ဝါ ရသည့်တိုင် ပိဋကတ်သုံးသွယ် နိကာယ်ငါးရပ်ကို ပို့ချခဲ့သည်။

၁၉၁၉ ခုနှစ် အောက်တိုဘာလ ၉ ရက် ကြာသပတေးနေ့တွင် ရှင်ဇဝနသည် ဇာတိ သေရောက် ရွှေမြင်ထင်ကျောင်းကို ပြန်လည် ကြွရောက်သည်။ ပခုက္ကူမှ ရှေ့နေကြီး ဦးဖိုးသောင်၊ ပေါင်လောင်းရှင် သူကြီး ဦးညှာ စသော ဒါယကာ ဒါယိကာမများ ပင့်လျှောက်ချက်အရ ထိုနှစ် နိုဝင်ဘာလ ၉ ရက် တနင်္ဂနွေနေ့တွင် ပခုက္ကူ ပြန်လည်ကြွရောက် သည်။ ဦးစွာ ကျောက်စေတီကျောင်းတိုက်၌ ယာယီကျောင်းဆောက် သီတင်းသုံး၍ ပရိယတ္တိစာပေ ပို့ချသည်။ ရန်ကုန်မြို့ ကြည့်မြင်တိုင် ဥယျာဉ်တိုက် အဂ္ဂမဟာပဏ္ဍိတ လေသာဆရာတော် လှူဒါန်းသည့် မန်ကျည်းတောကျောင်းမြေ၊ သူဌေး ဦးချင်း လှူသည့်မြေ၊ ပိုးကုန်သည် မတင့် လှူသည့်မြေနှင့် အစိုးရလှူမြေတို့တွင် ပေါ်ထွန်းလာသည့် မဟာ ဝိဇယာရာမတိုက်ကို အလှူခံယူ၍ ၁၉၂၃ ခုနှစ် ဧပြီလ ၂၈ ရက် စနေနေ့ တွင် ယာယီစာချရာ စံကျောင်းမှ မဟာဝိဇယာရာမတိုက် ပြောင်းရွှေ့ စာပေပို့ချရာ မဟာဝိဇယာရာမဆရာတော်ဟု အမည်ထင်ရှားခဲ့သည်။

၁၉၂၃ ခုနှစ်မှ ၁၉၄၂ ခုနှစ် ဒုတိယကမ္ဘာစစ်မီး ကူးလာသည့်တိုင် မဟာဝိဇယာရာမတိုက် အဆောကာရုံ အလယ်တိုက်ကျောင်းကြီးနှင့် ကျောင်းတိုက်ပေါင်း ၂၀ ကျော်၊ စာသင်စာချသံဃာ ၆၀၀ ခန့် အမြဲရှိခဲ့ရာ ပခုက္ကူစာချနည်း၏ မီးရှူးတန်ဆောင်ကြီးပမာ ထင်ရှားခဲ့သည်။ စာသင်စာချ သံဃာ ၁၀၀၀ ခန့်ရှိသော မဟာဝိသုတာရာမတိုက်ကို အလယ်တိုက်၊ မဟာဝိဇယာရာမတိုက်ကို အရှေ့တိုက်၊ သာသနဝိပုလာရာမ မန္တလေး ကျောင်းတိုက်ကို အနောက်တိုက်ဟု ခေါ်ဝေါ်ကြသည်။ တခါတရံ မဟာ ဝိသုတာရာမတိုက်မှ ခွဲထွက်သော မဟာဝိဇယာရာမတိုက်ကို အရှေ့တိုက်၊ မဟာဝိသုတာရာမကို အနောက်တိုက်ဟုလည်း ခေါ်ကြသည်။ ပခုက္ကူ စာသင်သားလောက၌ 'အနောက်မာယိန် အရှေ့ဉာဏ်' ဟု ဆိုရိုးရှိရာ

အနောက်တိုက် ခေါ် အလယ်တိုက် မဟာဝိသုတာရာမတိုက်မှ ရှင်မာယိန္ဒ (၁၉၀၃—၁၉၆၆) သည် စာချအရာ ထင်ရှားသကဲ့သို့ မဟာဝိဇယာရာမ အရှေ့တိုက်မှ ရှင်ဉာဏိန္ဒ (၁၈၉၅—၁၉၈၇) မှာလည်း စာချ အလွန် ထင်ရှားသည်။

မဟာဝိဇယာရာမဆရာတော် ရှင်ဇဝနသည် စာပေပို့ချရာတွင် ထင်ရှားရုံမျှမက အဟောအပြော စွယ်စုံထူးချွန်သည်။ ဝိနည်းငါးကျမ်း ပါဠိတော်နိဿယ၊ သံယုတ်ငါးကျမ်း ပါဠိတော်နိဿယ၊ အင်္ဂုတ္တိုရ် ၁၁ ကျမ်း ပါဠိတော်နိဿယ၊ သုတ်သီလက္ခန်၊ သုတ်မဟာဝါ၊ သုတ်ပါထေယျ ပါဠိတော်နိဿယ၊ ဝိသုဒ္ဓိမဂ် အဋ္ဌကထာနိဿယ၊ နေတ္တိပါဠိတော်နိဿယ၊ ပေဋကဝဏ္ဏာ ဝိသောဓနီ နိဿယ၊ အမရကောသ သက္ကတ နိဿယ၊ ဝိဝိဓဝိနိစ္ဆယ၊ ဝိနယဝိနိစ္ဆယ၊ သံဂီတိဝိနိစ္ဆယ၊ ဉာဏသံဝေဂကျမ်း၊ ပုတ်း စိပ်နည်း စသော ကျမ်းပေါင်းများစွာ ပြုစုခဲ့သည်။

မဗ္မဝိနယ၊ ဝိနိစ္ဆယ စွယ်စုံကျွမ်းကျင်၍ မန္တလေးမြို့ မဟာသံဃ ရာဇာ တောင်ခွင်သာသနာပိုင် ရှင်ဝိသုဒ္ဓါသီလာစာရ (၁၈၄၄—၁၉၃၈) ၏ ပခုက္ကူ ဒိစတြိတ်ဂိုဏ်းချုပ်ဘွဲ့တံဆိပ်၊ မကွေးခရိုင် သုဓမ္မာဝင်ဘွဲ့တံဆိပ် များ အပ်နှင်းခံရသည်။ ထို့ပြင် ၁၉၂၇ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။ ဂျပန်ခေတ် အဓိပတိ ဒေါက်တာဘမော် လက်ထက်တွင် နိုင်ငံတော် သံဃမဟာနာယက၊ လွတ်လပ်ရေးရပြီး နိုင်ငံ တော်ဩဝါဒါစရိယ၊ ဆဋ္ဌသင်္ဂါယနာ ဩဝါဒါစရိယ၊ သံဃမဟာနာယက အဖြစ် တင်မြှောက်ခံရသည်။ ဆဋ္ဌသင်္ဂါယနာတင်စဉ် သင်္ဂါယနာ အမေး အဖြေ ဆောင်ရွက်ရန် အကြံပေး၍ ကိုယ်တိုင်လည်း အမေးပုစ္ဆကအဖြစ် တာဝန်ယူ ဆောင်ရွက်ခဲ့သည်။

၁၉၅၆ ခုနှစ် မေလ ၄ ရက် ကြာသပတေး နေ့တွင် ဆဋ္ဌသင်္ဂါယနာ မဟာဓမ္မသဘင် အောင်ပွဲအခမ်းအနား၌ အဘိဓဇမဟာရဋ္ဌဂုရုဘွဲ့ ဆက်ကပ်ပူဇော်ခံရသည်။

သက်တော် ၈၂ နှစ် သိက္ခာ ၆၃ ဝါရ ၁၉၅၉ ခုနှစ် မတ်လ ၁ ရက် တနင်္ဂနွေနေ့တွင် ပခုက္ကူမြို့ မဟာဝိဇယာရာမတိုက်၌ တစ်ဘဝ တစ်ခန်းရပ် ချုပ်ငြိမ်းခဲ့ပါသည်။





## စွန်းလွန်းဆရာတော်
## ရှင်ကဝိ

(၁၈၇၈ — ၁၉၅၂)

မြန်မာနိုင်ငံ ပဋိပတ္တိသာသနာဝင်တွင် စွန်းလွန်းဆရာတော် အမည်ဖြင့် အလွန်ထင်ရှားသည်။ လူဝတ်ကြောင်ဘဝမှာပင် တရားထူးရ၍ ကိုရင်ဘဝဖြင့် တောထွက် ကျင့်ကြံအားထုတ်ရာ ရဟန်းကိစ္စ ပြီးမြောက်သည်ဟု ရှင်လူအများ၏ ယုံကြည်ကိုးစားခံရသည်။ အထူးသဖြင့် စာပေမတတ် ဉာဏ်ထုံထိုင်းလှသည့် တောင်သူယာလုပ် အိမ်ထောင်သည်ဘဝတွင် မြင်းခြံ စတီးဘုရားသား ကုမ္ပဏီစာရေးကြီး ဦးဘစံထံမှ လယ်တီဆရာတော်၏ အာနာပါနတရား နာကြားရကာ ကျင့်ကြံအားထုတ်ရာမှ တရားထူးရခဲ့သည်။ တရားထူးရပြီး ပရိယတ်ပဋိပတ်စွယ်စုံ ညောင်လွန့်ဆရာတော်၊ ပရိယတ်အကျော် ပဲခူးအဗ္ဗားရွာ ဖက်ပင်အိုင်ဆရာတော်၊ ကျမ်းပြုအကျော် တောင်သာဆရာတော် ရှင်အဂ္ဂဝံသတို့က တရားစစ်မေးရာ ကျေနပ်အားရခံရသည်။ ရသေ့ကြီးဦးခန္တီ၏ လျှောက်ထားချက်အရ ညောင်လွန့်တောရဆရာတော် သထုံ နေမိန္ဒရတောင် သိမ်သမုတ်ရာ လိုက်ပါကူညီခွင့်ရခဲ့ရာ ပိုမိုထင်ရှားလာသည်။ လွတ်လပ်ရေးခေတ်ဦးတွင် သူဌေးကြီး ဆာဦးသွင်၊ နိုင်ငံတော်ဝန်ကြီးချုပ် ဦးနုတို့၏ ပင့်လျှောက်ချက်အရ ရန်ကုန်မြို့ကို ကြွရောက် တရားပြခဲ့ရာ စွန်းလွန်းဝိပဿနာဟု ထင်ရှားခဲ့သည်။ ခန္ဓာဝန်ချပြီး ရုပ်ကလာပ် မပုပ်မသိုး ကျန်ရစ်ရာ မြင်းခြံ စွန်းလွန်းဂူကျောင်း၌ ယနေ့တိုင် ဖူးမျှော်နိုင်ပါသည်။

ကဝိ၊ ရှင်၊ စွန်းလွန်းဆရာတော် —

၁၈၇၈ ခု မတ်လ ၄ ရက် တနင်္လာနေ့တွင် မန္တလေးတိုင်း မြင်းခြံမြို့ အနီး စွန်းလွန်းရွာ၌ ဖွားသည်။ အဖ တောင်သူ ဦးသန့်၊ အမိ ဒေါ်တုတ် ဖြစ်သည်။ မွေးချင်း သုံးယောက်တွင် အလတ်၊ အမည် မောင်ကျော်ဒင် ဖြစ်သည်။

ငယ်စဉ်က မြင်းခြံမြို့ မင်းကျောင်းဆရာတော်ထံ ပညာသင်သည်။ ဉာဏ်ထိုင်းလှ၍ စာ ကောင်းကောင်းမတတ်ဘဲ ကျောင်းထွက်ခဲ့ရသည်။ ၁၅ နှစ်တွင် အရေးပိုင်ရုံး မင်းစေလုပ်သည်။ လခ ၁၀ ကျပ်ရသည်။ အရွယ်ရောက်လျှင် စွန်းလွန်းရွာသူ မရွှေရီနှင့် အိမ်ထောင်ကျသည်။ သားသမီး လေးဦး ထွန်းကားရာ သုံးဦးမှာ ငယ်စဉ်က ဆုံးပါးသည်။

အသက် ၃၀ တွင် မင်းစေ အလုပ်မှထွက်ပြီး မိဘရိုးရာ တောင်သူ ယာလုပ်သည်။ စီးပွားဥစ္စာ တစစ ဖြစ်ထွန်းလာ၍ အသက် ၄၂ နှစ်တွင် အမိဋ္ဌာန်ဖြင့် ဘုရားဆိမ်းတစ်ဆောင်ပူဇော်ပြီး အလှူပေးသည်။ ကုသိုလ် ကောင်းမှုများပြု၍ အိမ်တွင် ဘုရားပင့်ပူဇော်ရာ မြင်းခြံမြို့ စတီးဘရားသား ကုမ္ပဏီ စာရေးကြီး ဦးဘစ်ထံမှ လယ်တီဆရာတော်၏ အာနာပါနတရား နာကြားခဲ့ရသည်။ ထိုအချိန်မှစ၍ အာနာပါနကျင့်စဉ်ကို မပြတ်ရှုမှတ် ကျင့်ကြံအားထုတ်ရာ လောကီအကြားအမြင် ရလာသည်။ ထို့နောက် မောင်ရင်ပေါ် ချောက်တောထဲသွား၍ ကျင့်ကြံအားထုတ်ရာ ၁၉၂၀ ပြည့် ဩဂုတ် ၁၂ ရက် ကြာသပတေးနေ့ ည ၁၀ နာရီခန့်၌ ပထမအကြိမ် တရားထူး၊ စက်တင်ဘာ ၁၁ စနေနေ့ည ၁၀ နာရီခန့်၌ ဒုတိယအကြိမ် တရားထူး၊ အောက်တိုဘာ ၁၀ တနင်္ဂနွေနေ့ ည ၁၀ နာရီခန့်၌ တတိယ အကြိမ် တရားထူးများ ရခဲ့သည်ဟု မှတ်တမ်းတင်ခဲ့သည်။

တတိယအကြိမ် တရားထူးရပြီး ဇနီးဖြစ်သူထံ သာသနာဘောင် ဝင်ခွင့် အကြိမ်ကြိမ် တောင်းသည်။ ၁၉၂၀ ပြည့် နိုဝင်ဘာ ၁ ရက် တနင်္လာ နေ့တွင် ဘုန်းကြီး ဦးကျော် ခေါ် ရှင်ဝိရိယထံ သာမဏေပြုသည်။ ဘွဲ့ ရှင်ကဝိ ဖြစ်သည်။ သာမဏေပြုပြီး စွန်းလွန်းရွာတောင်ဘက် မောင်ရင်ပေါ် ချောက်၌ တစ်ပါးတည်း အာနာပါန တရားရှုမှတ်သည်။ ငါးရက်အကြာ တွင် ဦးရွှေလုပ်သည် ရှင်ဝိဇယဘွဲ့ဖြင့် သက်နိုးဝတ်ပြီး အတူနေထိုင်

ကျင့်ကြံအားထုတ်သည်။ နို၀င်ဘာလ ၉ ရက် အင်္ဂါနေ့ည ၁၀ နာရီခန့်၌ စတုတ္ထအကြိမ် တရားထူးရသည်။

သာမဏေ၀တ်ပြီး သုံးလခန့်အကြာ မိတ္ထီလာ ရေလယ်ကျောင်း ဆရာတော်၏ အမိန့်ဖြင့် သာမဏေ ရှင်ကဝိ နှင့် ရှင်ဝိဇယတို့ ရေလယ် ကျောင်း၌ တရားစစ်မေးခံရသည်။ တရားစစ်ဆေးပြီး ရေလယ်ကျောင်း ဆရာတော်သည် ကျေနပ်အားရလှ၍ ရေလယ်ကျောင်း၌ တစ်ဝါဆိုစေပြီး တရားပြသရန် စီစဉ်ပေးသည်။ ထိုစဉ် ရေလယ်ဆရာတော် ပင့်လျှောက်၍ ပရိယတ် ပဋိပတ် အကျော် ညောင်လွန့်ဆရာတော် ရှင်မေဓာဝီ (၁၈၆၈—၁၉၃၃) ကြွရောက် တရားစစ်ဆေးသည်။ ရေလယ်ဆရာတော်၏ တိုက်တွန်းမှုဖြင့် ၁၉၂၀ ခု ဧပြီ ၄ ရက် တနင်္လာနေ့တွင် ရှင်ဝိဇယနှင့်အတူ မိတ္ထီလာ ရေလယ်ကျောင်းသိမ်၌ ရဟန်းပြုသည်။ ရဟန်းဘွဲ့ ရှင်ကဝိ ဖြစ်သည်။ ဥပဇ္ဈာယ်ဆရာအဖြစ် ဟင်ရန်ကန်ဆရာတော်၊ ကမ္မဝါစာ ဆရာတော်အဖြစ် ရေလယ်ဆရာတော်နှင့် ညောင်လွန့်တောရဆရာတော် ရှင်မေဓာဝီတို့က ဆောင်ရွက်သည်။ ရဟန်းဒါယကာမှာ မိတ္ထီလာမြို့ ပွဲစား ဦးပေါ၊ ဒေါ်ကျီးညို ဖြစ်သည်။

၁၉၂၂ ခု ရဟန်းတစ်ဝါရတွင် ဒါယိကာမ ဒေါ်ရွှေရီ၏ ပင့်လျှောက် ချက်အရ စွန်းလွန်းရွာအရှေ့ မောင်ရင်ပေါ်ချောက်၌ သီတင်းသုံး၍ အာနာပါန ကမ္မဋ္ဌာန်း ဟောပြောပြသသည်။ ၁၉၂၃ ခုနှစ်တွင် ရသေ့ကြီး ဦးခန္တီ၏ လျှောက်ထားချက်အရ ညောင်လွန့်ဆရာတော် ရှင်မေဓာဝီ ဦးဆောင်၍ သထုံမြို့ နေမိန္ဒရတောင် သိမ်သမုတ်ပွဲ ကြွရောက်ရာ မိတ္ထီလာ ရေလယ်ဆရာတော်၊ ဂြုပ်ပင်ဆရာတော် ရှင်တိက္ခ၊ ညောင်လွန့်တိုက် ရှင်ကဝိန္ဒ၊ မောင်ရင်ပေါ်ချောက် ရှင်ဝိဇယ တို့နှင့် အတူလိုက်ပါ ကူညီဆောင်ရွက်ရာ ပိုမိုထင်ရှားလာသည်။

တရားထူးရသည်၊ ရဟန်းကိစ္စ ပြီးမြောက်သည် ဟု ထင်ရှား ကျော်စော၍ ၁၉၂၅ ခုနှစ်တွင် ပရိယတ်နှင့် ဗေဒအကျော် ပခူးအဗျားရွာ ဖက်ပင်အိုင်ဆရာတော် ရှင်ဒီပ (၁၈၅၆-၁၉၃၈)၊ ၁၉၃၀ ပြည့်နှစ်တွင် 'တမိုးအောက် တအဂ်'ဟု ထင်ရှားသော ကျမ်းပြုအကျော် တောင်သာ ဆရာတော် ရှင်အဂ္ဂဝံသ (၁၈၈၀-၁၉၄၉) တို့၏ တရားစစ်ဆေး မေးမြန်းမှု ခံယူသည်။

၁၉၂၃ ခုနှစ်ကပင် မောင်ရင်ပေါ်ချောက်ကျောင်းကို ရဟန်းခံဘက် ရှင်ဝိဇယအား လွှဲအပ်၍ ယခု စွန်းလွန်းဂူကျောင်းတည်ရာတွင် နတ်ညွှန်းရွာ ဦးတိုး (နောင် ရဟန်းတော် ရှင်ကုဏ္ဍိယ) လှူဒါန်းသော ကျောင်းကို ပြောင်းရွှေ့သီတင်းသုံးရာ စွန်းလွန်းဂူကျောင်း၊ စွန်းလွန်းဆရာတော်ဟု အမည်တွင်သည်။ လွတ်လပ်ရေးရပြီး ဝန်ကြီးချုပ်ဦးနု၏ တရားဓမ္မဆိုင်ရာ အမေးများကို ဖြေကြားသည်။ ၁၉၅၂ ခုတွင် ရန်ကုန်တပည့်များ ပင့်လျှောက် ချက်အရ ဘောက်ထော် စွန်းလွန်းဂူကျောင်းတိုက်ခွဲ သိမ်သမုတ်ပွဲ ကြွရောက်၍ အရိယာသိမ်တော်ဟု အမည်သမုတ်သည်။ ထို့နောက် သူဌေးကြီး ဆာဦးသွင်၊ နိုင်ငံတော် လေကြောင်းသယ်ယူပို့ဆောင်ရေးအဖွဲ့ ဥက္ကဋ္ဌ ဦးစံသိန်းတို့ ပင့်လျှောက်၍ ရန်ကုန် သာသနာ့ရိပ်သာ ကြွရောက်၍ တရားဓမ္မ ဟောပြောပြသသည်။ ရန်ကုန် ဘောက်ထော် စွန်းလွန်းဂူ ကျောင်းတိုက်ခွဲကို တပည့်ကြီး ရှင်သုန္ဒရ အား လွှဲအပ်သည်။

ရန်ကုန်မှအပြန် သက်တော် ၇၆ သိက္ခာ ၃၂ ဝါအရ ၁၉၅၂ ခုနှစ် မေလ ၁၇ ရက် စနေနေ့ ညနေ ၅ နာရီခန့်တွင် မြင်းခြံမြို့ စွန်းလွန်းဂူ ကျောင်း၌ ခန္ဓာဝန်ချခဲ့ပါသည်။

၁၉၅၂ ခု မေလ ၂၄ ရက် စနေနေ့ညတွင် ပြည်ထောင်စု မြန်မာ နိုင်ငံတော် အသံလွှင့်ဌာနက "မြင်းခြံမြို့ ကျေးလူရှင် စွန်းလွန်းဂူကျောင်း ဆရာတော်ဘုရားသည် လွန်ခဲ့သော ကဆုန်လဆုတ် ၉ ရက် စနေနေ့က ပရိနိဗ္ဗာန်စံဝင်တော်မူခဲ့ရာ ကြွင်းကျန်သော ရုပ်ကလာပ်တော်သည် မပြု မပြင် နဂိုရ်နေအားဖြင့် ပုပ်သိုးဆွေးမြေ့ပျက်စီးခြင်းမရှိဘဲ ပကတိအတိုင်း ကိန်းဝပ်လျက်ရှိရာ လွန်စွာ ထူးခြားသော ဝိသေသကို ဆောင်လျက် ရှိကြောင်း" ကြေငြာခဲ့ပါသည်။





## မဟာဝိသုတာရာမ ဆရာတော် ရှင်သုန္ဒရ

(၁၈၇၉ — ၁၉၇၂)

ပိဋကတ်သုံးသွယ်၊ နိကာယ်ငါးရပ် အကုန်အစင် ပို့ချရာ ပခုက္ကူ မဟာဝိသုတာရာမတိုက်ကြီးကို တိုက်တည် ရေစကြိုဆရာတော်ဘုရားကြီး မရှိသည့်နောက် ရှင်ပညာ၊ ရှင်နန္ဒဝံသတို့နှင့်အတူ တွဲဖက်ဦးဆောင်ခဲ့ရာ သက်တော်ရှည် အဘိဇေ ဆရာတော်သုန် အဖြစ် ထင်ရှားသည်။ သာမဏေ ဘဝကပင် ရပ်ဝေးစာသင်ထွက်ရာ အနာမာသ ငွေကြေးမကိုင်ပဲ ဝိနည်းနှင့် အညီ ပညာရှာမှီးခဲ့သည်။ ဘုန်းကံအလျောက် ဒုတိယမြောက် မဟာ ဝိသုတာရာမဆရာတော်အဖြစ် တာဝန်ယူခဲ့သည်။ ထိုသို့ နာယကဆရာ တော်အဖြစ် တာဝန်ထမ်းဆောင်နေစဉ် တပည့်ရင်း ရှင်နေမိန္ဒကို တိပိဋကဓရ ချီးကျူးဂုဏ်ပြုပွဲ ကျင်းပခွင့်ပေးခဲ့သည်။ ထိုအချိန်တွင် ဒုတိယနာယက ရှင်နန္ဒဝံသမှာ ရန်ကုန်ရောက်နေသည်။ ရှင်နန္ဒဝံသ ပြန်ရောက်ပြီး တစ်ခု သော ဥပုသ်နေ့ သံဃာ့ပရိသတ်အလယ်တွင် ချီးကျူးဂုဏ်ပြုပွဲနှင့်ပတ်သက်၍ သိက္ခာ ၃ ဝါမျှ ပိုမိုကြီးမားသော ရှင်သုန္ဒရအား ပြင်းပြင်းထန်ထန် ဝေဖန် ပြစ်တင်စကားပြောသည်။ ထိုဖြစ်ရပ်ကို ကိုယ်တွေ့ကြုံခဲ့သူ ထီးဆောင်း မောင်ရှင် (ရှင်စက္ကပါလ) က "ပထမဆရာတော်သည် နားမှ ပါလေစ၊ တုတ်တုတ်မျှ မလှုပ်၊ သံဃာထုလည်း မလှုပ်ဝံ့၊ သို့သော် ဆိုဝံ့သူက ဆိုနိုင် စွမ်းသလောက် ခံတဲ့ပုဂ္ဂိုလ်ကလည်း ခံရဲခံဝံ့၊ ခံနိုင်စွမ်း ရှိပါပေသည်။ သံဃာပရိသတ်က ကြည့်လို့မဝ၊ တင်းမတိမ်နိုင်၊ အံ့သြဖွယ်ဂုဏ်တော်ရှင် နှစ်ပါးပါပေ"ဟု မှတ်တမ်းတင်ခဲ့ပါသည်။

သုန္ဒရ ရှင်၊ မဟာဝိသုတာရာမဆရာတော် —

၁၈၇၉ ခုနှစ် အောက်တိုဘာလ ၁၀ ရက် သောကြာနေ့တွင် မြင်းခြံ ခရိုင် ညောင်ဦးမြို့နယ် ပုဂံစောင်းရွာ၌ ဖွားသည်။ အဖ ဦးလွန်းမောင် အမိ ဒေါ်ငွေညွန့် ဖြစ်သည်။ မွေးချင်း ၇ ယောက်တွင် ဒုတိယမြောက် ဖြစ်၍ အမည် မောင်ရွှေပြောင်း ဖြစ်သည်။

ပုဂံစောင်းရွာအနီး ခေတ္တ သီတင်းသုံးနေသော သရက်မြို့နယ် ရွှေဥမင်တောရ ရှင်သမ္ဘဝ ထံ စတင်ပညာဆည်းပူးသည်။ ၁၆ နှစ်တွင် ရွှေဥမင်တောရဆရာတော် ရှင်ကလျာဏကို ဥပဇ္ဈာယ်ယူ၍ သာမဏေ ဖြစ်သည်။ ဘွဲ့ ရှင်သုန္ဒရ။ ရှင်ဖြစ်ပြီး ပခန်းအရှေ့ဘက် တေရော်ဆရာတော် ရှင်အာလောကထံ ပြောင်းရွှေ့ ပညာသင်ယူသည်။ ရှင်အာလောကမှာ မင်းတုန်းမင်းလက်ထက် ပထမစာတော်ချ၊ စာပေပရိယတ် ကျွမ်းကျင်ကျန သည်။ တေရော်ဆရာတော်ထံ သဒ္ဒါ၊ သင်္ဂြိုဟ်၊ ပါတိမောက်၊ ကင်္ခါ၊ ဋီကာ ကျော်၊ ရူပသိဒ္ဓိ စသော နေ့ဝါများ။ မာတိကာ၊ ဓာတုကထာ စသော ညဝါကျမ်းများ ၂ နှစ်တိုင်တိုင် သင်ယူသည်။ ထို့နောက် ပခုက္ကူမြို့ ပန်းစွာ တိုက်တွင် စာချနေသော ရေစကြိုဆရာတော် ရှင်ဂန္ဓသာရ (၁၈၃၃—၁၉၁၄) ထံ ဝိနည်းပါဠိတော် ဆက်လက်သင်ယူသည်။

၁၈၉၉ ခုနှစ် ဖေဖော်ဝါရီလ ၁၈ ရက်နေ့တွင် တောင်သာမြို့နယ် ကန်မြရွာသိမ်၌ သရက် ရွှေဥမင်တောရဆရာတော် ရှင်ကလျာဏ (ရှင်ဝိမလ) ကို ဥပဇ္ဈာယ်ယူ၍ ရဟန်းဖြစ်သည်။ ရဟန်းဘွဲ့ ရှင်သုန္ဒရ ဖြစ်သည်။ ရဟန်းဒါယကာမှာ တောင်သာနယ် ဇောင်ချမ်းရွာသူကြီး ဘကြီးတော် ဦးဆောက်၊ သူကြီးကတော် ဒေါ်လှထွန်း ဖြစ်သည်။

ရဟန်းဖြစ်ပြီး မန္တလေးမြို့ အနောက်ပြင် ခင်မကန်တိုက် ရေလည် ကျောင်းပြောင်းရွှေ့၍ ချမ်းသာကြီးတိုက် စာချ ရှင်ပဏ္ဍဝံသနှင့် ရှင်စက္ကိန္ဒ ထံ စာလိုက်သည်။ ထို့နောက် ပခုက္ကူပန်းစွာတိုက် ရေစကြိုဆရာတော် ရှင်ဂန္ဓသာရ ထံ ဝိနည်းမဟာဝါကို ဆိုဝါ၊ ပန်းစွာတိုက် စာချ ရှင်ဒီပမာလာ (၁၈၇၃ -၁၉၃၅) ထံ ကစ္စည်းသဒ္ဒါကြီး၊ ရှာသကျမ်းတို့ကို ဆိုဝါဖြင့် သင်ယူသည်။ စာချ ရှင်ဒီပမာလာမှာ နောင်အခါ ချောင်းဦးဓမ္မာရုံ ဆရာတော် ဖြစ်သည်။ လယ်တီဆရာတော်၏ ဋီကာကျော်ကို ဝေဖန်သော

ပရမတ္ထဒီပနီကို ပြန်လည်ချေပသည့် ပရမတ္ထဝိသောဓနိဋီကာ (၁၉၀၉) ကျမ်းပြုဖြစ်သည်။

ပခုက္ကူမှတစ်ဖန် ရမည်းသင်းနယ် မိုးနံကုန်းဆရာတော် ရှင်ဇယန္တ (၁၈၄၇—၁၉၁၃) ထံ ပြောင်း၍ နည်းခံသည်။ ရှင်ဇယန္တသည် မင်းတုန်းမင်း လက်ထက် ပထမစာတော်ချ၊ ဝိနည်းအလေးထားသော ဆရာတော် ဖြစ်သည်။ ထိုမှတစ်ဖန် ကန်မြဲဇောင်ချမ်းရှိ စာတတ်အကျော် ရှင်ကုန္ဒာစက္က၊ မြင်းခြံ ထနောင်းတိုင်ရွာ ထနောင်းတိုင်ဆရာတော် ရှင်တိက္ခ၊ မန္တလေး တောင်ပြင် မြင်းဝန်တိုက်တို့၌ ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။ ထို့နောက် ပခုက္ကူ မဟာဝိသုတာရာမတိုက် ရေစကြိုဆရာတော်ထံ ပြန်လည်ဆည်းကပ်၍ တိုက်အုပ်စာချ ရှင်ပညာ (၁၈၇၈—၁၉၄၆) ထံ ဒီဃနိကာယ်ကို ဆိုဝါဖြင့် နောက်ဆုံးသင်ယူခဲ့သည်။ ရှင်ပညာမှာ နောင်အခါ ရေစကြိုဆရာတော်၏ အရိုက်အရာကို ဆက်ခံသော မဟာ ဝိသုတာရာမ နာယကဆရာတော် ဖြစ်သည်။

ရှင်သုန္ဒရ ၁၅ ဝါရတွင် မဟာဝိသုတာ ရာမတိုက် စာချဆရာတော် အဖြစ် ရေစကြိုဆရာတော်၏ ချီးမြှောက်မှုခံရသည်။ တစ်နေ့လျှင် စာ ၃ ဝါချ၍ တိုက်အုပ်စာချ ရှင်ပညာ၊ စာချ ရှင်ဇဝန (၁၈၇၇—၁၉၅၉)၊ ရှင်နန္ဒဝံသ (၁၈၈၂—၁၉၅၇) တို့နှင့်အတူ ပခုက္ကူ မဟာဝိသုတာရာမ တိုက်ကို ဦးဆောင်ခဲ့သည်။ ရှင်ဇဝနမှာ နောင်အခါ ပခုက္ကူအရှေ့တိုက် ခေါ် မဟာဝိဇယာရာမတိုက်ဆရာတော်၊ ရှင်နန္ဒဝံသမှာ ညောင်ဦးဆရာ တော်၊ ညောင်တုန်းဆရာတော် အမည်များဖြင့် ထင်ရှားခဲ့သည်။

ဝါ ၂၀ ကျော်တွင် မဟာဝိသုတာရာမ ဒုတိယနာယကဆရာတော် အဖြစ် ခန့်အပ်ခံရသည်။ ပထမဆရာတော် ရှင်ပညာကိုယ်စား စာသင်သား ၉၀၀ ကျော်အား လပြည့်လကွယ်၊ လဆန်းလဆုတ် ၈ ရက်နေ့များတွင် ဩဝါဒပေးရသည်။ ၁၉၃၈ ခုနှစ် ပခုက္ကူ မဟာဝိသုတာရာမ နိကာယ ပထမအကြိမ် အစည်းအဝေးကြီးတွင် နာယကအဖွဲ့ဝင်အဖြစ် တင်မြှောက် ခံရသည်။ ဒုတိယကမ္ဘာစစ်အတွင်း ၁၉၄၂—၄၅ တွင် ဇာတိရပ်ရွာ ဇောင်ခြမ်းမြေ ထိန်ကန်၌ သီတင်းသုံးခဲ့သည်။ ၁၉၄၆ ခုနှစ်တွင် ပခုက္ကူ မဟာဝိသုတာရာမစာသင်တိုက် ပြန်၍ သီတင်းသုံးသည်။ ၁၉၄၆ ခုနှစ် စက်တင်ဘာလ ၁၆ ရက်နေ့တွင် ပထမနာယက ရှင်ပညာ ပျံလွန်၍

ရှင်နန္ဒဝံသနှင့် အတူတွဲလျက် မဟာဝိသုတာရာမ ပထမနာယကဆရာတော်အဖြစ် တာဝန် ယူခဲ့သည်။

မဟာဝိသုတာရာမတိုက် ပထမနာယက ဆရာတော်အဖြစ် တာဝန်ယူနေစဉ် ပါဠိပညာရေးအဖွဲ့ နာယက (၁၉၅၀)၊ ရန်ကုန်မြို့ ဘုရားဖြူဝိနယာနုဂ္ဂဟ စာပြန်ပွဲဥက္ကဋ္ဌ (၁၉၅၀)၊ ဆဋ္ဌသင်္ဂါယနာဩဝါဒစရိယအဖွဲ့ဝင် (၁၉၅၁)၊ သင်္ဂါယနာ အလှည့်ကျ သံဃာမဟာနာယက (၁၉၅၄—၅၆)၊ နိုင်ငံတော် ဝိနည်းဓိုရ် (၁၉၆၀)၊ နိုင်ငံတော်ဘာသာ အကြံပေးဩဝါဒါစရိယအဖွဲ့ ဥက္ကဋ္ဌ (၁၉၆၁)၊ တောင်တန်းသာသနာပြုအဖွဲ့ မဟာနာယက (၁၉၄၆)၊ မော်ဘီ သာသနာသန့်ရှင်းပြန့်ပွားရေး အစည်းအဝေးသဘာပတိ (၁၉၆၅) အဖြစ် တင်မြှောက်ခံရသည်။ ၁၉၅၈ ခုနှစ်တွင် ဆဋ္ဌသင်္ဂါယနာ ကိစ္စအတွက် သာသနာရေး မစ်ရှင်အဖွဲ့ဥက္ကဋ္ဌအဖြစ် ထိုင်းနိုင်ငံသို့ သွားရောက်ခဲ့သည်။

၁၉၅၂ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်၊ ၁၉၆၁ ခုနှစ်တွင် အဘိဓဇမဟာရဋ္ဌဂုရုဘွဲ့တံဆိပ်များ ဆက်ကပ်ခံရသည်။

သက်တော် ၉၃၊ သိက္ခာဝါ ၇၃ ဝါရ ၁၉၇၂ ခုနှစ် ဇွန်လ ၂၅ ရက် တနင်္ဂနွေနေ့ ည ၈း၀၀ နာရီတွင် ပခုက္ကူအလယ်တိုက်ခေါ် မဟာဝိသုတာရာမတိုက်၌ ဘဝနတ်ထံ ပျံလွန်ခဲ့သည်။





## ဆရာတော် ရှင်အာဒိစ္စဝံသ

(၁၈၈၂ — ၁၉၅၁)

ကိုလိုနီခေတ် မြန်မာသာသနာဝင်တွင် ရဟန်းတော်များ ပိဋကတ်သင်ကြားမှု ခေတ်မီစနစ်ကျရေး၊ အင်္ဂလိပ်ဘာသာ သင်ကြားခွင့်ရရေး၊ ပိဋကတ်တော်များ သန့်ရှင်းစင်ကြယ်ရေးအတွက် ဦးဆောင်လမ်းခင်းပေးခဲ့သည့် သာသနာ့အာဇာနည်တစ်ပါး ဖြစ်သည်။ ဗုဒ္ဓသာသနာ ကမ္ဘာပြန့်ပွားရေးအတွက် ဒေသန္တရ ဘာသန္တရ လေ့လာဆည်းပူးရန် အိန္ဒိယ သီရိလင်္ကာ အင်္ဂလန်နိုင်ငံများသို့ စွန့်စားသွားရောက်ခဲ့ရာ "မိမိကြံစည်တိုင်း မထမြောက်လျှင်လည်း ဤဇာတိဒေသ ဆွေညာသင်္ဂဟ ဆရာသမား တပည့်တပန်း သီတင်းသုံးဖော်တို့ထံသို့ မပြန်လည်တော့။ ကျရာပင်ပေါက် ရောက်ရာသင်္ချိုင်းဖြစ်စေ။ ထမြောက်ပြည့်စုံသော်သာ ပြန်လာမည်။ ထိုနှင့်စပ်ရာ ကျရောက်လတ္တံ့ ဒုက္ခမီးပုံကိုလည်း အပြည့်အစုံ နှစ်ခြိုက်စွာ ခံယူတော့မည်" ဟု ကိုယ်ရေးအတ္ထုပ္ပတ္တိ၌ မှတ်တမ်းတင်ခဲ့သည်။ မြန်မာဗုဒ္ဓသာသနာသမိုင်း၌ ဘာသန္တရအရေးတော်ပုံ၊ ဘိက္ခုနီအရေးတော်ပုံ၊ ဝိနယဓရအရေးတော်ပုံတို့ကို ဦးဆောင် လှုံ့ဆော်ခဲ့ရုံမျှမက ပိဋကတ်သုံးပုံ နိကာယ်ငါးရပ်ကို ဉာဏ်ထက်သူများရွေး၍ ခြောက်လနှင့် အပြီးပို့ချခဲ့ရာ အလွန်ထင်ရှားလှပါသည်။ ထင်ရှားသော တပည့်တစ်ပါးမှာ ကမ္ဘာ့ဗုဒ္ဓသာသနာပြု၊ အဘိဓမ္မာပိဋက ဝိဘင်းကျမ်း အင်္ဂလိပ်ဘာသာပြန်၊ သက်တော်ရှည် အဘိဓဇမဟာရဋ္ဌဂုရု၊ အဂ္ဂမဟာပဏ္ဍိတ ရှင်သေဋ္ဌိလ (၁၈၉၆—၁၉၉၇) ဖြစ်သည်။

အာဒိစ္စဝံသ၊ ရှင်

၁၈၈၂ ခုနှစ် ဒွန်လ ၁၁ ရက် တနင်္ဂနွေနေ့တွင် ရမည်းသင်းခရိုင် မြို့လှမြို့နယ် ပင်းစုရွာ၌ ဖွားသည်။ အဖ ကုန်သွယ်လယ်လုပ် ဗိန္ဓော ဆရာ ဦးလာ အမိ ဒေါ်အုပ် ဖြစ်သည်။ တစ်ဦးတည်းသောသား။ ၂ နှစ် သားတွင် အတိတ်ဘဝကို ပြန်ပြောနိုင်သည်။ ငယ်မည် မောင်အောင်ပန်း ဖြစ်သည်။

၅ နှစ်အရွယ်တွင် ပင်းစုရွာဦးကျောင်း ဦးရိုးတော် ရှင်ဝိလာသ၊ တိုက်အုပ် ရှင်အာစာရ၊ စာချ ရှင်စန္ဒောဘာသတို့ထံ ပညာသင်သည်။ ဦးရိုးတော်ထံတွင် သင်ပုန်းကြီးကို ၁၂ ရက်ဖြင့် အပြီးသင်ယူခဲ့သည်။ ဦးရိုးတော်မှာ ရမည်းသင်း ရွှေဂူ ရန်အောင် ဇောင်ခြမ်းတောင် သုံးဂိုဏ်း ချုပ်၊ ဓမ္မကထိက မဟာဝိဘင်္ဂရေ ဘွဲ့ရသည်။ တိုက်အုပ် ရှင်အာစာရမှာ မန္တလေး သစ်စိမ့်တိုက် ပထမစာတော်ချ။ စာချ ရှင်စန္ဒောဘာသ၏ ရဟန်း အမမှာ သီပေါမင်း၏ မိဖုရားခေါင်ကြီးဖြစ်သည်။ ထိုအချိန်က ပင်းစု ကျောင်းတွင် စာသင်စာချ ရဟန်းသာမဏေ ၁၀၀ ခန့်၊ ကျောင်းသား ၅၀ ကျော်ရှိရာ ဉာဏ်ပညာထက်မြက်သည့် ကျောင်းသားအဖြစ် ထင်ရှား ခဲ့သည်။ ကျောင်းသားဘဝမှာပင် ဗုဒ္ဓဘာသာ အခြေခံကျမ်းစာများ ကစ္စည်း သဒ္ဒါရှစ်စောင် ပါဠိအနက်၊ အဘိဓမ္မတ္ထသင်္ဂြိုလ်၊ ဗေဒင် လက်ရိုး တွက်ရိုးများကို အာဂုံရသည်။ ဦးပုညမေတ္တာစာ၊ ဇာတ်ကြီးဆယ်ဘွဲ့၊ ငါးရာ ငါးဆယ်၊ မဃဒေဝလင်္ကာ၊ ဇိနတ္ထပကာသနီနှင့် ကာလပေါ် ဇာတ်စာအုပ် များ လေ့လာခဲ့သည်။

၁၄ နှစ်တွင် ဦးရိုးတော် ရှင်ကလျာဏကို ဥပဇ္ဈာယ်ယူ၍ သာမဏေ ဖြစ်သည်။ သာမဏေ ၁ ဝါရ ဦးရိုးတော်ပျံလွန်ပြီး ဦးရိုးရှင်ကဝိန္ဒနှင့်အတူ မန္တလေးမြို့ ဒက္ခိဏာရာမဘုရားကြီးတိုက် ပေပင်ကျောင်း ပြောင်းရွှေ့ ပညာသင်သည်။ တစ်နှစ်ခန့်အတွင်း ဦးရိုးတော်နှင့် သဘောမတိုက်ဆိုင်၍ မိဘထံ ပြန်လာသည်။ ထိုစဉ် အင်္ဂလိပ်စာသင်ရန် မော်လမြိုင်ထွက်ပြေးရာ ပျဉ်းမနားအရောက် ဖခင်လိုက်ခေါ်၍ အကြံပျက်ခဲ့သည်။ ထို့နောက် ရမည်းသင်းနယ် ထောက်ကြံ့ခြင်းကျောင်း၌ ဂဏန်းသင်္ချာ ၆ လ သင်ယူ သည်။ ပျော်ဘွယ်မြို့ ဝေဇယန်ဆရာတော်ထံ သာမဏေဝတ်ဖြင့် ပိဋကတ်

သင်စဉ် ဆရာတော်၏တူ လေသာဆရာတော် ရှင်ဝိလာသထံ ဋီကာကျော်၊ ဝိနည်းငယ်လေးစောင်၊ အဘိဓာန်၊ ကဒ်ါကျမ်းများ သင်ယူခဲ့သည်။

ရဟန်းပြုရန် မရည်ရွယ်သော်လည်း ဝေဇယန်ဆရာတော်၏ ဆွဲဆောင်မှုဖြင့် ၁၉၀၁ ဒီဇင်ဘာ ၂၃ တွင် ပျော်ဘွယ်မြို့ အိုးကုန်းတိုက် သိမ်၌ ရဟန်းဖြစ်သည်။ ဥပဇ္ဈာယ်ဆရာ ဝေဇယန်ဆရာတော်၊ ရဟန်း ဒါယကာ မိဘနှစ်ပါးနှင့် ပျော်ဘွယ်မြို့ ကုန်သည် ဦးကြာခိုင်၊ ဒေါ်ပြား ဖြစ်သည်။ ရဟန်းဘွဲ့ ရှင်အာဒိစ္စဝံသ ဖြစ်သည်။

ရဟန်းဒုတိယဝါတွင် မန္တလေးမြို့ ဘုရားကြီးတိုက် တိုက်အုပ်ဆရာတော် ရှင်ဝိမလဗုဒ္ဓိ (၁၈၅၈—၁၉၄၃) ထံ မှီခို၍ ပရိယတ္တိစာပေ သင်ယူသည်။ ပညာရေးထက် မိတ်ဆွေအပေါင်းအသင်းများနှင့် မန္တလေးဝန်းကျင်တွင် ထီးထမ်းလမ်းလျှောက် အချိန်ကုန်ခဲ့သည်။ တတိယဝါတွင် ဓမ္မာစရိယဆရာ ရှင်ဝိသုဒ္ဓ၏ ကျေးဇူးဖြင့် အင်းဝအပိုင် မြင်းသည်နယ် ပေပင်ကျောင်း၌ မန္တလေး ပရိယတ္တိအသင်း စာသင်တန်းစာဝါနှင့် ဝိနည်းငါးကျမ်း ၈ လခန့် သင်ခဲ့ရသည်။ ထို့နောက် စစ်ကိုင်းတောင်ရိုး အရိယာဝံသချောင်၊ ပခုက္ကူ မဟာဝိသုတာရာမတိုက်တို့တွင် ပိဋကတ်စာပေ ပို့ချနည်း စုံစမ်းလေ့လာသည်။ ရဟန်း ၄ ဝါတွင် ညောင်တုန်း ရွှေဟသ်ာတောရကျောင်းတော်ရာဆရာတော် ရှင်သာသန (၁၈၄၃—၁၉၂၅) ထံ ခိုမှီး၍ ဋီကာကျော် ယောဇနာကျမ်းပြု စာချ ရှင်ဉာဏိန္ဒာသဘ (၁၈၆၆—၁၈၅-) ထံ သက္ကတဘာသာနှင့် သင်ရိုးပိဋကတ် နည်းခံသည်။ ရှင်ဉာဏိန္ဒာသဘ (နောင် လူထွက်ဆရာကြီး ဦးစံအောင်) မှာ ပါဠိ၊ သက္ကတ၊ အင်္ဂလိပ်စာ၊ ဘာသန္တရ ကျွမ်းကျင်နှံ့စပ်ရာ ဓမ္မာစရိယဆရာရင်းဖြစ်သည်။ ဓမ္မာစရိယဆရာရင်းထံမှ အင်္ဂလိပ်ဘာသာ သင်ကြားခွင့်ရသော်လည်း ထိုစဉ်က မိစ္ဆာအယူဟု စွဲကာ 'သက္ကတ'ကိုသာ သင်ယူခဲ့သည်။ တစ်ဖက်တွင်လည်း စာချအဖြစ် စာပေပို့ချသည်။ ပါဠိဘာသာဖြင့် 'ပါဒသိက္ခာနယူပဒေသ' ကျမ်းရေးခဲ့သည်။ သီတင်းသုံးဖော် မန်းဦးဆရာတော် ရှင်ဇောတ၊ ပန်းတလည်ဆရာတော် ရှင်ဉာဏိန္ဒတို့နှင့်အတူ မျှော်မှန်းသည့်အတိုင်း ရဟန်း ၅ ဝါတွင် သင်ရိုး ပိဋကတ်သင်ယူမှု ပြီးစီးခဲ့၍ လူထွက်ရန်အကြံ ပျက်ခဲ့သည်။ ပညာဝန် ဦးဘိုးစ ကလောင်အမည် ယူခဲ့သည်။ ဟံသာဝတီ သတင်းစာ ဘာသာရေး၊ ပညာရေး ဆောင်းပါးများ ရေးသည်။

ရဟန်း ၆ ဝါတွင် ဓမ္မာစရိယဆရာရင်း ရှင်ဉာဏိန္ဒာသဘာနှင့်အတူ တွံတေးမြို့ ကျောင်းသစ်ကျောင်းဆရာတော် ရှင်နာဂသေနထံ ပြောင်းရွှေ့ စာပေပို့ချသည်။ တွံတေးဆရာတော်မှာ 'ကစ္စာယနသံခေပ' ကျမ်းဖြင့် ထင်ရှားသည်။ တွံတေးဆရာတော်ကို အားကျ၍ ပါဠိဘာသာဖြင့် ကစ္စာ ယနသင်္ဂဟပါဌ်ကို စီရင်သည်။ ဝါကျွတ်လျှင် မိတ်ဆွေ ရှင်အာစာရ၏ ဖိတ်ကြားချက်အရ မော်လမြိုင်သို့ ပြောင်းရွှေ့သည်။ မော်လမြိုင်တွင် ရတနာဘုံပျံဆရာတော် ရှင်ကေတုမာလာ (၁၈၆၆—၁၉၄၈) ၏ ချီးမြှင့် မှုဖြင့် ဂဏဝါစက စာချအဖြစ် ပရိယတ္တိစာပေပို့ချသည်။ ၇ ဝါတွင် တောင်ငူ ပိဋကတ္တယာရာမကျောင်း ရှင်ကောသလ္လထံ ပြောင်း၍ စာပေ ပို့ချသည်။ ထိုစဉ် မိခင် မကျန်းမာ၍ ဇာတိပြန် ဥပဇ္ဈာယ်ဆရာထံ ဝါဆို သည်။ ဝါကျွတ်ချိန်တွင် မိခင်ကွယ်လွန်သည်။ ၈ ဝါတွင် ပရိယတ်ကျမ်းပြု ဥပနိဿယဆရာရှာရန် မြန်မာပြည်ထက်အောက် လှည့်လည်ရာ ကသာ နယ် မန်လည်ဆရာတော် ရှင်ဇဝန (၁၈၄၂—၁၉၂၀) ထံ ခိုဝင်ခဲ့သည်။ မန်လည်၌ တစ်နှစ်ခန့်အကြာ ငှက်ဖျားစွဲ၍ မန္တလေးမြို့သို့ တတိယ အကြိမ် ပြောင်းရွှေ့ခဲ့သည်။

ရဟန်း ၉ ဝါမှ ၁၃ ဝါအထိ မန္တလေးမြို့ မစိုးရိမ်တိုက်ဆရာတော် ရှင်သောမာဘိသိရိ (၁၈၇၇—၁၉၃၉) ၏ ချီးမြှင့်မှုခံယူကာ ဂဏဝါစက စာချအဖြစ် ဆောင်ရွက်သည်။ ပါဠိဘာသာဖြင့် 'ပဒသင်္ဂဟ'ခေါ် ပါဠိ ဗျာကရဏ်းကို စီရင်ရာ လယ်တီဆရာတော်၏ ချီးကျူးမှုခံရသည်။ နောင် အခါ ကမ္ဘာ့သာသနာပြု သက်တော်ရှည် ပထမကျော် ရှင်သေဋ္ဌိလ (၁၈၉၆—၁၉၉၇) ဟု ထင်ရှားမည့် သာမဏေ၏ ဓမ္မာစရိယဆရာရင်း အဖြစ် စောင့်ရှောက်ခွင့်ရသည်။ မန္တလေးမြို့ ပရိယတ္တိအသင်း စာချ ဓမ္မာစရိယဖြစ်ရန် ရည်ရွယ်ချက်မှာမူ အထမမြောက်ခဲ့ချေ။

၁၃ ဝါတွင် တပည့်ရင်း ရှင်သေဋ္ဌိလနှင့်အတူ မော်လမြိုင် ဒုတိယ အကြိမ် ပြောင်းရွှေ့သည်။ မော်လမြိုင် တောင်ဝိုင်းတွင် ပဋိပတ္တိအားထုတ် ရန် ရည်မှန်းသော်လည်း ကျိုက်သံလံစေတီ အနောက်စောင်းတန်းခြေရင်း မြောက်ဘက် ကြံခင်းကျောင်းဆရာတော် ရှင်ဥက္ကံသ၏ ချီးမြှောက်မှုဖြင့် ဂဏဝါစက မဟာနာယက အဖြစ် ပရိယတ္တိစာပေပို့ချသည်။ ထိုစဉ် ရတနာ ဘုံပျံဆရာတော် ရှင်ကေတုမာလာ (၁၈၆၆—၁၉၄၈) တိုက်တွန်းချက်အရ

အဖွင့်ကျမ်းမရှိသော မိလိန္ဒပဉှာပါဠိတော်ကို လေးလဖြင့် နိဿယ ပြန်ဆို ပြီးစီးခဲ့သည်။ အဂ္ဂမဟာပဏ္ဍိတ ဆရာဖြေ၊ လယ်တီပဏ္ဍိတ ဦးမောင်ကြီး တို့၏ ချီးကျူးမှုခံရသည်။ လယ်တီဆရာတော်၏ တိုက်တွန်းချက်အရ 'ပဒသင်္ဂဟ နိဿယ'ကို စီရင်သည်။ မော်လမြိုင်တွင် ဒါယကာ၊ ဒါယိကာမ များ၊ သီတင်းသုံးဖော်များ၊ ဆရာသမားများ ဝမ်းသာအားရ ချီးမြှောက်မှု ခံရသော်လည်း ပရိယတ္တိစာပေ သင်ကြားရေးကို စနစ်တကျ ကျယ်ကျယ် ပြန့်ပြန့် ဆောင်ရွက်နိုင်ရန် ရန်ကုန်ကို ပြောင်းရွှေ့သည်။

၁၉၁၇ ခုနှစ် ဇွန်လ ၂၅ တွင် ပင့်ဖိတ်သူမရှိဘဲ နောက်ပါ သံဃာ ၅၀ ဖြင့် ရန်ကုန် ရောက်ရှိသည်။ ရန်ကုန်တွင် ပုဇွန်တောင် တောင်လုံးပြန် အသီတိကျောင်းဆရာတော် ရှင်ပဒုမ၏ ခွင့်ပြုချက်ဖြင့် ကျောင်းဝင်း အတွင်း ဒေါ်ဆုံဇရပ်၌ သီတင်းသုံး စာပေပို့ချသည်။ မကြာမီ ပွဲစားကြီး ဦးရေထိန်၊ ဦးဘိုးလှိုင်၊ မင်းတိုင်ပင်အမတ် သူဌေး ဆာဘိုးသာတို့ ပင့်ဖိတ် လျှောက်ထားချက်အရ တောင်လုံးပြန် သုသာန်ဟောင်းရှိ ဦးဘိုးသာ၏ ကောင်းမှုဇရပ်ကို ပြောင်းရွှေ့သည်။ ထိုဇရပ်ကို အရှင်အာဒိစ္စဝံသ ကျောင်းတိုက် အမည်ပေး၍ ပရိယတ္တိစာပေ ပို့ချသည်။

ကျောင်းတိုက်တည်ပြီး နောက်တစ်နှစ် ၁၉၁၈ ခုနှစ် အစိုးရ ပထမပြန်စာမေးပွဲ ပထမကျော်တန်းတွင် တပည့်ရင်း ရဟန်း ၂ ဝါရ ရှင်သေဋ္ဌိလ ပထမစွဲ အောင်မြင်ခဲ့သည်။ ရှင်သေဋ္ဌိလ၏ ပထမကျော်ဘွဲ့ ဆက်ကပ်ရေး အခမ်းအနားပြင်ဆင်မှုနှင့် ပတ်သက်၍ ရှင်အာဒိစ္စဝံသနှင့် ဒကာရင်း ဆာဘိုးသာတို့ သဘောထားကွဲလွဲရာမှ ဆက်ကပ်ပွဲ ပျက်ပြား ခဲ့သည်။ ထိုအကြောင်းအရာတို့ကို ရှင်အာဒိစ္စဝံသ က "၁၂၈၀ ပြည့်နှစ် ပဌမကျော် အရေးတော်ပုံ" (၁၉၁၉) စာအုပ်အဖြစ် တည်းဖြတ် ပုံနှိပ် ထုတ်ဝေခဲ့သည်။

၁၉၂၅ ခုတွင် ရှင်အာဒိစ္စဝံသသည် တပည့် ရှင်ဝါယာမနှင့် ရှင်သေဋ္ဌိလတို့ကို ကျောင်းတိုက်လွှဲအပ်ပြီး အိန္ဒိယ သွားရောက်သည်။ အိန္ဒိယနိုင်ငံ ဗာရာဏသီမြို့၌ ဟင်ဒူ၊ ဘင်္ဂလီ၊ အူရဒူ၊ သက္ကတ၊ အင်္ဂလိပ်၊ ဂျပန် ဘာသာစကားများ သင်ယူသည်။ ထိုစဉ် ပိဋကတ်တော်ကို မြန်မာ ကဗျာပုံစံသစ်ဖြင့် ဖွဲ့ဆိုသော 'ရတနာကြေတ်' ကျမ်းကို ရေးခဲ့သည်။ အိန္ဒိယ တွင် ပညာသင်နေစဉ် သီပေါစော်ဘွားကြီး၏ တစ်လ ရိက္ခာတော် ၅၀

ထောက်ပံ့ခံရသည်။ ၁၉၂၆ တွင် ဟိန္ဒူမြေပိုင်ရှင် သား ရှရီဆရဒါနန္ဒ၏ ထောက်ပံ့မှုဖြင့် သီဟိုဠ်မှတစ်ဆင့် အင်္ဂလန် သွားရောက်သည်။ အင်္ဂလန်နိုင်ငံ လန်ဒန်မြို့တွင် ၂ နှစ်ကျော် အင်္ဂလိပ်ဘာသာစကားနှင့် ဒေသန္တရ ဗဟုသုတ ရှာမှီးသည်။ ထိုစဉ် ဘဝဇာတ်ကြောင်းကို မချွင်းမချန် ရဲရဲဝံ့ဝံ့ ဖော်ပြထားသည့် ကိုယ်ရေးအတ္ထုပ္ပတ္တိ 'အာဒိစ္စဝံသထေရာပါဒါန်'ကို ရေးသား၍ ၁၉၂၇ ခုထုတ် ဗြိတိသျှဘားမား မဂ္ဂဇင်းအမှတ် (၁) မှ အမှတ် (၈) အထိ ထည့်သွင်းဖော်ပြခဲ့သည်။ ထို့ပြင် သီရိလင်္ကာရဟန်းတော်ရှင်အရိယဉာဏ တောင်းပန်၍ 'သာသနာ့မှန်' ကျမ်းကိုလည်း စီရင်ခဲ့သည်။ အင်္ဂလန်တွင် ၂ နှစ်ကျော်နေပြီး ပြင်သစ်၊ အီတလီ စသည့် ဥရောပနိုင်ငံများကို လှည့်လည်၍ မြန်မာပြည် ပြန်ခဲ့သည်။

၁၉၂၈ ခု မေလ ၂၅ ရက် သောကြာနေ့တွင် ရန်ကုန် ပြန်ရောက်သည်။ ပြန်ရောက်လျှင် အရှင်အာဒိစ္စဝံသကျောင်းတိုက်တွင် ပိဋကတ်တော်စနစ်တကျ ခေတ်မီသင်ကြားပို့ချရေး၊ ရဟန်းတော်များ အင်္ဂလိပ်ဘာသာနှင့် ဘာသန္တရသင်ကြားရေးတို့ကို ကျယ်ကျယ်ပြန့်ပြန့် ဆောင်ရွက်သည်။ အစိုးရ အထောက်အပံ့ခံ မြန်မာစာသင်ကျောင်းကိုလည်း ဦးဆောင်ဖွင့်လှစ်သည်။ အထူးသဖြင့် သာသနာပြန့်ပွားရေးအတွက် ရဟန်းတော်များ ဘာသန္တရ သင်ကြားရေးကို လှုံ့ဆော်သည့် 'ဘာသန္တရလမ်းညွှန်' (၁၉၂၈) ကို ရေးသားထုတ်ဝေသည်။ ထိုလှုံ့ဆော်ချက်ကို မစိုးရိမ်ကျောင်းတိုက် စာချဖော် ရန်ကုန် ဘုရားဖြူဆရာတော် ရှင်ရာဇိန္ဒ က "လောကယတာဒိ ဝိနိစ္ဆယကျမ်း" (၁၉၂၉) ဖြင့် ကန့်ကွက် ချေဖျက်၍ ရဟန်းရှင်လူ အများ၏ ဆန့်ကျင်မှု ခံရသည်။ အချို့ ရဟန်းရှင်လူအများက ဘာသန္တရ သင်ကြားရေးဘက်မှ ထောက်ခံခဲ့သည်။

၁၉၃၁ ခုနှစ်တွင် 'အသောကကျောက်စာ မြန်မာပြန်' စာအုပ် ရေးသားထုတ်ဝေခဲ့ရာ ရန်ကုန်တက္ကသိုလ် ဆီးနိတ်အဖွဲ့၏ ဝေလမင်းသားဆု (ဆုငွေ တစ်ထောင်ကျပ်) ရရှိသည်။

၁၉၃၅ ခုတွင် ရှင်အာဒိစ္စဝံသ၏ "ဘိက္ခုနီသာသနောပဒေသကျမ်း" ထွက်ပေါ်ခဲ့သည်။ ထိုကျမ်းကိုလည်း ဘုရားဖြူဆရာတော် ရှင်ရာဇိန္ဒက "ဘိက္ခုနီအဆုံးအဖြတ်" (၁၉၃၅) ကျမ်းဖြင့် ဝေဖန်ဆန့်ကျင်သည်။ ရဟန်းရှင်လူအများကလည်း ဘိက္ခုနီသာသနောပဒေသကျမ်းပါ ဗုဒ္ဓသာသနာ

အပေါ် သံသယရှိသည့် အရေးအသား အသုံးအနှုန်းများကို ရှုတ်ချ၍ နိုင်ငံ အနှံ့ ကန့်ကွက်ခဲ့ကြသည်။ ရဟန်းရှင်လူအများက ရန်ကုန် ဂျူဗလီဟော တွင် အစည်းအဝေးများ ကျင်းပ၍ ရှင်အာဒိစ္စဝံသအား ပကာသနိယကံ ပြုခဲ့သည်။ ရှင်အာဒိစ္စဝံသကလည်း "ဘိက္ခုနီအရေးတော်ပုံ" (၁၉၃၈) စာအုပ်ဖြင့် ဆန့်ကျင်ဘက်တို့အား ပြင်းပြင်းထန်ထန် တုံ့ပြန်ခဲ့သည်။

၁၉၃၅ ခုတွင် ရှင်အာဒိစ္စဝံသ၏ "ဓမ္မဝိနယပြန်တမ်း" ထွက်ပေါ်၍ ဆာဂျေ အေမောင်ကြီး၏ "ဝိနယဓရ ဥပဒေကြမ်း"ကို ထောက်ခံခဲ့သည်။ ၎င်းဥပဒေကြမ်းကို ရှင်အာဒိစ္စဝံသ ကဲ့သို့ပင် ဘုရားဖြူဆရာတော် ရှင်ရာဇိန္ဒ ကလည်း "ဝိနယဓရ အတ္ထုပ္ပတ္တိစာတမ်း" (၁၉၃၅) ဖြင့် ထောက်ခံသည်။ သို့သော် ရဟန်းရှင်လူအများကမူ နိုင်ငံအနှံ့ ကန့်ကွက် ပယ်ဖျက်သည်။

ဂျပန်ခေတ်ဦး ၁၉၄၂ ခု စက်တင်ဘာလ ၉ ရက် ဗုဒ္ဓဟူးနေ့ ညနေ ၅ နာရီတွင် ရှင်အာဒိစ္စဝံသသည် ကျောင်းတိုက်ရှိ သံဃာ ၃၂ ပါးထံ ခွင့်တောင်း၍ လူဝတ်လဲခဲ့သည်။ လူဝတ်လဲရခြင်း၏ အကြောင်းစုံကို "ရဟန်းဘဝ ဇာတ်သိမ်းခဏ်း" စာတမ်းဖြင့် မထိမ်မချန် မှတ်တမ်းတင်ခဲ့ သည်။ လူဝတ်လဲပြီး ထိုည ၈ နာရီခွဲတွင် ဒါယိကာမ ဒေါ်ငွေတင် (မုဆိုးမ) နှင့်အတူ ကျောက်မြောင်း ဘယသိဒ္ဓိလမ်း နေအိမ် ပြောင်းရွှေ့ခဲ့သည်။

ဦးအောင်မြတ်ထွတ်ဘဝတွင် လောကီ စီးပွားရေးရာများကို မဆောင်ရွက်ဘဲ နေအိမ်နှင့် သိမ်ဖြူလမ်း စတော့ကိတ် မင်္ဂလာရာမ ကျောင်းတိုက်၌ ရဟန်းသံဃာ လူပုဂ္ဂိုလ်များကို နိကာယ်ငါးရပ် ဆက်လက် ပို့ချသည်။ ၁၉၄၃ ခုနှစ်မှစ၍ မြန်မာနိုင်ငံစာရေးဆရာအသင်းကြီး၏ နာယကတစ်ဦးအဖြစ် တင်မြှောက်ခံရသည်။ ရဟန်းဘဝတွင် နိကာယ် ငါးရပ်ကို ပါဠိ၊ အဋ္ဌကထာ၊ ဋီကာများနှင့်တကွ အခေါက်ပေါင်း တစ်ရာ ကျော် ပို့ချ၍ ကျမ်းပေါင်းများစွာ ပြုစုခဲ့သည်။ ကျမ်းအချို့ကိုသာ ပုံနှိပ် ထုတ်ဝေနိုင်ခဲ့သည်။ ပုံနှိပ်ပြီးကျမ်းများမှာ မိလိန္ဒပဉ္စာနိသျကျမ်း၊ ပဒသင်္ဂဟ ပါဌ်၊ နိသျ၊ ပါဒသိက္ခာနယူပဒေသ၊ ကဗျာ့မှန်၊ ဘာသန္တရလမ်းညွှန်၊ အသောကကျောက်စာတော်၊ သိက္ခာနယူပဒေသ၊ ကဗျာ့ချိန်ခွင်၊ ဘိက္ခုနီ သာသနောပဒေသ၊ ဘိက္ခုနီအရေးတော်ပုံ၊ ဝိမုတ္တိညာဏောပဒေသ၊ သရဏဂုံနှင့်ကိုးကွယ်ထုံး၊ ဂုဏ်တော်နှင့်သုံးစွဲထုံး၊ ပရိတ္တသင်္ဂဟခေါ် ပရိတ်တော်ကြီး၊ ယမကပ္ပဟောဋ္ဌိဒီပိကာ၊ ပါဠိပါဒသိက္ခာ ဝလီ ၆ ပိုင်း၊

သိမသင်္ဂဟပါဌ်၊ နိသျ၊ မြန်မာသတိပဋ္ဌာန်အဖွင့်၊ ဓမ္မ ဝိနယပြန်တမ်း စသည်တို့ ဖြစ်သည်။

အသက် ၇၀ အရောက် ၁၉၅၁ ခု ဩဂုတ်လ ၂၁ ရက်နေ့တွင် ရန်ကုန်မြို့ နေအိမ်၌ ကွယ်လွန်ခဲ့ပါသည်။





## ဝေဠုဝန်ဆရာတော်
## ရှင်ခေမာစာရ
(၁၈၈၂ — ၁၉၆၆)

လွတ်လပ်ရေးခေတ်ဦး ရန်ကုန်မြို့တော် သာသနာရေးရှေ့ဆောင်၊ တောင်တန်းသာသနာပြုအဖွဲ့ကြီး ဥက္ကဋ္ဌ၊ ဓမ္မာကထိက အဖွဲ့ချုပ်ကြီး ဥက္ကဋ္ဌ၊ ဗဟန်း ဝေဠုဝန်ကျောင်းတိုက်ကြီး၏ နာယက၊ ဝေဠုဝန်ဆရာတော် အမည်ဖြင့် ထင်ရှား၏။ ပရိယတ်စာပေကို သာမဏေဘဝဖြင့် မန္တလေး စကုတိုက်၊ တောင်သမန်တိုက်၊ ခင်မကန်တိုက်တို့၌ သင်ယူခဲ့၍ ရဟန်း ၄ ဝါရတွင် ရန်ကုန် ဗဟန်း ဝေဠုဝန်ကျောင်းတိုက်တည် ပထမဝေဠုဝန် ဆရာတော်ထံ နည်းခံသင်ယူခဲ့သည်။ ပထမဝေဠုဝန်ဆရာတော် ရှင်ပဏ္ဍာဝံသ မှာ အဘိဓမ္မာအရာ အလွန်ထင်ရှားသည်။ ဝေဠုဝန်ဆရာတော် ရှင်ခေမာ စာရမှာ အပြောအဟော ကျွမ်းကျင်လိမ္မာ၍ ဂျပန်ခေတ် ဒေါက်တာဘမော် အစိုးရလက်ထက် ဂိုဏ်းပေါင်းစုံ မဟာသံဃအဖွဲ့ချုပ်ကြီး၏ မြန်မာနိုင်ငံ အောက်ပိုင်း အမှုဆောင်အဖွဲ့ဝင်အဖြစ် ဆောင်ရွက်ခဲ့၏။ ၁၉၄၆ ခု တောင်တန်းသာသနာပြုအဖွဲ့ကြီး စတင်တည်ထောင်သည်မှ ၁၈ နှစ် အတွင်း ကယားပြည်နယ်၊ ရှမ်း ပြည်နယ်၊ ဝနယ်၊ ကိုးကန့်နယ်၊ ကချင် ပြည်နယ်၊ ပူတာအို၊ နာဂတောင်တန်းနှင့် ချင်းတောင်သာသနာပြု ခရီးပေါင်း ၇၀ ကျော် ခက်ခဲပင်ပမ်းစွာ ကြွရောက်ဆောင်ရွက်ခဲ့သည်။ ပြည်တွင်းသာမက သီရိလင်္ကာ၊ ဂျပန်၊ ဖိလစ်ပိုင်၊ လာအို၊ ထိုင်းနိုင်ငံများသို့ လည်း ဓမ္မဒူတခရီးများ သွားရောက်ခဲ့ပါသည်။

ခေမာစာရ ရှင်၊ ဝေဠုဝန်ဆရာတော် -

၁၈၈၂ ခုနှစ် ဇန်နဝါရီလ ၂၃ ရက် တနင်္လာနေ့တွင် မန္တလေးခရိုင် စဉ့်ကူးမြို့နယ် ခက်သင်ရွာ၌ ဖွားသည်။ အဖ ဦးကြူ၊ အမိ ဒေါ်ထယ် ဖြစ်သည်။ မွေးချင်း ၃ ယောက်တွင် အငယ်ဆုံး။ ငယ်မည် မောင်တုတ်ဖြူ ဖြစ်သည်။

၉ နှစ်အရွယ်တွင် ခက်သင်ရွာကျောင်းဆရာတော် ရှင်ဂန္ဓမာထံ စတင်ပညာသင်သည်။ ၁၃ နှစ်တွင် အစ်ကို ဘုန်းတော်ကြီး ရှင်သုန္ဒရ သီတင်းသုံးရာ ပုသိမ်ခရိုင် ကန်ကြီးဒေါင့်မြို့ လိုက်ပါ ပညာသင်သည်။ ကန်ကြီးဒေါင့်ရပ်ရွာ ဒကာ၊ ဒကာမများက ရှင်ဒါယကာခံ၍ ရှင်သာမဏေ ဖြစ်သည်။ ဘွဲ့ ရှင်ခေမာစာရ ဖြစ်သည်။ ထို့နောက် ဇာတိ ခက်သင်ရွာ ကျောင်းဆရာတော်ထံ ပြန်၍ ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။ ၁၅ နှစ်တွင် ဘထွေး ဦးတိုးနှင့် မိဘဆွေမျိုးများက ရှင်ဒါယကာခံ၍ ဒုတိယအကြိမ် သာမဏေဖြစ်သည်။ သာမဏေပြုပြီး ၇ ရက်အကြာ မန္တလေး စကုတိုက် တိုက်ကြပ်ဆရာတော် ရှင်ဝိစိတ္တထံ မှီခို၍ တောင်သမန် တိုက် စာချအကျော် ရှင် (ဦး) စိန္တာ၊ စကုတိုက် ကျောင်းကြီးဆရာတော် ရှင်ခေမိန္ဒ၊ ခင်မကန်တိုက် ရှင်သူရိယ၊ ရွှေလောင်းကျောင်းဆရာတော် ရှင်နန္ဒဝံသတို့ထံ ပရိယတ္တိ စာပေသင်ယူခဲ့သည်။

သာမဏေ ၅ ဝါရ ၁၉၀၁ ခုနှစ် ဇူလိုင်လ ၂၇ ရက် စနေနေ့တွင် မွေးရပ် ခက်သင်ရွာ ရေသိမ်၌ ရဟန်းဖြစ်သည်။ ဘွဲ့ ရှင်ခေမာစာရ။ ဥပဇ္ဈာယ်မှာ တောရကြီး ကြည်လုံးကျောင်းတိုက် ကြည်လုံးဆရာတော် ရှင်သဝန ဖြစ်သည်။ ရဟန်းဒါယကာမှာ ဘထွေးတော် ပြာသာဒ်ဒါယကာ ဦးတိုး၊ ဒေါ်ဒွန်းဖြူ ဖြစ်သည်။ ရဟန်းဖြစ်ပြီး မန္တလေး စကုတိုက်ပြန်၍ ပရိယတ္တိစာပေ ဆက်လက်သင်ယူ၏။

ရဟန်း ၃ ဝါရတွင် မန္တလေး၌ ပလိပ်ရောဂါကျရောက်၍ ရောဂါ ရှောင်ရန် မြန်မာနိုင်ငံအောက်ပိုင်း သွားရောက်သည်။ ဟင်္သာတခရိုင် ကြံခင်းမြို့ လယ်ယာကျောင်းဆရာတော် ရှင်မာလာထံ ၁ နှစ်နှင့် ၆ ရက် သီတင်းသုံးသည်။ ၁၉၀၅ ခုနှစ်တွင် ရန်ကုန်မြို့ ပထမ ဗဟန်း ဝေဠုဝန် ဆရာတော် ရှင်ပဏ္ဍဝံသထံ ပြောင်းရွှေ့ပညာသင်သည်။ ပထမဝေဠုဝန် ဆရာတော် ရှင်ပဏ္ဍဝံသ (၁၈၆၅ -၁၉၄၃) ထံ ဝိနည်းအဋ္ဌကထာနှင့်

အဘိဓမ္မာဆိုင်ရာ မူလဋီကာ နည်းခံသင်ယူသည်။ ဝေဠုဝန်ဆရာတော်မှာ အဘိဓမ္မာဆိုင်ရာ မူလဋီကာပို့ချမှု အလွန်ထင်ရှား၍ မြန်အောင် ဂူကိုးလုံး ဆရာတော် ရှင်နန္ဒိယ (၁၈၃၄-၁၉၀၆)၊ ပြည် ပွင့်လှသိမ်ကုန်း ပထမ ဆရာတော် ရှင်နာရဒ (၁၈၃၂-၁၉၀၂)၊ ဒုတိယမြို့ပြင်ကြီးဆရာတော် ရှင်စန္ဒဝံသ (၁၈၂၇-၁၉၀၂) တို့၏ တပည့်ရင်းဖြစ်သည်။ ဝေဠုဝန်ဆရာ တော်ကို အကြောင်းပြု၍ နောင်အခါ ဝေဠုဝန်နိကာယဟု သီးခြားဂိုဏ်း တစ်ခု ဖြစ်လာသည်။

ရှင်ခေမာစာရသည် ပထမဝေဠုဝန်ဆရာတော်ထံ နည်းခံနေစဉ် တစ်ဖက်မှလည်း ပရိယတ္တိစာပေ ပြန်လည်ပို့ချသည်။ ၁၉၀၈ နှင့် ၁၉၀၉ ခုနှစ်များတွင် အိန္ဒိယနိုင်ငံ မဇ္ဈိမဒေသနှင့် သီရိလင်္ကာနိုင်ငံသို့ ဘုရားဖူး ၂ ကြိမ် သွားရောက်၍ ဒေသန္တရ ဗဟုသုတရှာမှီးကာ 'ဝေဠုဝန် ဦးခေမာစာရခရီးစဉ်' အမည်ဖြင့် စာအုပ်ရေးသားခဲ့သည်။ ၁၉၀၉ ခုနှစ်တွင် ပထမဝေဠုဝန်ဆရာတော်သည် ဝေဠုဝန်တိုက်အုပ် ရှင်တိဿအား လွှဲအပ် ကာ ပုသိမ်ဝေဠုဝန်၊ ထိန်တောဝေဠုဝန်၊ မြန်အောင်ဝေဠုဝန်၊ ရန်ကုန် ကြည့်မြင်တိုင် ဝေဠုဝန်ကျောင်းများ တည်ထောင်၍ ပရိယတ္တိစာပေ ပို့ချ သည်။ ဗဟန်းဝေဠုဝန်တိုက်သည် ရှင်တိဿမှတစ်ဆင့် ရှင်ခေမာစာရကို လွှဲအပ်ခဲ့ရာ ဗဟန်း ဝေဠုဝန်ဆရာတော် ရှင်ခေမာစာရဟု အမည်တွင်ခဲ့သည်။

ဂျပန်ခေတ် ဒေါက်တာဘမော် အစိုးရလက်ထက်တွင် လမ်းပန်း အဆောက်အအုံနှင့် ပြန်လည်ထူထောင်ရေးဝန်ကြီး ဗန္ဓုလဦးစိန်၏ အားထုတ်မှုဖြင့် ဂိုဏ်းပေါင်းစုံ မဟာသံဃအဖွဲ့ချုပ်ကြီး ဖွဲ့စည်းရာ ဝေဠုဝန် ဆရာတော် ရှင်ခေမာစာရသည် မြန်မာနိုင်ငံအောက်ပိုင်း အထူးအမှုဆောင် အဖွဲ့ဝင်၊ စစ်ပြီးစ ၁၉၄၆ ခုနှစ်တွင် ပြန်ကြားရေးဝန်ကြီး ဒီးဒုတ်ဦးဘချို၊ သူဌေးဆာဦးသွင်၊ တရားဝန်ကြီး ဒေါက်တာသိမ်းမောင်တို့ ဦးဆောင်၍ တောင်တန်းသာသနာပြုအဖွဲ့ကြီး တည်ထောင်ရာ အမှုဆောင်ဆရာတော် အဖြစ် ပါဝင်သည်။ ၁၉၄၇ ခု မတ်လ ၄ ရက်မှ ၆ ရက်အထိ ကျင်းပသော ချင်းတောင် ထီးလင်းမြို့ ချင်း-မြန်မာ ချစ်ကြည်ရေးညီလာခံကို ပြန်ကြား ရေးဝန်ကြီး ဒီးဒုတ်ဦးဘချိုနှင့်အတူ တောင်တန်းသာသနပြုအဖွဲ့ကိုယ်စား သံဃာ ၃ ပါးကို ဦးဆောင် တက်ရောက်သည်။ ညီလာခံတွင် သာသနာ အခြေခံတရားများ ဟောကြားခဲ့သည်။ ၁၉၅၂ ခုနှစ်မှစတင်၍ တောင်တန်း

သာသနာပြုအဖွဲ့ဥက္ကဋ္ဌ တာဝန်ထမ်းဆောင်ခဲ့ပါသည်။ လွတ်လပ်ရေးရပြီး နိုင်ငံတော်ဩဝါဒါစရိယ၊ ဆဋ္ဌသင်္ဂါယနာ ဩဝါဒါစရိယ၊ ဆဋ္ဌသင်္ဂါယနာ တတိယသန္နိပါတ (၁၉၅၈) သံဃမဟာနာယကအဖွဲ့ဝင်၊ စတုတ္ထ သန္နိပါတ (၁၉၅၉)၊ ဋီကာသံဂါယနာ ပဉ္စမသန္နိပါတ (၁၉၆၀)၊ ဒုတိယ(ပစ္ဆိမ) သန္နိပါတ (၁၉၆၁) တို့တွင် သံဃမဟာနာယကအဖြစ် ဆောင်ရွက်ခဲ့သည်။

ဆဋ္ဌသင်္ဂါယနာတင်ကာလ ၁၉၅၇ ခုနှစ်တွင် တရားဝန်ကြီး သတိုးမဟာသရေစည်သူ ဦးချန်ထွန်း ခေါင်းဆောင်သော လူပုဂ္ဂိုလ်အဖွဲ့နှင့်အတူ သံဃာအဖွဲ့ (မဟာစည်ဆရာတော်၊ အနီးစခန်းဆရာတော်၊ မြင်းခြံကိုးဆောင်တိုက်ဆရာတော်၊ မန္တလေး ဝိဇ္ဇာလင်္ကာရဆရာတော်၊ ဂျပန်သာသနာပြု ဦးခေမိန္ဒ) ကို ဦးဆောင်၍ ဂျပန်နိုင်ငံ မိုဂျိမြို့သို့ သာသနာပြုသွားရောက်ခဲ့သည်။ ထို့ပြင် သာသနာ ၂၅၀၀ ပြည့် ဗုဒ္ဓဇယန္တီပွဲတော် အထိမ်းအမှတ် လာအို၊ ထိုင်း၊ သီရိလင်္ကာနှင့် ဖိလစ်ပိုင်နိုင်ငံများကို ဓမ္မဒူတ ခရီးသွားရောက်ခဲ့သည်။

၁၉၅၈ ခုနှစ်တွင် နိုင်ငံတော်အစိုးရ၏ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်ဆက်ကပ်ခံရသည်။

ဝေဠုဝန်ဆရာတော်သည် ဗဟန်း ဝေဠုဝန်ကျောင်းတိုက်၏ ဦးစီးနာယကတာဝန်အပြင် ရွှေတိဂုံစေတီတော် ဂေါပက၊ ဆူးလေစေတီတော် ဂေါပက၊ မြန်မာနိုင်ငံလုံးဆိုင်ရာ ဗုဒ္ဓဘာသာအဖွဲ့ချုပ်၊ မဟာဗျူဟာအသင်း၊ ဝေနေယျသုခအသင်းတို့၏ ဩဝါဒါစရိယ၊ စေတိယင်္ဂဏအသင်း၊ အဘိဓမ္မာပြန့်ပွားရေးအသင်း၊ အလယ်တောရ သီလရှင်များအဖွဲ့ချုပ်တို့၏ မဟာနာယက၊ ဓမ္မကထိကအဖွဲ့ချုပ်၊ ရန်ကုန်ခရိုင် ကျောင်းထိုင်ဆရာတော်များအဖွဲ့၊ တောင်တန်းသာသနာပြုအဖွဲ့တို့၏ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ခဲ့ပါသည်။ ၁၉၆၄ ခု မြစ်ကြီးနားတွင် ကျင်းပသော ၁၇ ကြိမ်မြောက် တောင်တန်းသာသနာပြုအဖွဲ့ နှစ်လည်ညီလာခံကို တက်ရောက် ဩဝါဒပြောကြားပြီး မွေးရပ် စဥ့်ကူးမြို့နယ် ခက်သင်ရွာဝင်၍ ခေတ္တ သီတင်းသုံးရာမှ ကျန်းမာရေး ချို့ယွင်းလာသည်။

သက်တော် ၈၆ နှစ် သိက္ခာ ၆၆ ဝါအရ ၁၉၆၆ ခုနှစ် ဇူလိုင်လ ၁၇ ရက် တနင်္ဂနွေနေ့ နံနက် ၇း၄၅ နာရီတွင် ရန်ကုန်မြို့ ကမ္ဘာအေး သံဃဆေးရုံ၌ တစ်ဘဝ တစ်ခန်းရှာ ချုပ်ငြိမ်းခဲ့ပါသည်။



## ဘုရားဖြူဆရာတော်
## ရှင်ရာဇိန္ဒ
## (၁၈၈၄ — ၁၉၄၀)

ကိုလိုနီခေတ် ရန်ကုန်သာသနာရေးလောကတွင် စတုတ္ထဘုရားဖြူ ဆရာတော်အမည်ဖြင့် ထင်ရှားသည်။ မြင်းခြံနယ် သေရောက်ဂိုဏ်း အနွယ်ဖြစ်၍ သာသနာစိတ် ထက်သန်သည်။ မန္တလေးနှင့် ပခုက္ကူစာသင် တိုက်ကြီးများတွင် ပိဋကတ်စာပေကို ကျမ်းပေါက်သင်ယူခဲ့သည်။ မန္တလေးမြို့ မစိုးရိမ်စာသင်တိုက်၌ စာပေပို့ချစဉ် လယ်တီဆရာတော်၏ တိုက်တွန်းမှုဖြင့် မစိုးရိမ်တိုက်က "သဒ္ဒတ္ထ ရတနာဝလိ မဟာပါဠိ အဘိဓာန်" ပြုစုခဲ့ရာ "စတုတ္ထတွဲ"ကို တာဝန်ခံ ဦးဆောင်ပြုစုခဲ့သည်။ ထို့နောက် ရန်ကုန်အရှေ့ပိုင်း ဘုရားဖြူကျောင်းတိုက် ပြောင်းရွှေ့ စာပေပို့ချသည်။ မစိုးရိမ်တိုက် စာချ ဘက် ရှင်အာဒိစ္စဝံသသည် "ဘာသန္တရလမ်းညွှန်" ဖြင့် ရဟန်းတော်များ အင်္ဂလိပ်စာသင်ယူရေး လှုံ့ဆော်ခဲ့ရာ ရှင်ရာဇိန္ဒက "လောကာယတာဒိ ဝိနိစ္ဆယကျမ်း" ဖြင့် ဆန့်ကျင်ခဲ့သည်။ တစ်ဖန် ရှင်အာဒိစ္စဝံသက "ဘိက္ခုနီ သာသနောပဒေသ" ကျမ်းဖြင့် ဘိက္ခုနီသာသနာ ပြန်လည်ပေါ်ထွန်းရေး လှုံ့ဆော်ခဲ့ရာ ရှင်ရာဇိန္ဒက "ဘိက္ခုနီ အဆုံးအဖြတ်ကျမ်း" ဖြင့် တုံ့ပြန်ခဲ့ သည်။ ၁၉၃၅ ခုနှစ် အထက်လွှတ်တော်အမတ် ဆာဂျေအေမောင်ကြီး၏ "ဝိနယဓရောပဒေကြမ်း" လွှတ်တော်အတည်ပြုရေးတွင်မူ ဆာဂျေအေမောင်ကြီး ဘက်မှ ရှင်အာဒိစ္စဝံသနှင့်အတူ ထောက်ခံအားပေးခဲ့သည်။ အထင်ရှားဆုံး ဂန္ထန္တရကျမ်းဂန်မှာ "သာသနဗဟုဿုတပ္ပကာသနီ" ဖြစ်သည်။

ရာဇိန္ဒ ရှင်၊ စတုတ္ထ ဘုရားဖြူဆရာတော် —

၁၈၈၄ ခုနှစ် စက်တင်ဘာလ ၂၄ ရက် ဗုဒ္ဓဟူးနေ့တွင် မြင်းခြံခရိုင် ပုဂံမြို့အရှေ့ဘက် သေရောက်နယ် နွားပင်ရွာ၌ ဖွားသည်။ အဖ ဦးညွန့် အမိ ဒေါ်ညိုအေး ဖြစ်သည်။ အမည် မောင်ရွှေယာ တွင်သည်။

သေရောက်မြို့လယ် ရွှေမြင်တင်ကျောင်းတိုက်ဆရာတော် ရှင်စန္ဒိမာ (ရှင်ဉာဏိန္ဒဟုလည်း တွင်သည်) ထံ စတင် ပညာသင်ယူသည်။ ၁၅ နှစ်တွင် ရှင်စန္ဒိမာကို ဥပဇ္ဈာယ်ပြု၍ သာမဏေ ဖြစ်သည်။ သာမဏေဝတ်ဖြင့် ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။

သာမဏေ ၄ ဝါရ ၁၉၀၃ ခုနှစ် ဧပြီ ၃ ရက် သောကြာနေ့တွင် ရွှေမြင်တင်ကျောင်း သာသနဝဇိရသိမ်၌ ရဟန်းဖြစ်သည်။ ဥပဇ္ဈာယ် ဆရာတော်မှာ ရှင်စန္ဒိမာ (၁၈၆၃—၁၉၃၀) အနုသာသနဆရာတော်မှာ ရှင်ဇဝန (နောင် ပခုက္ကူအရှေ့တိုက်ခေါ် မဟာဝိဇယာရာမတိုက်တည်) ဖြစ်သည်။

ရဟန်းဖြစ်ပြီး မန္တလေးမြို့ ရာဇဂုရုဘွဲ့တံဆိပ် နှစ်ထပ်ရ မိုးကောင်း မဟာဝေယန်ဘုံကျော်ဆရာတော် ရှင်နာဂိန္ဒ (၁၈၃၃ ခန့် — ၁၉၀၉) ထံ တစ်ဝါ။ ဟင်္သာတမြို့၊ မြစ်ကွေ့ကျောင်းတိုက် ဒုတိယ မြစ်ကွေ့ဆရာတော် ရှင်ပညာရံသီ (၁၈၄၈—၁၉၀၇) ထံ ၂ ဝါ။ ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်တည် ရေစကြိုဆရာတော် ရှင်ဂန္ဓသာရ (၁၈၃၃—၁၉၁၄) ထံ ၂ ဝါ။ ရန်ကုန်မြို့အရှေ့ပိုင်း ဘုရားဖြူကျောင်းတိုက် ဒုတိယဘုရားဖြူ ဆရာတော် ရှင်နန္ဒိယ (၁၈၄၆—၁၉၁၁) ထံ တစ်ဝါ၊ ဇာတိသေရောက် ရွှေမြင်တင်ကျောင်း၌ တစ်ဝါ၊ ဒုတိယအကြိမ် ရန်ကုန် ဘုရားဖြူကျောင်း တိုက် တစ်ဝါ၊ ပိဋကတ်စာပေများ သင်ယူပို့ချခဲ့သည်။

၁၉၁၂ ခုနှစ်တွင် မန္တလေးမြို့ မဟိုးရိမ်ကျောင်းတိုက် ကျောင်းဒါယကာ ကြီး ဦးသက်ရှည်၊ သား ကျောင်းဒါယကာ ဦးကျော်တို့၏ အထောက်အပံ့ ခံယူ၍ ပရိယတ္တိနယပဒေသကျောင်း၌ မူလစာချအဖြစ် ပရိယတ္တိစာပေ ပို့ချသည်။ မန္တလေးမြို့ ပရိယတ္တိအားပေးရာ သာသနဟိတ သက္ကျသီဟ အသင်း၏ မူလဓမ္မာစရိယဘွဲ့နှင့် ဆွမ်းဆန်တော် လှူဒါန်းခံရသည်။ မဟိုးရိမ်တိုက်တွင် စာပေပို့ချနေစဉ် လယ်တီဆရာတော် ရှင်ဉာဏ (၁၈၄၆—

၁၉၂၃) ၏ တိုက်တွန်းချက်အရ မစိုးရိမ်တိုက်က 'သဒ္ဒတ္ထရတနာဝလိ' မည်သော ပါဠိအဘိဓာန် စတုတ္ထဘာဂ၏ ပထမတွဲကို ဦးဆောင် တာဝန်ခံ ပြုစုခဲ့သည်။ ယင်းစတုတ္ထဘာဂ ပထမတွဲကို ၁၉၃၂ ခုနှစ်တွင် ပုံနှိပ် ထုတ်ဝေခဲ့သည်။ မစိုးရိမ်တိုက်တွင် ၁၁ နှစ်တိုင်တိုင် ပရိယတ္တိ စာပေပို့ချ နေရာမှ ၁၉၂၃ ခုနှစ် မေလ ၃၀ ရက် ကြာသပတေးနေ့တွင် ယခင် စာပေပို့ချရာ ရန်ကုန်မြို့ ဘုရားဖြူကျောင်းတိုက်၏ စတုတ္ထမြောက် ဆရာတော်အဖြစ် ပြောင်းရွှေ့ခဲ့သည်။

ရန်ကုန်မြို့ အရှေ့ပိုင်း ဘုရားဖြူကျောင်းတိက်တွင် ပရိယတ္တိစာပေ ပို့ချနေစဉ် ကျောင်းဒါယကာသူဌေးကြီး ဆာဖိုးသာ၏ အထောက်အပံ့၊ ဝိနယာနုဂ္ဂဟအသင်း ဒါယကာ ဒါယိကာမများ၏ အထောက်အပံ့ဖြင့် 'ဝိနည်းစာပြန်ပွဲ' ကို ဆက်လက်ဦးဆောင်ခဲ့သည်။ ဒါယကာ လယ်ဝန်မင်း အငြိမ်းစား ဦးစံရွှေ၊ ဒီးဒုတ်ဦးဘချို၊ ပုဂံဝန်ထောက် ဦးတင်၊ ဦးဝင်းနှင့် တပည့်ရှင်လူအများ၏ တောင်ပန်ချက်အရ သာသနာရေးဆိုင်ရာ ကျမ်းဂန် များ ပြုစုခဲ့ရာ မဟာမင်္ဂလဒီပနီကျမ်း (၁၉၂၃) ဝိဝဋ္ဋနယဒီပနီကျမ်း (၁၉၂၄) ဗြဟ္မဝိဟာရဒီပနီ (၁၉၂၄) သာသနဗဟုဿုတပ္ပကာသနီ (၁၉၂၈) နဝင်္ဂပေါသဋ္ဌဒီပနီကျမ်း (၁၉၂၈) ကိုယ်ရေးတရား (၁၉၂၈) လောကာယတာဒိဝိနိစ္ဆယကျမ်း (၁၉၂၉) မာတာပိတုဂုဏဒီပနီ ခေါ် မိဘဂုဏ်ရည်ကျမ်း (၁၉၃၂) ဓမ္မစကြာတရားတော် ခေါ် ဓမ္မစကြာသုတ် မြန်မာပြန် (၁၉၃၄) ဘိက္ခုနီအဆုံးအဖြတ် (၁၉၃၅) ဝိနယရေအတ္ထုပ္ပတ္တိ (၁၉၃၅) သာသနဂုဏဒီပနီ ခေါ် သာသနဂုဏ်ရည်ကျမ်း (၁၉၃၆)၊ နိဗ္ဗာနတ္တဒီပနီကျမ်း၊ အာစရိယဂုဏဒီပနီ၊ အာပတ္တာဓိကရ နယုဥ္ဇနာဒိ ဝိနိစ္ဆယကျမ်း (၁၉၃၆)၊ ကလျာဏီကျောက်စာပါဠိနိသျ (၁၉၃၈)၊ ကဝိပိယ ဒီပနီနိဿယ (ပုံမနှိပ်ရသေး)၊ ဝိနယရေချိန်ခွင်ကျမ်း၊ စေတီယင်္ဂဏ ပဋိသင်္ခရဏကျမ်းများ ပြုစုခဲ့သည်။

ကျမ်းဂန်များ ပြုစုရာတွင် သေရောက်အန္တယ် သာသနာစိတ် ပြင်းထန်၍ သာသနာရေး ပျက်ပြားဆုတ်ယုတ်မည်ထင်လျှင် ရှေ့တန်းမှ ပါဝင်ဆောင်ရွက်ရုံမျှမက စာပေကျမ်းဂန်ဖြင့် ပြန်လည်ချေပတတ်သည်။ ဤသို့ဖြင့် ရှင်အာဒိစ္စဝံသ၏ ရဟန်းတော်များ အင်္ဂလိပ်စာသင်ကြားရေး လှုံ့ဆော်သော 'ဘာသန္တရကျမ်း' ထွက်ပေါ်လာစဉ် 'လောကာယတာဒိ

ဝိနိစ္ဆယကျမ်း'ဖြင့် အတိုက်အခံ ပြုခဲ့သည်။ တစ်ဖန် ရှင်အာဒိစ္စဝံသ၏ ထင်ရှားလှသော 'ဘိက္ခုနီသာသနောပဒေသ'ကျမ်း ထွက်ပေါ်ရာတွင်လည်း 'ဘိက္ခုနီအဆုံးအဖြတ်' ဖြင့် ပြန်လည်ချေပခဲ့သည်။ ရှင်အာဒိစ္စဝံသ ကလည်း 'ဘိက္ခုနီအရေးတော်ပုံ' ကျမ်းဖြင့် ရက်ရက်စက်စက် ပြန်လည် တုံ့ပြန်ခဲ့သည်။ လွှတ်တော်အမတ် ဆာဂျေအေမောင်ကြီး၏ 'ဝိနယဓရ ဥပဒေကြမ်း' အတည်ပြုရေးတွင်မူ ရှင်အာဒိစ္စဝံသနှင့်အတူ ဥပဒေကြမ်း ထောက်ခံရေးဘက်မှ ပါဝင်၍ 'ဝိနယဓရအတ္ထုပ္ပတ္တိ' စာတမ်း ရေးသား ခဲ့သည်။ အထင်ရှားဆုံးကျမ်းမှာ လယ်ဝန်မင်း ဦးစံရွှေ တောင်းပန်၍ ပြုစု ခဲ့သော 'သာသနဗဟုသုတပ္ပကာသနီ' ကျမ်းဖြစ်သည်။ ရန်ကုန်မြို့ ဒီးဒုတ် သတင်းစာပုံနှိပ်တိုက်က ပရိဖက်ဆာဆရာလွန်း (သခင်ကိုယ်တော်မှိုင်း) ကြီးကြပ်ပုံနှိပ်၍ ၁၉၂၈ ခုနှစ်တွင် ပထမအကြိမ် ထုတ်ဝေခဲ့သည်။ အခြား ထင်ရှားသော ကျမ်းတစ်ကျမ်းမှာ ပဲခူးမြို့ ကလျာဏီကျောက်စာပါဌ် နိဿယကို ဟင်္သာတ စတုတ္ထမြစ်ကွေ့ဆရာတော် ရှင်ပညာဝံသ၏ အကူ အညီဖြင့် မြန်မာသီဟိုဠ်မှုကွဲအမျိုးမျိုးဖြင့် ညှိနှိုင်းနိဿယပြန်ဆိုသော 'ကလျာဏီကျောက်စာပါဌ် နိဿယ' ဖြစ်သည်။

၁၉၃၀ ပြည့်နှစ်တွင် ပြည်မြို့ အင်ကြင်းမြောင်တောရ၌ ကမ္မဋ္ဌာန်း အားထုတ်နေသော ပရိယတ္တိ သာသနဟိတ မဟာစရိယ (သကျသီဟမဟာ စရိယ)၊ ပရိယတ္တိသာသနလင်္ကာရကောဝိဒ၊ သစ္စဝါဒိဌ်ကာ ဒုတိယဆုရ ရှင်ကဝိန္ဒ ကို ခေါ်ယူ၍ ဘုရားဖြူတိုက် သံဃာ့နာယကအဖြစ် အုပ်ချုပ်စေ ခဲ့သည်။ ရှင်ကဝိန္ဒမှာ စာပေထူးချွန်ထက်မြက်၍ တစ်နေ့လျှင် စာဝါ ၇ ဝါထိ ပို့ချခဲ့ရာ ၁၉၃၄ ခုနှစ်တွင် ပျံလွန်ခဲ့သည်။ ဘုရားဖြူဆရာတော် ရှင်ရာဇိန္ဒသည် ဘုရားဖြူကျောင်းတိုက် တာဝန်များကို ပြန်လည်ထမ်းဆောင် ခဲ့သည်။

၁၉၃၈ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။

သက်တော် ၅၇ သိက္ခာ ၃၈ ဝါရ ၁၉၄၀ ပြည့်နှစ် ဇွန်လ ၂၃ ရက်နေ့တွင် ရန်ကုန်မြို့ ဘုရားဖြူကျောင်းတိုက်၌ ခန္ဓာဝန်ချခဲ့ပါ သည်။





## မုဒ္ဒွန်းဆရာတော်
## ရှင်ကောသလ္လ
(၁၈၈၆ — ၁၉၈၉)

မွန်ပြည်နယ် ချောင်းဆုံမြို့ မုဒ္ဒွန်းရွာ ပိဋကတ်တိုက်ကျောင်းတွင် သီတင်းသုံး၍ 'မုဒ္ဒွန်းဆရာတော်' အမည်ဖြင့် ထင်ရှားသည်။ ပရိယတ္တိ စာပေပို့ချမှု၊ ဂန္ထဓုရစာပေကျမ်းဂန်ပြုစုမှုအပြင် ခေတ်အမြင် ခေတ် အတွေးဖြင့် ရပ်ကျိုးရွာကျိုး သယ်ပိုးခဲ့မှုကြောင့် လောကီလောကုတ် စွယ်စုံ သာသနာပြု ပုဂ္ဂိုလ်မွန်တစ်ပါးအဖြစ် ပူဇော်ခံရသည်။ ကိုလိုနီခေတ်ဦးက မုဒ္ဒွန်းရွာဝန်းကျင်တွင် လူဆိုးလူမိုက်၊ ဓားပြများ ကြီးစိုးနေရာ မော်လမြိုင် အရေးပိုင် မစ္စတာပါကင်း၏ မုဒ္ဒွန်းရွာဖျက်ပစ်ရန် နို့တစ် အထုတ်ခံ ရသည်။ ထိုစဉ် မုဒ္ဒွန်းဆရာတော်လေး ရှင်ကောသလ္လ က ရွာကို ချက်ချင်း မဖျက်ရန်၊ လူဆိုးလူမိုက်များ ဆိုဆုံးမခွင့်အချိန်တောင်း၍ ဟောပြော ဆုံးမခဲ့ရာမှ မုဒ္ဒွန်းရွာဆက် တည်တံ့ခွင့်ရခဲ့သည်။ မုဒ္ဒွန်းဆရာတော်လေး၏ ဦးဆောင်မှုဖြင့် သာမန်ရွာကလေးတစ်ရွာမှ မူလတန်းကျောင်း၊ ထိုမှ တစ်ဆင့် အလယ်တန်း၊ အထက်တန်းကျောင်းနှင့် ကျေးလက်စာဖတ်ခန်း၊ ဆေးပေးခန်း၊ မွန်ဓလေ့ပြတိုက်တို့ ပေါ်ထွန်းခဲ့သည်။ မုဒ္ဒွန်းဆရာတော် သည် မွန်-မြန်မာ-ပါဠိ သုံးဘာသာကျွမ်းကျင်၍ မွန်-မြန်မာ နှစ်ဘာသာဖြင့် ပရိယတ္တိဆိုင်ရာ ကျမ်းဂန်များ ပြုစုခဲ့ရာ သက်တော်ရှည် အဘိဓဇမဟာ ရဋ္ဌဂုရု ဆရာတော်တစ်ပါးအဖြစ် ထင်ရှားခဲ့သည်။

ကောသလ္လ၊ ရှင်၊ မုဒွန်းဆရာတော် —

၁၈၈၆ ခုနှစ် အောက်တိုဘာလ ၂၅ ရက် တနင်္လာနေ့တွင် မွန်ပြည်နယ် ချောင်းဆုံမြို့နယ် မုဒွန်းရွာ၌ ဖွားသည်။ အဘ ဦးသာအေး အမိ ဒေါ်စစ် ဖြစ်သည်။ မွေးချင်း ၉ ယောက်တွင် အကြီးဆုံး။ အမည် မောင်ငွေပန်း ဖြစ်သည်။

၇ နှစ်အရွယ်တွင် မုဒွန်းရွာကျောင်းဟောင်း ပထမဆရာတော် ရှင်တေဇဝန္တထံ စတင် ပညာသင်သည်။ ကျောင်းသားဘဝကပင် ဗုဒ္ဓ ဘာသာအခြေခံ အောင်ခြင်းရှစ်ပါး၊ လောကနီတိ၊ ပရိတ်ကြီး ပါဠိ အနက် အာဂုံရသည်။ ဗုဒ္ဓဘာသာစာပေအပြင် ဂဏန်းသင်္ချာ, ဗေဒင်ပညာဆိုင်ရာ ဇာတာတွက်နည်း၊ သင်္ကြန်စာဖွဲ့နည်းအထိ သင်ယူခဲ့၏။ ၁၀ နှစ်အရွယ်တွင် ဒုတိယဆရာတော် ရှင်သုဝဏ္ဏကို ဥပဇ္ဈာယ်ယူ၍ သာမဏေဖြစ်သည်။ မိဘနှစ်ပါးက ရှင်ဒါယကာ ခံယူသည်။ ဘွဲ့ ရှင်ဂုဏ ဖြစ်သည်။ သာမဏေ ၂ ဝါရတွင် သဒ္ဒါသုတ်စစ်၊ သဒ္ဒါကြီးပုဒ်စစ်၊ သင်္ဂြိုဟ်ကိုးပိုင်း၊ ဒွေမာတိကာ ပါဠိအနက် တက်ခဲ့သည်။ သာမဏေ ၃ ဝါရတွင် ကရင်ပြည်နယ် ဇာသပြင်ရွာမ ကျောင်းကြီးစာချဆရာတော် အရှင်သီလဝန္တထံ ပြောင်း ရွှေ့၍ ရူပသိဒ္ဓိ၊ န្យာသ၊ ဋီကာကျော် သင်ယူခဲ့သည်။ ထို့နောက် စာချဆရာ တော် ဘီလူးကျွန်း ဘိုးနက်ကျေးရွာ ရာမညကျောင်းတိုက် (ယခု တိုက်ကျောင်း) သို့ ပြောင်းရွှေ့ စာပေမို့ချရာ အတူလိုက်ပါ ပညာသင်ယူ သည်။ သာမဏေ ၈ ဝါရတွင် ရာမညစာသင်တိုက်၏ ဒုတိယစာချအဖြစ် ချီးမြှောက်ခံရကာ ရူပသိဒ္ဓိ၊ န្យာသ၊ ဋီကာကျော်၊ မဏိမဉ္ဇူကျမ်းများ ပြန်လည်ပို့ချသည်။ တစ်ဖက်ကလည်း ပါဠိဂါထာစီနည်း၊ ရှေးမွန်ကဗျာတေး ဖွဲ့နည်း၊ မြန်မာစာပေဆိုင်ရာ ကဗျာဖွဲ့နည်းများ လေ့လာဆည်းပူးသည်။

သာမဏေ ၁၀ ဝါရ ၁၉၀၆ ခု ဖေဖော်ဝါရီလ ၇ ရက် ဗုဒ္ဓဟူး နေ့တွင် ကညော်ကျေးရွာ ကျောင်းကြီးကျောင်း သိမ်ကျောင်းကြီး ကျောင်းဂိုဏ်းအုပ်ဆရာတော်ကို ဥပဇ္ဈာယ်ယူ၍ ရဟန်းဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ကောသလ္လ၊ ရဟန်းဒါယကာမှာ မိဘနှစ်ပါး ဖြစ်သည်။

ရဟန်း ၂ ဝါရသည့်တိုင် ရာမညကျောင်းတိုက် ရှင်သီလဝန္တထံ ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။ ထို့နောက် ရှင်သီလဝန္တနှင့် အတူ မုဒုံမြို့နယ် ကလော့သော့ကျေးရွာ ရှမ်းကျောင်းစာသင်တိုက် ပြောင်းရွှေ့

ပရိယတ္တိစာပေ သင်ယူသည်။ တစ်ဖက်ကလည်း စာပေ ပြန်လည်ပို့ချသည်။ ရဟန်း ၈ ဝါရတွင် ရန်ကုန်မြို့ ကျိုက္ကဆံရွှေကျင်တိုက် တိုက်အုပ်ဆရာတော်၊ ပုဇွန်တောင် တောင်လုံးပြန် သုံးထပ်ကျောင်းတိုက်ဆရာတော် အရှင်ဂန္ဓမာ၊ လယ်တီစာချ အရှင်ရာဇိန္ဒ၊ လယ်တီပဏ္ဍိတတို့ထံ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာများ ဆက်လက်သင်ယူသည်။

၁၉၁၈ ခုတွင် မုဒ္ဒွန်းရွာကျောင်းဟောင်း၌ မွန်ပရိယတ္တိစာသင်တိုက်ဖွင့်လှစ် သာသနာပြုသည်။ ထိုစဉ် မုဒ္ဒွန်းရွာဝန်းကျင်၌ လူဆိုးလူမိုက်များ မင်းမူနေရာ မော်လမြိုင်အရေးပါ မစ္စတာပါကင်း၏ ရွာဖျက်ရန် နို့တစ်ပေးခံရသည်။ ထိုအခြေအနေတွင် မုဒ္ဒွန်းဆရာတော်လေး ရှင်ကောသလ္လက ရွာကို ချက်ချင်း ရွာပျက်မဖြစ်စေရန် ကြားဝင်မေတ္တာရပ်ခံ၍ လူဆိုးလူမိုက်များကို ဆိုဆုံးမသည်။ ဩဇာရှိ ဒါယကာ ဦးစိန်ဘီလူးကို ရွာသူကြီးခန့်၍ တရားဟောပြောဆုံးမရာ မုဒ္ဒွန်းရွာ ဆက်တည်တံ့ခွင့်ရခဲ့သည်။ မူးယစ်သောက်စား ခိုက်ရန်ဖြစ်ပွားမှု၊ လောင်းကစားမှုတို့ကို ကာကွယ်ရန် ကတိလက်မှတ်ထိုးစေ၍ ရွာသူကြီးမှတစ်ဆင့် ဆိုင်ရာ အာဏာပိုင်များထံ ပေးပို့ခဲ့ရာ ၁၉၁၉ ခုနှစ်တွင် မြန်မာပြည်ဘုရင်ခံ၏ ဂုဏ်ထူးဆောင် ရွှေတံဆိပ်နှင့်လက်မှတ် ဆက်ကပ်ခံရသည်။ မုဒ္ဒွန်းရွာ ဆက်လက်တည်တံ့ခဲ့ရုံမျှမက မူလတန်း မြန်မာစာသင်ကျောင်း၊ အလယ်တန်းကျောင်း၊ ၁၉၃၉ ခုနှစ်၌ အထက်တန်းကျောင်း အဆင့်ဆင့် ဖွင့်လှစ်နိုင်ခဲ့သည်။ အထက်တန်းကျောင်းအုပ်အဖြစ် မုဒ္ဒွန်းဆရာတော်ကိုယ်တိုင် တာဝန်ယူ စီမံခန့်ခွဲ၍ ကျောင်းအိပ်ကျောင်းစား ဘော်ဒါ ကျောင်းသား ၅၀ ခန့် အခမဲ့ ထောက်ပံ့ကျွေးမွေးစောင့်ရှောက်သည်။ ထို့ပြင် ကျေးလက်ဆေးပေးခန်း၊ ကျေးလက်စာဖတ်ခန်းနှင့် မုဒ္ဒွန်းနှင့် ဥဒေါင်းကျေးရွာ လမ်းဖောက်ရေးတို့ကို ဦးဆောင်ခဲ့သည်။

၁၉၂၁ ခုနှစ်တွင် မုဒ္ဒွန်းရွာ၌ ပိဋကတ်တိုက်ကျောင်း၊ ပရိယတ္တိစာသင်တိုက်တည်၍ လောကီ လောကုတ် စွယ်စုံသာသနာပြုသည်။ အစိုးရ ပါဠိပညာရေးအဖွဲ့ မွန်နာယက (၁၉၁၈) အဖြစ် ဆောင်ရွက်သည်။ ၁၉၂၉ ခုနှစ်တွင် မြန်မာပြည်ဘုရင်ခံ၏ ရွှေတံဆိပ်နှင့် ဂုဏ်ထူးဆောင်လက်မှတ် ဒုတိယအကြိမ် ဆက်ကပ်ခံရသည်။ ဂျပန်ခေတ်တွင် သံဖြူဇရပ်မှ ဒုက္ခသည် ၃၀၀ ကျော်ကို ကျောင်းတိုက်တွင် လက်ခံ စောင့်ရှောက်ကူညီ

သည်။ ၁၉၄၃ ခုတွင် ဂျပန်ခေတ် ပါဠိဘာသာပညာရေး နာယကအဖွဲ့ဝင် အဖြစ် ဆောင်ရွက်သည်။ လွတ်လပ်ရေးအကြိုခေတ်တွင် မွန်မဟာ သံဃာ့အဖွဲ့ချုပ် အကျိုးတော်ဆောင်အဖြစ် ဆောင်ရွက်ခဲ့သည်။

မွန်ဘာသာဖြင့် ကင်္ခါဝိတရဏီ အဋ္ဌကထာနိဿယ၊ ရူပသိဒ္ဓိ နိဿယ၊ ဆန်းနိဿယ၊ အလင်္ကာနိဿယ၊ သုတ်သီလက္ခန်နိဿယ၊ သုတ်မဟာဝါနိဿယ၊ သုတ်ပါထေယျနိဿယ၊ ဝိဘင်းနိဿယ၊ ကထာ ဝတ္ထုနိဿယ၊ ပုဂ္ဂလပညတ်နိဿယ၊ သဒ္ဒါငယ် ၁၄ စောင်နိဿယ။ မြန်မာ ဘာသာဖြင့် အလင်္ကာရတ္ထဒီပနီ၊ မဂ္ဂင်ဒီပနီ၊ ဥပါသကာပဋ္ဌာဝိသဇ္ဇနာကျမ်း၊ ဂိုဏ်း ၉ ဂိုဏ်း ဂါထာဝတ္ထု (မွန်ကဗျာ) စသော ကျမ်းများ ပြုစုခဲ့သည်။ မွန်နိဿယကျမ်းများကို ရန်ကုန်မြို့ ဘားနဲ့(ဒ်) အခမဲ့ ပိဋကတ်တိုက် (အမျိုးသားစာကြည့်တိုက်) ၌ မှူပွားထားရှိသည်။

လွတ်လပ်ရေးရပြီး လန်ဒန်တက္ကသိုလ်မှ မွန်စာပေ၊ မွန်ဝေလေ့ လေ့လာသူ မစ္စတာရှောတိုးအား ကူညီ၍ မွန်ဝေလေ့ပြတိုက်တည်ထောင်ရန် ဆော်ဩခဲ့သည်။ မွန်ရေးရာအဖွဲ့ နာယကအဖြစ် ဆောင်ရွက်၍ အစိုးရ ပါဠိပထမပြန်စာမေးပွဲများတွင် မွန်ဘာသာဖြင့် ဖြေဆိုခွင့်ရရန် ကြိုးပမ်း သည်။ ထို့ပြင် မော်လမြိုင်မြို့ ပထမပြန်စာမေးပွဲ ကြီးကြပ်ရေးအဖွဲ့ နာယက၊ မော်လမြိုင်မြို့ ပါဠိတက္ကသိုလ်စာချတန်း စာမေးပွဲကြီးကြပ်ရေးအဖွဲ့ ဥက္ကဋ္ဌ၊ ပါဠိပထမပြန်စာမေးပွဲ မွန်ဘာသာတာဝန်ခံ၊ ပါဠိဘာသာပညာရေးနာယက အဖွဲ့ ဥက္ကဋ္ဌ၊ သုဝဏ္ဏဘူမိ ပရိယတ္တိသာသနာ့ဟိတအသင်း နာယက အဖွဲ့ဝင်၊ ပါဠိတက္ကသိုလ် ဗဟိုအဖွဲ့ဝင်၊ တော်ကနာဂိုဏ်းချုပ်၊ ဗုဒ္ဓဘာသာကို နိုင်ငံတော်ဘာသာပြုရေး အကြံပေးအဖွဲ့ဝင်အဖြစ် ရွေးချယ် တာဝန် ပေးအပ်ခံရသည်။

၁၉၅၀ ပြည့်နှစ်တွင် ဖဆပလအစိုးရ၏ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်ကို ပတ္တမြားဆရာတော် ရှင်ဇာဂရ၊ မဟာဂန္ဓာရုံဆရာတော် ရှင်ဇနကာဘိဝံသတို့နှင့်အတူ ဆက်ကပ်ခံရသည်။ ၁၉၇၈ ခုနှစ်တွင် မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ အစိုးရ၏ အဘိဓဇ မဟာရဋ္ဌဂုရုဘွဲ့တံဆိပ် ကို ပြည်မြို့ ပွင့်လှသိမ်ကုန်းဆရာတော် အရှင်တိက္ခ၊ စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာတိုက်သစ်ဆရာတော် အရှင်ပဏ္ဍိတ တို့နှင့်အတူ ဆက်ကပ်ခံရ သည်။

သက်တော် ၁၀၄ သိက္ခာ ၈၄ ဝါအရ ၁၉၈၉ ခုနှစ် ဒီဇင်ဘာလ ၁၆ ရက် စနေနေ့တွင် ချောင်းဆုံမြို့နယ် မုဒွန်ရွာ ပိဋကတ်တိုက်ကျောင်း၌ တစ်ဘဝ တစ်ခန္ဓာ ချုပ်ငြိမ်းခဲ့ပါသည်။





## ညောင်လေးပင် တောရဆရာတော် ရှင်အရိယ

(၁၈၈၇ — ၁၉၅၂)

မြန်မာနိုင်ငံ ပရိယတ္တိသာသနာဝင်တွင် ဓမ္မစကြာအရသာ၊ ပဋိစ္စ သမုပ္ပါဒ်အရသာ၊ သတိပဋ္ဌာန်အရသာ၊ ဝိသုဒ္ဓိမဂ်အရသာ စသော အရသာ ကျမ်းပြု ရွှေကျင်နိကာယ တောရဂိုဏ်းဝင် တတိယညောင်လေးပင်တောရ ဆရာတော်ဟု ထင်ရှားသည်။ ဘုန်းတော်ကြီး ဦးသီလကို ဥပဇ္ဈာယ်ယူ၍ ညောင်လေးပင်တောရ ပထမ၊ ဒုတိယဆရာတော်၊ ရွှေကျင်သာသနာပိုင် မဟာဝိသုဒ္ဓါရာမဆရာတော်တို့ထံ ပရိယတ္တိ နည်းခံခဲ့သည်။ ၁၄ ဝါအရ၌ ညောင်လေးပင်တောရစာသင်တိုက်၏ အဓိပတိဖြစ်လာ၏။ ၁၈၉၆ ခုနှစ်က စတင်ခဲ့သော ညောင်လေးပင်နယ် ရွှေကျင် နိကာယတောရဂိုဏ်း ဝိနည်း စာပြန်ပွဲကြီးကို ဆက်လက်ဦးဆောင်ခဲ့၏။ ရန်ကုန်ဆေးရုံကြီး၌ လေငန်း ရောဂါ ကုသမှုခံယူနေစဉ် အားအင်ကုန်ခန်း၍ နေလွဲညစာအဖြစ် အာဟာရမှီဝဲရန် ဆရာဝန်ကြီးများက လျှောက်ထားရာ နှုတ်မှ မမြွက်နိုင်၍ စာဖြင့် 'အစိုးရအမှုထမ်းများသည် အစိုးရဥပဒေကို တစ်သဝေမတိမ်း လိုက်နာကျင့်ကြံရသည်။ ထို့အတူ မြတ်စွာဘုရား၏ သားတပည့်များ ဖြစ်ကြသော သာသနာတော်ထမ်း ရဟန်းသာမဏေများသည်လည်း ဘုရား၏ ဥပဒေဝိနည်းကို လိုက်နာရပေသည်'ဟု ရေးပြကာ သေမင်း တံခါးဝရောက်သည့်တိုင် သီလအပျက်မခံ စောင့်စည်းခဲ့သည်။ ဤဖြစ်ရပ် ကို မူတည်၍ ရုပ်ရှင်ဒါရိုက်တာ ဦးသုခက 'ရဟန်းမစားရသော ဆွမ်း တစ်နပ်' ကို ဖန်တီးသည်ဟု ဆိုခဲ့ပါသည်။

အရိယာ၊ ရှင်၊ တတိယ ညောင်လေးပင်တောရဆရာတော် —

၁၈၈၇ ခုနှစ် ဇန်နဝါရီလ ၉ ရက် တနင်္ဂနွေနေ့တွင် ပဲခူးတိုင်း ညောင်လေးပင်မြို့နယ် ပုဂွန်မြောင်းရွာ၌ ဖွားသည်။ အဖ ကျောင်းဆရာ ဦးခေါင်၊ အမိ ဒေါ်ခက် ဖြစ်သည်။ မွေးချင်း ၆ ယောက်တွင် သားဦး ဖြစ်သည်။

၁၁ နှစ်တွင် ညောင်လေးပင်တောရကျောင်း ပထမဆရာတော် ရှင်သောမ (၁၈၄၉—၁၉၁၆) ထံ စတင် ပညာဆည်းပူးသည်။ ညောင်လေးပင် တောရတိုက်သည် ရဟန္တာဟု ထင်ရှားသော ဘုန်းတော်ကြီး ဦးသီလ (၁၈၃၂—၁၉၀၇) တည်ခဲ့သော စာသင်တိုက်များတွင် တစ်တိုက်အပါအဝင် ဖြစ်၍ ပထမဆရာတော် ရှင်သောမမှာ ပရိယတ် ပဋိပတ် စွယ်စုံပြည့်ဝ သည်။ ၁၂ နှစ်တွင် မိဘနှစ်ပါးက ရှင်ဒါယကာခံ၍ သာမဏေ ဖြစ်၏။ ဘွဲ့မည် ရှင်အရိယ ဖြစ်သည်။ ဥပဇ္ဈာယ်ဆရာတော်မှာ ရှင်သောမ ဖြစ်သည်။ ရှင်အရိယသည် ငယ်စဉ်ကပင် ပဋိသန္ဓေဗီဇ ကောင်းမွန်ခြင်း၊ ဉာဏ်ဝီရိယ ထက်သန်ခြင်း၊ ဆရာသမားကောင်းများ၏ သွန်သင်ဆုံးမ စောင့်ရှောက်မှုများကြောင့် ပရိယတ္တိစာပေ အခြေခိုင်ခဲ့သည်။ သာမဏေ ဝတ်ဖြင့် ညောင်လေးပင်တောရ ပထမဆရာတော်၊ ဒုတိယဆရာတော် ရှင်နေယျ (၁၈၇၆ ၁၉၁၈) ထံ ပိဋကတ်စာပေများ ဆက်လက်သင်ယူ သည်။

၁၉၀၆ ခုနှစ် ဖေဖော်ဝါရီလ ၉ ရက် သောကြာနေ့တွင် မိဘနှစ်ပါးက ရှင်ဒါယကာခံ၍ ညောင်လေးပင်တောရ သိလဝိသောမနိသိမ်၌ ရဟန်း ဖြစ်၏။ ရဟန်းဘွဲ့ ရှင်အရိယ။ ဥပဇ္ဈာယ်ဆရာမှာ ညောင်လေးပင်တောရ တိုက်တည် ဘုန်းတော်ကြီး ဦးသီလ ဖြစ်သည်။

ရဟန်းဖြစ်ပြီး ညောင်လေးပင်တောရ ပထမဆရာတော်နှင့် ဒုတိယ ဆရာတော်တို့ထံ ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။ အစိုးရ ပထမပြန် စာမေးပွဲများကို ဝင်ရောက်ဖြေဆိုရာ ပထမကြီးတန်းအထိ အောင်မြင်သည်။ ထိုအချိန်က ပထမကြီးတန်းမှာ အမြင့်ဆုံးစာမေးပွဲဖြစ်သည်။ ထို့နောက် ဘုန်းတော်ကြီး ဦးသီလ၏ ညွှန်ကြားမှုဖြင့် မန္တလေးမြို့ ရွှေကျင်နိကာယ ဒုတိယသာသနာပိုင် မဟာဝိသုဒ္ဓါရာမဆရာတော် ရှင်ဝိသုဒ္ဓ (၁၈၃၈—

၁၉၁၆) ထံ ပြောင်းရွှေ့ ပညာဆည်းပူးခဲ့သည်။ မဟာဝိသုဒ္ဓါရာမဆရာတော် ထံတွင် ပါဠိ အဋ္ဌကထာ ဋီကာဆိုင်ရာ ပရိယတ္တိစာပေအပြင် စာပေပို့ချ သင်ပြနည်း၊ အဋ္ဌကထာ ဋီကာနည်းကျ ပါဠိ စုဏ္ဏိယ ရေးသားနည်း၊ ဝိနိစ္ဆယဖြတ်ထုံး ရေးသားနည်း၊ စာပေကျမ်းဂန် အမှား အမှန် စိစစ်နည်း၊ တပည့်ပရိသတ်မွေးမြူနည်း၊ ကျင့်ကြံနေထိုင်နည်းတို့ကို ကျေနပ်အားရ သည့်တိုင် သင်ယူခဲ့သည်။ ထို့နောက် ညောင်လေးပင်တောရတိုက်ပြန်၍ ပရိယတ္တိစာပေ ပို့ချသည်။ စာပေပို့ချမှုအပြင် တိုက်တာအုပ်ချုပ်မှု တာဝန် များကို တစ်စတစ်စ လွှဲအပ်ခံရကာ ၁၉၁၆ ခုနှစ်တွင် ပထမတောရ ဆရာတော်၊ ၁၉၁၉ ခုနှစ်တွင် ဒုတိယတောရဆရာတော်တို့ ပျံလွန်ခဲ့ပြီး ညောင်လေးပင်တောရတိုက်ကြီးကို တတိယမြောက်ဆရာတော်အဖြစ် တာဝန်ယူခဲ့ရသည်။ တိုက်အုပ်ဆရာတော်မှာ ရှင်အာဠာရ (နောင် ရန်ကုန်မြို့ ကျောက်ကုန်း မေဒိနီတောရဆရာတော်) ဖြစ်သည်။ တတိယဆရာတော်၏ လက်ထက်တွင် သံဃာ ၁၀၀ ဝန်းကျင်မှ ၂၀၀ နီးပါးအထိ တိုးတက်လာ သည်။ အစိုးရ ပထမပြန်စာမေးပွဲများ၌လည်း အောင်မြင်မှုရရှိလာရာ မြန်မာနိုင်ငံ ပရိယတ္တိစာသင်တိုက်များတွင် ပိုမိုထင်ရှားလာသည်။ အထူး အားဖြင့် တောရတိုက်အမည်အတိုင်း ဝိနည်းအလေးထား ပရိယတ္တိစာပေ သင်ယူပို့ချရာဌာနကြီး ဖြစ်ခဲ့သည်။

၁၈၉၆ ခုနှစ်မှစတင်၍ ဘုန်းတော်ကြီး ဦးသီလ ဦးဆောင်ကျင်းပ ခဲ့သော ညောင်လေးပင်နယ် ရွှေကျင်နိကာယတောရဂိုဏ်း ဝိနည်းစာပြန်ပွဲ ကြီး၏ အကျိုးတော်ဆောင်အဖြစ် ၁၉၁၉ ခုနှစ်တွင် စတင် ထမ်းဆောင် ခဲ့သည်။ စာပြန်ပွဲကို မူလက ကထိန်ပွဲနှင့်တွဲလျက် တန်ဆောင်မုန်း လပြည့်အတွင်း ကျင်းပခဲ့ရာမှ ၁၉၃၆ ခုနှစ်တွင် တန်ဆောင်မုန်းလပြည့် ကျော် ၂ ရက်မှ စတင်ကျင်းပခဲ့သည်။ စာပြန်ပွဲကို ဂျပန်ခေတ်မှာပင် မပျက်မကွက် ကျင်းပနိုင်ခဲ့ရာ ၁၉၉၆ ခုနှစ်တွင် ရာပြည့်သဘင် ကျင်းပ နိုင်ခဲ့၏။

၁၉၂၉ ခုနှစ် မော်လမြိုင်မြို့ ပန်းဘဲတန်းရပ် ပုဂံတောင်ကျောင်း၌ ကျင်းပသော တတိယအကြိမ် နိုင်ငံလုံးဆိုင်ရာ ရွှေကျင်ဂိုဏ်း သံဃာ့ အစည်းအဝေးကြီး၏ မှတ်တမ်းကို တာဝန်ယူ ပြုစုခဲ့သည်။ ယင်းမှတ်တမ်း ကို ၁၉၃၀ ပြည့်နှစ်တွင် သထုံမြို့ သုဝဏ္ဏဝတီပိဋကတ်ပုံနှိပ်တိုက်က

ရွှေကျင်နိကာယမှတ်တမ်းအဖြစ် ပုံနှိပ်ထုတ်ဝေခဲ့သည်။ ၁၉၃၂ ခုနှစ် ပဥ္စမအကြိမ် ရွှေကျင်နိကာယ သံဃာ့အစည်းအဝေးတွင် ဂိုဏ်းလုံးဆိုင်ရာ ပရိယတ္တိဝန်ဆောင်အဖွဲ့ဝင်အဖြစ် တာဝန်ပေးအပ်ခံရသည်။ ၁၉၃၇ ခုနှစ် အစိုးရ ပထမပြန်စာမေးပွဲ စုံစမ်းရေးကော်မတီအဖွဲ့ဝင် ရဟန်းတော် ၁၀ ပါးတွင် တစ်ပါးအပါအဝင်ဖြစ်သည်။ ဂျပန်ခေတ် ၁၉၄၃ ခုနှစ် ဒီဇင်ဘာလ ၂၈ ရက်တွင် စစ်ကိုင်းတောင်ရိုး၌ ရွှေကျင်နိကာယ ဓမ္မသေနာပတိ အဘယာရာမဆရာတော် ရှင်အဂ္ဂဓမ္မ ပျံလွန်ခဲ့ရာ တောရဆရာတော်သည် ၁၉၄၄ ခုနှစ် ဇန်နဝါရီလ ၈ ရက် ရက်စွဲဖြင့် ဝမ်းနည်းကြောင်း စာရေးသားပေးပို့ခဲ့ရာ ဆရာတော်၏ စာပေစိကုံးမှု၊ အတတ်ပညာဆန်းကြယ်မှု၊ ဓမ္မရသပြည့်ဝမှုတို့ကို ယနေ့တိုင် နည်းမှီခံရဆဲဖြစ်သည်။ ယင်းစာတိုကလေးမှာ-

'အသောကမင်းလည်း သောကသို့ရောက်၏။ အဘယရှင်လည်း သဘယဖြစ်၏။ မြေမိုးပိုင်စိုးလျက်လည်း သျှစ်သျှားတစ်ခြမ်းသာ လက်ကိုင်ရှိ၏။ ရွှေဂူလည်း အုတ်ဂူတွင်းကိန်း၏။ ဝင်သက်သည် ထွက်သက်သို့ မရောက်မိဟု ဟောသော်လည်း ဤဆရာတော်ကို နောက်အနှစ် ၂၀ လောက် သာသနာပြုနိုင်လိမ့်ဦးမည်ဟု အားထားမိ၏။ အားကိုးစရာ သဒ္ဒါရ တစ်ခုမျှမရှိဟု ဟောသော်လည်း အစားရှာ၍မရနိုင်သော အားကိုးရာမှ တပည့်တော်တို့မှာ ဆုံးရှုံးရလေပြီဟု စွဲလမ်းမိ၏။ လောကဓမ္မတာဖြစ်သော်လည်း ကြေကွဲခြင်း မဆုံးနိုင်ပါတကား" ဟူ၍ဖြစ်သည်။

ညောင်လေးပင်တောရဆရာတော်၏ စာပေလက်ရာများမှာ သတိပဋ္ဌာန်အရသာ၊ ပဋိစ္စသမုပ္ပါဒ်အရသာ၊ ဘာဝနာအရသာ၊ ဝိသုဒ္ဓိမဂ်အရသာ၊ မဟာဓမ္မစကြာအရသာ၊ ဂုဏ်တော်အရသာ၊ ကထိန်အရသာ၊ သင်္ဂြိုဟ်အရသာ၊ အလင်္ကာအရသာ၊ ဒွေမာတိကာအရသာ၊ ဝိနယကောသလ္လကျမ်း၊ ပဋိစ္စသမုပ္ပါဒ်အခြေပြု၊ ဥပါသကာလက်သုံး၊ ကမ္မဝါခန်း ၂၀၊ ဘုန်းတော်ကြီးဦးသီလ ထေရုပ္ပတ္တိ၊ ဓမ္မပဒဘာသာပြန်၊ စတုရာရက္ခကျမ်း၊ ကရင်-ဗမာ ချစ်ကြည်ရေး၊ ဆန်းအရသာ၊ ကဆုန်လပြည့်အရသာကျမ်းများ ဖြစ်သည်။ ကျမ်းအမည်တွင် 'အရသာ' ဖြင့် ဆုံးလေ့ရှိ၍ ကျမ်းပြုဆရာတော်အား 'အရသာဆရာတော်' ဟု ကမ္ပည်းတင်ကြသည်။

၁၉၄၈ ခုနှစ်တွင် မန္တလေးမြို့ ပရိယတ္တိသာသနဟိတ (သကျသီဟ) အသင်း၏ နှစ်ငါးဆယ်မြောက် အထိမ်းအမှတ်သဘင်ပွဲ ကျင်းပခဲ့သည်။

ထိုပွဲတွင် မြန်မာနိုင်ငံတွင်းရှိ ပရိယတ္တိစာပေ ကျွမ်းကျင်လိမ္မာ၍ ထင်ရှားသော ပရိယတ္တိစာသင်တိုက်ကြီးများ၏ အဓိပတိဆရာတော် ၇ ပါးကို အသင်းကြီးက ဓမ္မာစရိယ မူလစာချဘွဲ့တံဆိပ် ဆက်ကပ်ခဲ့ရာ အင်ပူဆရာတော် ရှင်ဝိစိတ္တ၊ ပခုက္ကူအရှေ့တိုက်ဆရာတော် ရှင်ဇဝန၊ ပခုက္ကူအလယ်တိုက်ဆရာတော် ရှင်နန္ဒဝံသ၊ ညောင်တုန်း ရွှေဟသ်ာတောရတိုက်ဆရာတော် ရှင်ကလျာဏ၊ မော်လမြိုင် တောင်ပေါက်ဆရာတော် ရှင်စက္ကပါလ၊ ရေနံချောင်းဆရာတော် ရှင်ပညာဝံသတို့နှင့်အတူ ဘွဲ့ဆက်ကပ်ခံရသည်။

၁၉၅၂ ခုနှစ်တွင် နိုင်ငံတော်အစိုးရ၏ အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။ ဆဋ္ဌသင်္ဂါယနာပွဲ ဩဝါဒါစရိယဆရာအဖြစ် ရွေးချယ်ပူဇော်ခံရသည်။

သက်တော် ၆၆၊ သိက္ခာ ၄၇ ဝါအရ ၁၉၅၂ ခုနှစ် ဩဂုတ်လ ၄ ရက် တနင်္လာနေ့ ည ၇း၄၀ နာရီတွင် ရန်ကုန်မြို့ ပြည်သူ့ဆေးရုံကြီး၌ လေငန်းရောဂါဖြင့် တစ်ဘဝ တစ်ခန္ဓာ ချုပ်ငြိမ်းခဲ့ပါသည်။





## ခြောက်ထပ်ကြီး ဘုရားကြီးတိုက်ဆရာတော် ရှင်ကောဏ္ဍည

(၁၈၈၇ — ၁၉၅၇)

ပခုက္ကူစာချနည်း အစဉ်အလာအတိုင်း စာမေးပွဲဦးစားမပေး၊ ပိဋကတ်သုံးသွယ် နိကာယ်ငါးရပ် ကျမ်းပေါက်ရေးကိုသာ ဦးတည်၍ ဝိနည်းနှင့်အညီ ပရိယတ္တိစာပေပို့ချရာ ရန်ကုန်မြို့ ခြောက်ထပ်ကြီး ဘုရားကြီးတိုက်တည် ဆရာတော်အဖြစ် ထင်ရှားပါသည်။ လွတ်လပ်ရေး ခေတ်ဦး သာသနာရေးရှေ့ဆောင် ဆရာတော်တစ်ပါးဖြစ်ရာ နိုင်ငံတော် အစိုးရနှင့် ဗုဒ္ဓသာသနအဖွဲ့က ဆဋ္ဌသင်္ဂါယနာတင်စဉ် သံဃာ့နာယက အဖြစ် ဆောင်ရွက်ရန် လျှောက်ထားခံရသည်။ သို့သော် "ဂုဏဝုဍ္ဎိ ဝယဝုဍ္ဎိ ပြည့်စုံသော ထေရ်ကြီးတစ်ပါးကို တင်မြှောက်လျှင် ပိုကောင်းမည်၊ သံဃာ့ ကိစ္စကို သံဃာက ဆောင်ရွက်ပါလိမ့်မည်" ဟု ပြန်လည် လမ်းညွှန်ခဲ့သည်။ အဂ္ဂမဟာပဏ္ဍိတဘွဲ့ ဆက်ကပ်စဉ်ကလည်း 'ဘွဲ့တံဆိပ်အလိုမရှိ'ဟု ငြင်းပယ်ခဲ့သည်။ မတတ်သာ၍ လက်ခံရသော် "အဂ္ဂမဟာပဏ္ဍိတ ဘုရားကြီး ဆရာတော်ဟု မခေါ်ဝေါ် မရေးသားရ၊ ဘုရားကြီးတိုက်ဆရာတော်ဟုသာ ရေးသားခေါ်ဝေါ်ရမည်" ဟု မိန့်ဆိုခဲ့သည်။ သံဃာ့ဝိနိစ္ဆယ ဥပဒေပြဋ္ဌာန်း ရန် စီစဉ်ရာတွင် ဝိနည်းနှင့် မညီညွတ်သမျှကို ရဲရဲဝံ့ဝံ့ ကန့်ကွက်ခဲ့သော သတ္တိ ဗျတ္တိ ပရိယတ္တိ ဂုဏ်ဆောင် ဆရာတော်တစ်ပါးအဖြစ် မှတ်တမ်းတင် ခံရပါသည်။

ကောဏ္ဍညာ၊ ရှင်၊ ဘုရားကြီးဆရာတော် —

၁၈၈၇ ခုနှစ် ဇန်နဝါရီလ ၃ ရက် တနင်္လာနေ့တွင် ဟံသာဝတီခရိုင် သပြေကန်မြို့နယ် (ယခု သံသလျင်ခရိုင် ခရမ်းမြို့နယ်) ညောင်ပင်ရွာ၌ ဖွားသည်။ အဖ ဦးကျောက်ဖူး အမိ ဒေါ်ရွှေရင် ဖြစ်သည်။ အမည်ရင်း မောင်ကျော်လှ ဖြစ်သည်။

၆ နှစ်အရွယ်တွင် ညောင်ပင်ရွာ သုံးထပ်ကျောင်းဆရာတော် ရှင်တေဇဝန္တ (၁၈၅၆—၁၉၂၇) ထံ စတင်ပညာသင်သည်။ ရှင်တေဇဝန္တမှာ ဖားကူးဂိုဏ်း စာချွန်တော်ရ ဂိုဏ်းထောက် ဆရာတော်ဖြစ်၍ နောင်အခါ ပုဂံတောင်တောရဆရာတော်၊ ခေမာသီဝံဆရာတော် အမည်တွင်သည်။ မောင်ကျော်လှသည် ကျောင်းသားဘဝကပင် ဉာဏ်ထက်မြက်၍ စာပေထူးချွန်သည်။ ၁၄ နှစ်တွင် မိဘနှစ်ပါးက ရှင်ဒါယကာ၊ ရှင်တေဇဝန္တက ဥပဇ္ဈာယ်ဆရာပြု သာမဏေဖြစ်သည်။ ဘွဲ့ ရှင်ကောဏ္ဍညာ။ သာမဏေဝတ်ဖြင့် ပရိယတ္တိဆိုင်ရာ သဒ္ဒါကြီး၊ သင်္ဂဟ၊ သဒ္ဒါငယ်၊ ဆန်း၊ အဘိဓာန်၊ အလင်္ကာ၊ မာတိကာ၊ ဓာတုကထာတို့ကို နေ့ဝါညဝါအဖြစ် သင်ယူခဲ့သည်။

၁၉ နှစ်အရွယ် ၁၉၀၆ ခုနှစ် မတ်လ ၃ ရက် အင်္ဂါနေ့တွင် ညောင်ပင်ရွာ သုံးထပ်ကျောင်းသိမ်၌ ရဟန်းပြုသည်။ ဥပဇ္ဈာယ်ဆရာမှာ ရှင်တေဇဝန္တ ရဟန်းဒါယကာမှာ မြေပိုင်ရှင် ဦးလုံထော် ဒေါ်ညိုပု မိသားစု ဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ကောဏ္ဍညာ၊ ရဟန်း ၄ ဝါရသည့်တိုင် ဥပဇ္ဈာယ် ဆရာတော်နှင့် စာချ ရှင်သြဘာသ၊ ရှင်နန္ဒမေဓါ (၁၈၇၂—၁၉၆၂)၊ ရှင်ရေဝတ (၁၈၇၃—၁၉၅၁) တို့ထံ ကစ္စီ၊ ဋီကာကျော်၊ ယမိုက်၊ ပဋ္ဌာန်း၊ သုံးချက်စု၊ ရာသီစုကျမ်းများ သင်ယူခဲ့သည်။ ထိုအချိန်က ညောင်ပင်ရွာ သုံးထပ်ကျောင်းတွင် ရဟန်းသာမဏေ ၁၀၀ ခန့်၊ ကျောင်းသား ၁၀၀ ကျော်ရှိသည်။

ရဟန်း ၄ ဝါရ ၁၉၁၀ ပြည့်နှစ်တွင် ဥပဇ္ဈာယ်ဆရာကိုယ်တိုင် မန္တလေးမြို့ ဒက္ခိဏာရာမဘုရားကြီးတိုက် စာချ ရှင်ဉာဏ (ဦးဉာဏကြီး ၁၈၄၈-၁၉၁၉) ထံ အပ်နှံ၍ ပရိယတ်စာပေ ဆက်လက်သင်ယူသည်။ ဘုရားကြီးတိုက် စာချ ရှင်ဇာဂရ (၁၈၆၇—၁၉၄၇) ရွှေရေဆောင်ဆရာတော် ရှင်အာဒိစ္စဝံသရံသီ (ဆရာတော်ဦးကြည် ၁၈၅၇—၁၉၁၅) တို့ထံ တစ်နှစ်

နည်းခံသည်။ ထို့နောက် တောင်ငူခရိုင် ရေတာရှည်မြို့ ပုဂံတောင်တောရ တွင် သီတင်းသုံးနေသော ဥပဇ္ဈာယ်ဆရာတော်ထံ ပြန်လည်သီတင်းသုံး၍ တောင်ငူမြို့ မြို့ရိုးတိုက်ဆရာတော် ရှင်တိက္ခထံ ၂ ဝါ။ ၁၉၁၄ ခုနှစ်တွင် ဥပဇ္ဈာယ်ဆရာတော်နှင့် ပခုက္ကူ မဟာဝိသုတာရာမ စာချ ရှင်ပညာ (၁၈၇၈—၁၉၄၆) ၏ အစီအစဉ်ဖြင့် မဟာဝိသုတာရာမတိုက် ပြောင်းရွှေ့၍ ပိဋကတ်သုံးသွယ် နိကာယ်ငါးရပ် သင်ယူသည်။ မဟာဝိသုတာရာမ နာယက ရေစကြိုဆရာတော် ရှင်ဂန္ဓသာရ (၁၈၃၃—၁၉၁၄) ပျံလွန်၍ စာချ ရှင်ပညာ၊ ရှင်နန္ဒဝံသတို့ထံ နည်းခံသင်ယူသည်။ အထူးအားဖြင့် ရေစကြိုဆရာတော်၏ ကင်္ခါနိဿယကို မှတ်တမ်းတင်ခဲ့ရသည်။

၁၉၁၅ ခုနှစ်တွင် မဟာဝိသုတာရာမ ဂဏဝါစက စာချအဖြစ် ချီးမြှင့်ခံရသည်။ ရှင်ပညာ၊ ရှင်သုန္ဒရ၊ ရှင်နန္ဒဝံသတို့၏ လမ်းညွှန်မှုဖြင့် တိုက်တာအုပ်ချုပ် ပရိယတ်စာပေ ပို့ချခဲ့ရာ ၁၉၂၇ ခုနှစ်တိုင်ဖြစ်သည်။ ၁၉၂၇ ခုနှစ်တွင် ရန်ကုန်မြို့ ဟာမစ်တစ်လမ်း ခြံအမှတ် ၇၁ ခေမာသီဝံစံ ကျောင်း၌ သီတင်းသုံးနေသော ဥပဇ္ဈာယ်ဆရာတော် ပျံလွန်သည်။ ဥပဇ္ဈာယ်ဆရာတော်၏ လွှဲအပ်ချက်အရ ခေမာသီဝံစံကျောင်းတွင် တပည့်ရှင်အာစိဏ္ဏ (၁၈၉၆—၁၉၇၈) နှင့်အတူ ပရိယတ္တိစာပေ ပို့ချသည်။ စာလိုက်သံဃာ ၅၀ ခန့် ရှိသည်။ ကျောင်းဒါယကာက ခေမာသီဝံဆရာ တော် မရှိသည့်နောက် ကျောင်းကို ချောင်းဦးဓမ္မာရုံဆရာတော် ရှင်ဒီပမာလာ (၁၈၇၃—၁၉၃၄) အား လှူဒါန်းလိုက်သည်။ ထို့ကြောင့် ရှင်ကောဏ္ဍည သည် ပခုက္ကူ မဟာဝိသုတာရာမတိုက် ပြန်၍ စာချရန်စီစဉ်သည်။ ကျောင်း ဒါယကာ၏ သဘောကို ခေမာသီဝံဆရာတော်၏ ဒါယကာတစ်ဦးဖြစ်သူ သူဌေးကြီး ဆာဖိုးသာ (၁၈၅၇—၁၉၃၃) က မကျေနပ်၍ ရှင်ကောဏ္ဍည ကိုယ်စား တရားရုံးတွင် အမှုရင်ဆိုင်ခဲ့သည်။

ရှင်ကောဏ္ဍညဘက်က ဥပဇ္ဈာယ်ဆရာ၏ အမွေအဖြစ် တရား လမ်းကြောင်းမှန်ခဲ့သော်လည်း မူလ ခေမာသီဝံဆရာတော်အား ကျောင်း လှူဒါန်းစဉ်ကပင် တရားဝင် စာချုပ်စာတမ်းဖြင့် လှူဒါန်းခဲ့ခြင်းမဟုတ်၍ တရားရုံးတွင် ဥပဒေအကြောင်းအရ တရားရှုံးနိမ့်ခဲ့သည်။ ထို့ကြောင့် ရှင်ကောဏ္ဍညသည် ဗဟန်းငါးထပ်ကြီး တော်ကူးလေးပြဿဒ်ကျောင်းကို နောက်ပါ စာလိုက်သံဃာ ၅၀ ခန့်နှင့်အတူ ပြောင်းရွှေ့ခဲ့သည်။ ထိုမှတဖန်

ဆာဖိုးသာ၏ ကုသိုလ်တော် ခြောက်ထပ်ကြီးဘုရားဇရပ် ပြောင်းရွှေ့ ပရိယတ္တိစာပေပို့ချသည်။ ၁၉၃၀ပြည့်နှစ် ဧပြီလ ၃ ရက်နေ့တွင် 'မဟာ ဗုဒ္ဓါရာမ ခြောက်ထပ်ကြီး ဘုရားကြီးကျောင်းတိုက်ကို တည်ထောင်သည်။ ကျောင်းဒါယကာမှာ သူဌေးကြီး ဆာဖိုးသာ မိသားစုဖြစ်သည်။ ကျောင်း တည်စတွင် ဇရပ်ကြီးတစ်ဆောင်၊ ဆွမ်းစားကျောင်းတစ်ဆောင်မျှသာ ရှိသည်။ ပြဿဒ်သုံးဆောင်တွဲ တန်ဆောင်းကြီးကို ကာရံ၍ စာသင်သား ၁၀၀ ခန့်ကို စာပေပို့ချသည်။ စာသင်သားများမှာ တန်ဆောင်းအတွင်း သင်ဖြူးနှစ်ချပ်လျှင် သုံးပါးကျစီ ကျပ်တည်းခဲယဉ်းစွာ သီတင်းသုံး၍ ပရိယတ္တိစာပေ သင်ယူရသည်။ သံဃာ ၁၀၀ ခန့်ရှိသော်လည်း ဆွမ်းဆန် ထောက်ပံ့မည့် ဒါယကာ မရှိ၊ နံနက် ယာဂုနှင့် ဆား၊ နေ့ ခံဆွမ်းမျှသာ ဖြစ်သည်။ ထိုစဉ်က စာချဆရာတော်များမှာ ရှင်ကောဏ္ဍည၊ တိုက်အုပ် ရှင်ဂေါသလ္လ၊ စာချ ရှင်ဇိန္ဒ၊ ရှင်အာစိဏ္ဏ၊ ရှင်စန္ဒောဘာသ ဖြစ်၍ ပခုက္ကူ မဟာဝိသုတာရာမတိုက် စည်းမျဉ်းအတိုင်း စာမေးပွဲ ဦးစားမပေး၊ ဝိဋကတ်သုံးသွယ် နိကာယ်ငါးရပ် နှံ့စပ်အောင် ပို့ချသည်။

၁၉၃၇ ခုနှစ်တွင် ဆာဖိုးသာ၏သား ဦးညွန့်သာက 'သာသနာ့ ဇောတိက' အလည်ကျောင်း ဆောက်လုပ်လှူဒါန်းခဲ့ရာမှ တစ်စတစ်စ ကျောင်းသစ်များ တိုးပွားလာသည်။ ၁၉၃၈ ခုနှစ်တွင် သံဃာ ၃၀၀ ကျော် ရှိလာ၍ ရန်ကုန်မြို့တွင် အထင်ရှားဆုံး ပရိယတ္တိစာသင်တိုက်ကြီးတစ်တိုက် ဖြစ်လာသည်။ သံဃာများပြားလာသည်နှင့်အမျှ ဒါယကာများ စုပေါင်း၍ ဘုရားကြီးကျောင်းတိုက် ပစ္စည်းလေးပါး ထောက်ပံ့ရေးအဖွဲ့ ဖွဲ့သည်။ အငြိမ်းစား လွှတ်တော်စာတော်ပြန် ဦးအုန်းရွှေက အတွင်းရေးမှူး (ကပ္ပိယ ကာရက) အဖြစ် ဆောင်ရွက်သည်။ ရှင်ကောဏ္ဍညသည် ခြောက်ထပ် ကြီး ဘုရားကြီးတိုက်ဆရာတော်အဖြစ် ထင်ရှားလာသည်။ ပရိယတ္တိစာပေ ပို့ချမှု ထင်ရှားရုံမျှမက စာသင်တိုက်မြေနေရာ၊ ကျောင်းတိုက်များ များစွာ တိုးပွားလာရာ ထိုခေတ်နာမည်ကျော် ရှင်အာဒိစ္စဝံသက တပည့်များကို စာချစဉ် 'အညာသီကောဏ္ဍည' ပုဒ်ကို ကောဏ္ဍညော ကောဏ္ဍညကို အညာသိကျောင်းဆောက်ကောင်းသော လယ်သမားဆရာကြီးဟူ၍ အများကပင် သိကြပြီ' ဟု ခနဲ့လျက် အနက်ပေးကြောင်း စကားတွင် ခဲ့သည်။

လွတ်လပ်ရေးရပြီးနောက် ခြောက်ထပ်ကြီး ဘုရားကြီးတိုက်တွင် သံဃာငါးရာကျော်ရှိလာ၍ မြန်မာပြည်တစ်ဝှမ်းလုံး အထင်ရှားဆုံး ပရိယတ္တိစာသင်တိုက်ကြီးတစ်တိုက် ဖြစ်လာသည်။ ခြောက်ထပ်ကြီး ဘုရားကြီးတိုက် ဆရာတော်သည် ပခုက္ကူ မဟာဝိသုတာရာမိက ဝိနိစ္ဆယ ဌာန တာဝန်ခံ၊ တိပိဋကစရေ ရွေးချယ်ရေးအဖွဲ့ ဥက္ကဋ္ဌ၊ ဆဋ္ဌသံဂါယနာ ဝန်ဆောင်အဖွဲ့ ဒုတိယဥက္ကဋ္ဌ၊ မူလဝိသောဓကအဖွဲ့ ဥက္ကဋ္ဌ၊ ပါဠိသြဘာန ဝိသောဓက အဖွဲ့နာယက၊ နိုင်ငံတော် ပါဠိပဋ္ဌမပြန်ဌာန မဟာနာယက၊ နိုင်ငံတော် ဝိနိစ္ဆယဌာန တာဝန်ခံ၊ ဂျပန် ဓမ္မဒူတ ဝိဇ္ဇာလယသြဝါဒစရိယ၊ ရွှေတိဂုံ၊ ဆူးလေ၊ ဗိုလ်တထောင် စေတီများ ဂေါပကအဖွဲ့ သြဝါဒစရိယ၊ စေတီယင်္ဂဏ သြဝါဒစရိယ၊ ပရိယတ္တိ သာသနနုဂ္ဂဟ သြဝါဒစရိယအဖြစ် သာသနာရေးတာဝန်များ ထမ်းဆောင်ခဲ့သည်။

ဆဋ္ဌသင်္ဂါယနာတင်ရန် စီစဉ်စဉ်က ဗုဒ္ဓသာသနအဖွဲ့က သံဃာ့ နာယကအဖြစ် ဆောင်ရွက်ရန် လျှောက်ထားရာ 'ဂုဏဝုမို ဝယဝုမို ပြည့်စုံ သော ထေရ်ကြီးတစ်ပါးကို တင်မြှောက်လျှင် ပိုကောင်းမည်၊ သံဃာ့ကိစ္စ ကို သံဃာက ဆောင်ရွက်ပါလိမ့်မည်'ဟု ပညာရှိသူတော်ကောင်းပီသစွာ လမ်းညွှန်ခဲ့သည်။ ၁၉၅၂ ခုနှစ် နိုင်ငံတော်အစိုးရက 'အဂ္ဂမဟာပဏ္ဍိတ' ဘွဲ့တံဆိပ် ဆက်ကပ်စဉ်က ဘွဲ့တံဆိပ်အလိုမရှိဟု ငြင်းပယ်သည်။ မတတ် သာ၍ လက်ခံရသော် အဂ္ဂမဟာပဏ္ဍိတ ဘုရားကြီးဆရာတော်ဟု မခေါ်ဝေါ် မရေးသားရ၊ ဘုရားကြီးတိုက် ဆရာတော်ဟုသာ ရေးသားခေါ်ဝေါ်ရမည်' ဟု မိန့်ဆိုခဲ့သည်။ ပါဠိတက္ကသိုလ်များ တည်ထောင်စဉ်ကလည်း ပခုက္ကူ မဟာဝိသုတာရာမတိုက်၏ နိကာယ်ငါးရပ်ကျမ်းစုံ ပို့ချသင်ကြားမှုကို မပျက်စီးလို၍ ပါဠိတက္ကသိုလ် အမည်မခံခဲ့ချေ။

၁၉၅၃ ခုနှစ်တွင် မိုးညှင်းဆရာတော် ရှင်သုမန (၁၈၇၃—၁၉၆၄) ၏ လမ်းညွှန်မှုဖြင့် ခြောက်ထပ်ကြီးဘုရားကြီးကို ပြုပြင်ရန် ဦးဆောင် ခဲ့သည်။ ၁၉၅၆ ခုနှစ်တွင် နှလုံးရောဂါ စွဲကပ်သည်။ ၁၉၅၇ ခုနှစ် နိုဝင်ဘာလ ၂ ရက်နေ့တွင် ခြောက်ထပ်ကြီးဘုရားကြီး ပြန်လည်တည် ဆောက်ရေးအဖွဲ့ ဥက္ကဋ္ဌ ချပ်သင်းသူဌေး ဦးဘတင်၊ မြို့နီစီပါယ်မင်းကြီး ဦးကျော်စိန်၊ မြို့တော်ဝန်ဟောင်း ဦးမောင်မောင်၊ ကပ္ပိရကာယက ဦးအုန်းရွှေ

တို့နှင့်အတူ ပဲခူးမြို့ ရွှေသာလျောင်းဘုရားကြီးကို သွားရောက် ဖူးမျှော်လေ့လာပါသည်။

ပဲခူးမှအပြန် ၁၉၅၇ ခု နိုဝင်ဘာလ ၃ ရက် တနင်္ဂနွေနေ့ နံနက် ၅း၃၀ နာရီတွင် သက်တော် ၇၁ သိက္ခာတော် ၅၂ ဝါအရ ရန်ကုန်မြို့ ခြောက်ထပ်ကြီး ဘုရားကြီးတိုက်၌ တစ်ဘဝ တစ်ခန်းရှာ ချုပ်ငြိမ်းပါသည်။





## ဘုရားကြီးတိုက် ဇောတိကာရုံဆရာတော် ရှင်နာရဒ

(၁၈၈၈ — ၁၉၆၅)

ကိုလိုနီခေတ်နှင့် လွတ်လပ်ရေးခေတ်ဦး မြန်မာနိုင်ငံ ပရိယတ္တိ သာသနာဝင်တွင် မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးတိုက် သာသနာ့ ဇောတိကာရုံ အုတ်ကျောင်း စာချအကျော် ဆရာတော်အဖြစ် ထင်ရှား သည်။ ရဟန်း ငါးဝါရမှ သက်တော် ၇၀ ကျော်သည့်တိုင် ပရိယတ္တိစာပေ ပို့ချခဲ့ရာ နိုင်ငံတစ်ဝန်း ပရိယတ္တိ စာသင်သားများ၏ မှီခိုရာ ဂန္ထဓုရဆောင် ဆရာတော်ဖြစ်သည်။ ဆရာတော် စာချပုံနှင့်ပတ်သက်၍ ဆရာတော်၏ တပည့် အဘိဓာန်ကျမ်းပြု ဘာသန္တရပညာရှင် အဘယာရာမဆရာတော် ဒေါက်တာ အရှင်သီလာနန္ဒာဘိဝံသက "သာသနာ့ဇောတိကာရုံကျောင်းတိုက် စာလိုက်သံဃာ ၄၀၀ ခန့်အကြား စာချပလ္လင် ဟု ခေါ်ဆိုရသော အဥ်းပျဉ် ထက်ဝယ် ဣန္ဒြေရစွာ ထိုင်နေတော်မူလျက် ပေရွက်များကိုကြည့်ကာ ဖတ်ကာဖြင့် အချိန်မှန် စာပေပို့ချနေသည်မှာ ဖူးတွေ့ရသူတို့အဖို့ သဒ္ဓါစိတ် ယိုဖိတ်၍မလာဘဲ မနေနိုင်အောင်ရှိတော့သည်" ဟု မှတ်တမ်းတင်ခဲ့ပါ သည်။ ထို့ကြောင့် ကမ္ဘာအေး ဆဋ္ဌသင်္ဂါယနာတင်စဉ်က နိုင်ငံရပ်ခြား ရဟန်းတော်များကိုယ်တိုင် ဆရာတော်စာချပုံကို လာရောက် လေ့လာခဲ့ ကြသည်။ စာချအကျော် ဂုဏ်ပုဒ်အပြင် အလိုနည်းခြင်း၊ ရောင့်ရဲလွယ်ခြင်း၊ သည်းခံမှုရှိခြင်း၊ အကျော်အစောကို မနှစ်သက်ခြင်းတို့ဖြင့် ပြည့်စုံသည်ဟု မှတ်တမ်းတင်ခံရသည်။

နရဒ၊ ရှင်၊ ဇောတိကာရုံ အုတ်ကျောင်းဆရာတော် —

၁၈၈၈ ခုနှစ် ဌန်လ ၂၃ ရက် စနေနေ့တွင် ဖွားသည်။ မန္တလေးမြို့ ဥယျာဉ်တော်ရပ်ကွက် ဇာတိဖြစ်သည်။ အဖ မြန်မာသမားတော် ဦးအောင်သာ၊ အမိ ဒေါ်ပုံ ဖြစ်သည်။ တစ်ဦးတည်းသော သား၊ အမည် မောင်ဘိုးသန့် ဖြစ်သည်။

ငယ်ရွယ်စဉ် မိဘနှစ်ပါး အိမ်ထောင်ကွဲ၍ မိခင်နှင့်အတူ မဟာမုနိ ဘုရားအနီး ရွှေဘုန်းရှိန်ရှမ်းပွဲရပ် ပြောင်းရွှေ့နေထိုင်သည်။ ၇ နှစ်အရွယ် တွင် ဒက္ခိဏာရာမဘုရားကြီးတိုက်အပြင်ထပ် ပင်းသာကျောင်းဆရာတော် ရှင်တေဇထံ ပညာသင်သည်။ ၁၀ နှစ်အရွယ်တွင် မိခင်က ရှင်ဒါယကာ ခံ၍ သာမဏေပြုသည်။ ဥပဇ္ဈာယ်ဆရာမှာ ဒုတိယမြောက် ပင်းသာဆရာ တော် ရှင်ခန္တိဓမ္မ (၁၈၇၀—၁၉၄၇) ဖြစ်သည်။ ရှင်ခန္တိဓမ္မမှာ စာချအကျော် ဖြစ်၍ နောင်အခါ သတ္တမမြောက် ဒက္ခိဏာရာမဘုရားကြီးတိုက်၏ သံဃ မဟာနာယက တင်မြှောက်ခံရသည်။

ဖခင်က ရှင်ဒါယကာခံ၍ မန္တလေးအရှေ့ပြင် မင်္ဂလာဥယျာဉ်အရပ်၌ ဒုတိယအကြိမ် ရှင်ဖြစ်သည်။ ရှင်သာမဏေဝတ်ဖြင့် ရှင်ခန္တိဓမ္မထံတွင် ပရိယတ္တိစာပေ သင်ယူသည်။ သဒ္ဒါ၊ သင်္ဂြိုဟ်၊ ဋီကာကျော်၊ ကစ္စီနှင့် ပါဠိတော်အဋ္ဌကထာများ သင်ယူခဲ့သည်။ ဉာဏ်ပညာထက်သန်၍ အနေ အထိုင်ကျစ်လစ်ခြင်း၊ ဣန္ဒြေရှိခြင်းတို့ကြောင့် ရှင်ခန္တိဓမ္မ၏ ချီးမြှောက်မှုခံရ သည်။ ဘုရားကြီးတိုက်စာချအကျော် ရှင်ဇာဂရကြီးနှင့် ရှင်ခန္တိဓမ္မတို့ အစ်အစဉ်ဖြင့် ၁၉၀၇ ခုနှစ် ဒီဇင်ဘာလ ၁၅ ရက် တနင်္ဂနွေနေ့တွင် ဘုရားကြီးတိုက် ခဏ္ဍသိမ်၌ ရဟန်းဖြစ်သည်။ ဥပဇ္ဈာယ်ဆရာတော်မှာ ဘုရားကြီးတိုက် စတုတ္ထသံဃမဟာနာယက ရှင်အာစာရာဘိဝံသ (၁၈၄၄ — ၁၉၂၅) ဖြစ်သည်။ ရဟန်းဒါယကာမှာ ရှမ်းပွဲရပ်ပွဲစားကြီး ဦးသဲ ဒေါ်လှိုင် မိသားစုဖြစ်သည်။

ရဟန်းဖြစ်ပြီး ဓမ္မာစရိယဆရာရင်း ပင်းသာဆရာတော်ထံတွင် ဝိနည်းငါးကျမ်း ပါဠိတော်၊ အဋ္ဌကထာ၊ ဓမ္မသင်္ဂဏီ၊ အဋ္ဌသာလိနီ ပါဠိတော်၊ အဋ္ဌကထာ တို့ကို ဆိုဝါဖြင့် သင်ယူခဲ့သည်။ ထို့နောက် ညောင်ကန်တိုက် စာချအကျော် ရှင်ဣန္ဒာဝုဓ ထံ မူလဋီကာနှင့်တွဲလျက် သမ္မောဟဝိနောဒနီ

ကို ဆိုဝါဖြင့် သင်ယူသည်။ ရဟန်း ၅ ဝါရသည့်တိုင် စတုတ္ထဘုရားကြီး ဆရာတော် ရှင်အာစာရ၊ ဆရာတော် ဦးရန်ကုန် ခေါ် ရှင်သုဇာတာဘိဝံသ (၁၈၄၇—၁၉၀၆)၊ ရှင်ဇာဂရကြီး (၁၈၆၇—၁၉၄၇)၊ မိုးတားသာသနာပိုင် ဆရာတော် ရှင်သုဇာတ (၁၈၃၀—၁၉၀၂)၊ ရွှေရေးဆောင်ဆရာတော် ဦးကြည် ခေါ် ရှင်အာဒိစ္စရံသီ (၁၈၅၇—၁၉၃၅) တို့ထံ သင်ရိုးပိဋကတ်သုံးပုံကို အဋ္ဌကထာ၊ ဋီကာနှင့်တွဲ၍ ကုန်စင်အောင် သင်ယူခဲ့သည်။ ကဗျာလင်္ကာ အရေးအသားကို ကဗျာနန်ဟု ထင်ရှားသော ဘုရားကြီးတိုက် စာချ ရှင်နန္ဒိယ (၁၈၆၅—၁၉၃၆) ထံ သင်ကြားခဲ့သည်။

ရဟန်း ၄ ဝါရမှစတင်၍ ဓမ္မာစရိယဆရာရင်း၏ ခွင့်ပြုချက်ဖြင့် စတင် စာပေပို့ချသည်။ ရဟန်း ၅ ဝါရတွင် စာချလုပ်ငန်းတစ်ခုတည်းကို ပင်တိုင်ထား၍ ဆောင်ရွက်ခဲ့ရာ ၁၀ ဝါရမှစ၍ နာမည်ထင်ရှားလာသည်။ ပင်းသာကျောင်းတွင် ကျောင်းနှင့် စာလိုက်သံဃာ မမျှဖြစ်ကာ အချို့စာလိုက်သံဃာများ ကျောင်းအောက်မြေပြင်မှပင် စာလိုက်ရသည်။ ၁၉၂၀ ခုနှစ်တွင် ပင်းသာကျောင်းအနီး၌ သာသနဇောတိကာရုံအုတ်ကျောင်းကို အလှူခံ၍ ပြောင်းရွှေ့စာချသည်။ ၁၉၂၂ ခုနှစ်တွင် မန္တလေးမြို့ သကျသီဟအသင်း ခေါ် ပရိယတ္တိသာသနဟိတအသင်း (၁၈၉၈) ၏ ဓမ္မာစရိယ မူလစာချဘွဲ့တံဆိပ် ဆက်ကပ်ခြင်းခံရသည်။ စာချရာတွင် စာမေးပွဲကို ဦးစားမပေး၊ အစဉ်အလာအတိုင်း စာပေတတ်မြောက်မှုကို အလေးထားသည်။ ဝိနည်း သုတ္တန် အဘိဓမ္မာ ပိဋကတ် သုံးသွယ်ကို တစ်ခုပြီးတစ်ခု ကုန်စင်အောင် ပို့ချသည်။ ပိဋကတ်သုံးပုံ တစ်ခေါက် ကုန်လျှင် ဝိနည်းမှစ၍ အစဉ်လိုက် ပြန်လည်ပို့ချသည်။ စာချဟန်မှာ ဒက္ခိဏာရာမ ဘုရားကြီးတိုက် ပထမဆရာတော် ရှင်ဇာဂရ (၁၈၁၀—၁၈၇၄) မှ ဘုရားကြီးတိုက် စာချဆရာတော်များ အစဉ်အဆက် အသုံးပြုသော သာသနာပိုင် သဲအင်းဆရာတော် ရှင်သူရိယ (၁၇၆၃—၁၈၃၉) ၏ စာပြောနည်းဖြစ်သည်။ စာချရာတွင် အဓိက လက်စွဲပြုသော ကျမ်းများမှာ ပထမဘုရားကြီးဆရာတော် ရှင်ဇာဂရ၏ "ပါစိတျာဒိယောဇနာ"၊ ဘုရားကြီးတိုက်စာချ ရှင်သုတဗုဒ္ဓိ၏ 'ပါရာဇိကဏ်ဂဏ္ဌိသစ်' မောင်းထောင် ဆရာတော် ရှင်ဝေသဝဏ္ဏ၏ 'သမ္မန္တစိန္တ ဂဏ္ဌိသစ်၊ ဆရာတော် ဦးရန်ကုန်၏ ဘုရားကြီးနိယံ တို့ဖြစ်သည်။

စာချရာတွင် အချိန်မှန်၍ ပရိတ်ရွတ်၊ ဆွမ်းစဉ်မလိုက်၊ စေတနာ သဒ္ဓါတရား အားကောင်းစွာ ထူးထူးချွန်ချွန် ပို့ချလေ့ရှိရာ သာသန ဇောတိကာရုံ တိုက်နှင့်မဆန့်၊ အချို့စာသင်သားများ လှေကားမှပင် စာလိုက် ရသည်။ ဆဋ္ဌသင်္ဂါယနာတင်စဉ် နိုင်ငံခြား ထိုင်း၊ သီရိလင်္ကာ ရဟန်းတော် များကိုယ်တိုင် ရှင်နာရဒ စာပေပို့ချနေပုံကို လာရောက်လေ့လာကြသည်။ စာချရာ၌ စာအုပ်အစား ပေထုပ်ကို အသုံးပြုလေ့ရှိသည်။ စာပေပို့ချရုံမျှ မက ပါဠိ၊ အဋ္ဌကထာ ကျမ်းစာများ ပုဒ်၊ ပါဌ်၊ အက္ခရာ မှန်ကန်သန့်ရှင်း ရေးကိုလည်း ဆောင်ရွက်၍ ကျမ်းဂန်လည်း ပြုစုသည်။ ဒုတိယကမ္ဘာစစ် အတွင်း ဗုံးသံ၊ စက်သေနတ်သံများကြားမှာပင် 'ဝိဂ္ဂဟနယကျမ်း'ကို စီရင် ခဲ့သည်။ ပြုစုခဲ့သောကျမ်းများမှာ ဓာတုက္ကမပါဌ်နိဿယ (၁၉၄၁)၊ ဝိဂ္ဂဟနယ (၁၉၄၃)၊ အလင်္ကာအရကောက် (၁၉၅၀ ပုံနှိပ်)၊ နေတ္တိအရကောက်၊ တက်နည်းတွက်နည်း နိဿရည်းကျမ်း (၁၉၅၆ ပုံနှိပ်)။ နာမဂ္ဂဏာဒီပနီကျမ်း (၁၉၅၈ ပုံနှိပ်)၊ ဝိနယာဓိကရဏဝိနိစ္ဆယ၊ ကထိနဝိနိစ္ဆယတို့ ဖြစ်သည်။

၁၉၅၀ ပြည့်နှစ်မှ ၁၉၆၄ ခုနှစ်ထိ မြန်မာနိုင်ငံအထက်ပိုင်း ဝိနည်း မှိုရ်အဖြစ် ဆောင်ရွက်သည်။ ဆဋ္ဌသင်္ဂါယနာတင်ရာတွင် ဆဋ္ဌသင်္ဂီတိကာ ရက၊ မူလဝိသောဓက၊ ပဋိဝိသောဓက၊ ဩသာနသောဓက အဖြစ် ပါဝင် ခဲ့သည်။ ဘုရားကြီးတိုက်မှ တာဝန်ကျသော 'ပါဋ္ဌဇာတ်ပါဠိတော်'ကို ဦးဆောင်ပြင်ဆင် သုတ်သင်ခဲ့သည်။ ၁၉၅၁ ခုနှစ်တွင် ပခုက္ကူဆရာတော် ရှင်နန္ဒဝံသ (၁၈၈၂—၁၉၅၇)၊ ညောင်လေးပင်တောရတိုက်ဆရာတော် ရှင်အရိယ (၁၈၈၆—၁၉၅၃) မဟာစည်ဆရာတော် ရှင်သောဘန (၁၉၀၄— ၁၉၈၂) တို့နှင့်အတူ အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။ ၁၉၅၂ ခုနှစ်တွင် အိန္ဒိယနိုင်ငံ မဇ္ဈိမဒေသ ဘုရားဖူးသွားရောက်သည်။ အိန္ဒိယမှ သီဟိုဠ် (သီရိလင်္ကာ) ဘုရားဖူးခရီးစဉ်ကို စာချလက်စ စာဝါ ကြာရှည်ပျက်မှာစိုးသောကြောင့် မလိုက်တော့ချေ။ ၁၉၅၀ ပြည့်နှစ် ပါဠိ တက္ကသိုလ်နှင့် ဓမ္မာစရိယ အက်ဥပဒေအရ ဒက္ခိဏာရာမ ပါဠိတက္ကသိုလ် တွင် စာချ ကထိကရာထူး ပေါ်ပေါက်လာရာ ငြင်းပယ်ခဲ့သည်။ ပါဠိတက္ကသိုလ် ကထိကဖြစ်လာလျှင် စာပေကျမ်းဂန်များကို ပြဋ္ဌာန်းချက်အတိုင်း ပို့ချရ၍ မိမိစေတနာရှိသလောက် ပို့ချနိုင်တော့မည် မဟုတ်ဟု အကြောင်းပြသည်။

၁၉၅၀ ပြည့်နှစ်တွင် ရဟန်းအစ်မ ကျောင်းအစ်မများက တိုက်

နှစ်လုံးနှင့် ဂိုဒေါင်မြေများကို ဆရာတော်အား ပုဂ္ဂလိကအလှူအဖြစ် လှူဒါန်းသည်ကို ဒက္ခိဏာရာမ ဘုရားကြီးတိုက် သံဃိကပိုင်အဖြစ် အာလယပြတ် ပြန်လည်လှူဒါန်းခဲ့သည်။ ထင်ရှားကျော်ကြားသော စာချပုဂ္ဂိုလ်ဖြစ်သော်လည်း အလိုနည်းခြင်း၊ ရောင့်ရဲလွယ်ခြင်း၊ သည်းခံမှုရှိခြင်း၊ အကျော်အစောကို မနှစ်သက်ခြင်း၊ ကိစ္စနည်းခြင်းတို့တွင် စံပြအဖြစ် သတ်မှတ်ခံရသည်။

ပရိယတ္တိစာချအပြင် မဟာမုနိဘုရားကြီး ဩဝါဒါစရိယ (၁၉၄၄—၁၉၄၆)၊ ပရိယတ္တိသာသနဟိတအသင်း ဩဝါဒါစရိယ (၁၉၄၈—၁၉၆၅)၊ ဒက္ခိဏာရာမဘုရားကြီးတိုက် အုပ်ချုပ်ရေး သမ္မုတိအဖွဲ့ဝင် တာဝန်များကို ထမ်းဆောင်ခဲ့သည်။ အထူးသဖြင့် သိမ်သမုတ် ကံဆောင်ခြင်းကိုမူ ကျန်းမာနေပါက မငြင်းမပယ် ဆောင်ရွက်လေ့ရှိသည်။ ၁၉၆၁ မှစတင်၍ ဆီးချိုရောဂါ၊ တီဘီခေါ် ချောင်းဆိုးသွေးပါရောဂါများ စွဲကပ်လာ၍ စာချလုပ်ငန်း ရပ်နားခဲ့ရသည်။

သက်တော် ၇၈ သိက္ခာတော် ၅၈ ဝါအရ ၁၉၆၅ ခု အောက်တိုဘာလ ၁၈ ရက် တနင်္လာနေ့ နေ့လည် ၂း၁၅ နာရီတွင် မန္တလေးမြို့ ဘုရားကြီးတိုက် သာသနဇောတိကာရုံ အုတ်ကျောင်း၌ ဘဝနတ်ထံ ပျံလွန်တော်မူပါသည်။





## မြောင်းမြဆရာတော်
## ရှင်ဉာနာဘိဝံသ
(၁၈၈၉ — ၁၉၇၅)

မြန်မာနိုင်ငံ ပရိယတ္တိ သာသနာဝင်တွင် ဒသမမြောက် ရွှေကျင် သာသနာပိုင် မြောင်းမြဆရာတော် အမည်ဖြင့် ထင်ရှားသည်။ အိန္ဒြေ ကြီးမား ဝိနည်းလေးစားသည့်အရာတွင် စံပြုခံရသည်။ ရွှေကျင်စိတ် ရွှေကျင်သွေး ထက်သန်၍ ပရိယတ္တိ ပဋိပတ္တိ ဘာသန္တရ စွယ်စုံပြည့်ဝသည်။ ပရိယတ္တိစာပေကို ငကင်းကုန်းကျောင်းဆရာတော်၊ မဟာဝိသုဒ္ဓါရုံဆရာ တော်၊ အဘယာရာမဆရာတော်တို့ထံ သင်ယူ၍ ဘာသန္တရ ဒေသန္တရကို သိရှိလက်ာ၌ လေ့လာခဲ့သည်။ ပရိယတ္တိ စာပေသင်ကြားရေးတွင် ခေတ်မီ ရုံမျှမက စာမေးပွဲထက် စာတတ်မြောက်ရေး ဦးစားပေးသည်။ အထူးအား ဖြင့် ဘာသာဋီကာကျမ်းပြု အမရပူရ မဟာဂန္ဓာရုံဆရာတော် ရှင်ဇနကာ ဘိဝံသကို ကျောင်းသားအရွယ်မှ ပိဋကတ်စာပေ သင်ယူပြီးဆုံးသည့်တိုင် လမ်းညွှန်ပြုစုပျိုးထောင်ပေးခဲ့ခြင်း။ အင်္ဂလန်သာသနာပြု မြောင်းမြ ပဏ္ဍောတာရုံဆရာတော် ရှင်ဉာနိက၊ ပဲခူးသာသနာ့မဏ္ဍိုင်ဆရာတော် ရှင်ပညာဇောတ၊ မော်ဘီ သာသနာ့ဝန်ဆောင် ပန်းကုံးဆရာတော် ရှင်ကုမာရ စသော ထူးချွန်ထက်မြက်သည့် တပည့်များ မွေးထုတ်ပေးခဲ့ခြင်း တို့ကြောင့် ပရိယတ္တိသာသနာတွင် စံပြဥယျာဉ်မှူးတစ်ပါးအဖြစ် ထင်ရှား သည်။ ဆရာကောင်းတပည့် တပည့်ကောင်းတို့၏ ဆရာဟု ကမ္ပည်းတင် ခံရသည်။

ဉာဏာဘိဝံသ၊ ရှင်၊ မြောင်းမြဆရာတော် —

၁၈၈၉ ခုနှစ် ဇန်နဝါရီလ ၈ ရက် အင်္ဂါနေ့တွင် စစ်ကိုင်းခရိုင် မြင်းမူမြို့နယ် ဝမ်းပြည့်ရွာ၌ ဖွားသည်။ မိဘများမှာ တောင်သူမျိုးရိုး ဦးချိမ့် ဒေါ်ငွေယု ဖြစ်သည်။ မွေးချင်း ၁၂ ယောက်တွင် အထွေးဆုံး။ အမည် မောင်ဘိုးစံ။ လေးနှစ်အရွယ်တွင် ဖခင်ဆုံးသည်။

၅ နှစ်တွင် ဝမ်းပြည့်ရွာ သိမ်တော်ဘုန်းကြီး ရှင်ဇာဂရထံ ပညာ သင်သည်။ ဇာတ်ကြီးဆယ်ဘွဲ့ တေမိဇာတ် ကုန်သည်။ ၉ နှစ်တွင် ဝမ်းပြည့်ရွာ ရှင်ပင်ရပ်သစ်ကျောင်း ရှင်မာလာထံ ပြောင်းရွှေ့ပညာသင် သည်။ ၁၁ နှစ်တွင် မိခင် ရှင်ဒါယကာခံ၍ ရှင်မာလာကို ဥပဇ္ဈာယ်ပြု သာမဏေဖြစ်သည်။ သာမဏေဘွဲ့ ရှင်ဉာနဝံသ။ ဥပဇ္ဈာယ်ဆရာထံ နန်းကျောင်းသဒ္ဒါကြီး နိဿယ၊ ဗားကရာ သဂြိုဟ် အရကောက် သင်ယူ သည်။

သာမဏေ ၃ ဝါရတွင် မြင်းမူမြို့ လယ်ပြင်ကျောင်း ရှင်စန္ဒနှင့် ၄ ဝါရတွင် အလှကပ္ပရွာ အရှေ့ကျောင်းသစ် ရှင်ပညာတို့ထံ ပြောင်း၍ သဒ္ဒါ သဂြိုဟ် ဋီကာကျော် ဆက်လက်သင်ယူသည်။ ရှင်ပညာမှာ မန္တလေး တောင်ခွင်တိုက် စာချဖြစ်၍ အဘိဓမ္မာ ညဝါ နိုင်နင်းသည်။ ၈ ဝါရတွင် ရဟန်းခံရန် ရဟန်းဒါယကာ ရွေးမျှယ်ရာ ဆရာ၏ဆန္ဒကို မလိုက်လျောဘဲ ကေင်း ကုန်းကျောင်းစာသင်တိုက် ပြောင်းရွှေ့ခဲ့သည်။ ကေင်းကုန်း ကျောင်းမှာ ရွှေကျင်ဂိုဏ်းဝင်၊ ကေင်းဆရာတော် ရှင်ဒီပသည် ရွှေကျင် တိုက်မထွက်ဖြစ်၍ ဝိနည်းနိုင်၊ ဝိနည်းအလေးထားရာ ရှင်ဉာဏဝံသ အနေအထိုင် ပြောင်းလဲခဲ့သည်။ သဒ္ဒါတရား ထက်သန်လာ၍ ဝိနည်း ဂရုပြုလာသည်။ ကေင်းစာသင်တိုက်တွင် သံဃာ ၄၀ ခန့်ရှိသည်။ ကေင်း ဆရာတော်၊ တိုက်အုပ်ရှင်ဉာနိန္ဒ စာချ ရှင်ဥေယျတို့ထံ သဒ္ဒါကြီးကို ကစ္စာယနဝဏ္ဏနာ၊ နိဒ္ဒေသ, ဉာသတို့နှင့်တွဲ၍ သဂြိုဟ်ကို ဋီကာကျော် မဏိမဥ္ဇူတို့နှင့် တွဲဖက်သင်ယူသည်။ ဆန်း အဘိဓာန် ဝစ္စဝါစက ဝိဘတျတ္ထ နှင့် မာတိကာ၊ ဓါတုကထာ၊ ထပ်မံသင်ယူသည်။ ဝိသုဒ္ဓါရုံ သုတ်နက်ကို အာဂုံဆောင်ခဲ့သည်။

၁၉၀၈ ခုနှစ် ဖေဖော်ဝါရီလ ၁၄ ရက် သောကြာနေ့တွင် အလှကပ္ပရွာ

ရွှေစတီကျောင်းသိမ်၌ ရဟန်းဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ဉာနဝံသ။ ဥပဇ္ဈာယ်ဆရာ အလ္လကပ္ပရွာ အုတ်လှေကားဘုန်းကြီး (ဘုန်းကြီးဦးအို)၊ ရဟန်းဒါယကာမှာ ကိုရင်ဘဝ ကထိထားခဲ့သောအလ္လကပ္ပရွာမှ ဒေါ်မယ် ဖြစ်သည်။ ရဟန်းဖြစ်ပြီး ဟံသာဝတီခရိုင် သုံးခွမြို့နယ် ဥက္ကံဘုရားကြီး ဆရာတော်ထံ ပြောင်းရွှေ့ ပညာသင်ယူသည်။ ဘုရားကြီးဆရာတော် ရှင်ပဏ္ဍိစ္စမှာ ကေင်းဆရာတော်၏ ဝမ်းကွဲညီ ဖြစ်သည်။ ဥက္ကံဆရာတော် ထံတွင် ဘေဒစိန္တာ၊ ကစ္စာယနသာရ၊ ဆန်း၊ အဘိဓာန်၊ အောက်ယမိုက် ကျမ်းများ သင်ယူသည်။ ရဟန်း ဝါမရမီပင် အစိုးရ ပထမငယ်အောင်သည်။ ဘုရားကြီးတိုက်တွင် ကိုယ်တိုင်လည်း စာပေပို့ချသည်။ ဝါကျွတ်လျှင် မန္တလေး မဟာဝိသုဒ္ဓါရုံတိုက်သစ် စည်ရှင်ကျောင်း ပြောင်း၍ သကျသီဟ စာသင်တန်း ဖြေဆိုသည်။ ထိုနှစ်မှာပင် သကျသီဟ စာသင်တန်းနှင့် အစိုးရပထမလတ်တန်း အောင်မြင်သည်။ ဒုတိယဝါကို ငေကင်ကုန်း ကျောင်း၌ ဝါဆိုသည်။

၁၉၁၀ ပြည့်နှစ်တွင် ငယ်ဆရာရင်း ဝမ်းပြည့်ရွာ ရှင်ပင်ရပ်သစ် ကျောင်းဘုန်းကြီး ရှင်မာလာ ပျံလွန်ရာ ဆရာ့အလောင်းကို ကိုယ်တိုင် ထမ်း၍ သင်္ဂြိုဟ်သည်။ တတိယဝါကို ဥက္ကံ ဘုရားကြီးတိုက်၌ ဆိုသည်။ ၁၉၁၁ ခုနှစ်တွင် သကျသီဟ စာချတန်းဖြေရန် မန္တလေး မဟာဝိသုဒ္ဓါရုံ တိုက်သစ် ပြန်လည်သီတင်းသုံးသည်။ ၄ ဝါတွင် အဋ္ဌသာလိနီ အဋ္ဌကထာ၊ ၅ ဝါတွင် ပါရာဇိကဏ် အဋ္ဌကထာ၊ ၆ ဝါတွင် သီလက္ခန် အဋ္ဌကထာ အောင်မြင်၍ သကျသီဟ ဓမ္မာစရိယဘွဲ့ ဆက်ကပ်ခံရသည်။

၇ ဝါတွင် မဟာဝိသုဒ္ဓါရာမတိုက်၌ ဆက်လက်သီတင်းသုံး၍ မဟာ ဝိသုဒ္ဓါရာမဆရာတော် ရှင်ဝိသုဒ္ဓါစာရ (၁၈၃၈—၁၉၁၆) ထံ ဝိနည်း အဋ္ဌကထာ၊ အဘိဓမ္မာ အဋ္ဌကထာတို့ကို ဆိုဝါလိုက်ဝါ၊ ဆီးပင်ဆရာတော် ရှင်နာရဒါဘိဝံသသထံ ပါရာဇိကဏ် အဋ္ဌကထာ၊ သိက္ခာမဥ္ဇရီ၊ မုဒ္ဓဗောဓ တို့ သင်ယူသည်။ မဟာဝိသုဒ္ဓါရာမဆရာတော်၏ ကျမ်းဂန်အဆုံးအဖြတ်၊ တိုက်တာအုပ်ချုပ်ပုံ၊ တပည့်မွေးမြူပုံတို့ကိုလည်း နည်းခံမှတ်သားသည်။ ထို့နောက် ရွှေဘိုမြို့ မိတ္ထီလာတိုက်၌ ပဋ္ဌာန်းဆိုသည်။ ပဋ္ဌာန်းဆိုပြီး စစ်ကိုင်း ရက္ခမူချောင်၌ သီတင်းသုံးနေစဉ် ပထမမဟာဂန္ဓာရုံဆရာတော် ရှင်ဥတ္တရ (၁၈၅၈—၁၉၁၉) နှင့် ချမ်းအေးဆရာတော် ရှင်သဒ္ဓမ္မ တို့၏

အမိန့်ဖြင့် ပုလိပ်မြို့ ရွှေကျင်ကျောင်းကို လက်ခံပြီး ပရိယတ္တိစာပေ ပို့ချသည်။ ပုလိပ်ကို သံဃာ ၁၅ ပါးနှင့် ကျောင်းသား မောင်ဒွေးလွင် (မဟာဂန္ဓာရုံဆရာတော် ရှင်ဇနကာဘိဝံသ) တို့ လိုက်ပါခဲ့သည်။ ၁၀ ဝါရတွင် ကျန်းမာရေးနှင့် မညီညွတ်၍ စာသင်တိုက်ကို စွန့်ခဲ့သည်။

၁၁ ဝါတွင် မအူပင်မြို့နယ် စစ်ချောင်းရွာ ဂန္ဓာရုံကျောင်း၌ ဝါကပ်၍ စာပေပို့ချသည်။ ဝါကျွတ်လျှင် တပည့် ရှင်ဇနက (မဟာဂန္ဓာရုံဆရာတော် ရှင်ဇနကာဘိဝံသ) ရဟန်းခံအတွက် စစ်ကိုင်းပြန်သည်။ ရဟန်းခံပွဲပြီး ပထမ မဟာဂန္ဓာရုံဆရာတော် ရှင်ဥတ္တရ အမိန့်အရ ရှင်ဇနကကို စောင့်ရှောက်ရန် ပခုက္ကူ မဟာဝိသုတာရာမတိုက် လိုက်ပါခဲ့သည်။ ဝါတွင်းမှာပင် ကျန်းမာရေးချို့ယွင်း၍ အလ္လကပ္ပရွာ တောကျောင်းပြောင်းရွှေ့ အနားယူသည်။ ၁၃ ဝါတွင် ဥက္ကံဆရာတော်၏ အမိန့်အရ ငကင်းကုန်းကျောင်း ပြောင်းရွှေ့စာချသည်။ ထိုမှ စစ်ကိုင်း အရှေ့မှန်ကျောင်း၊ မန္တလေး မဟာဝိသုဒ္ဓါရုံတိုက်သစ်၊ တောင်မြို့ ဆရာကြီးဦးအုန်းထံ ပြောင်း၍ ယမိုက် ပဋ္ဌာန်း နည်းခံသည်။ ထို့နောက် သူဌေး ဦးပန်းအုံ၏ ပင့်ဖိတ်မှုဖြင့် သထုံခရိုင် အပေါင်အနီး ကျွဲခြံရွာ၌ မဟာဂန္ဓာရုံစာသင်တိုက်တည်၍ ၂ ဝါ ပရိယတ္တိစာပေ ပို့ချသည်။ ၁၇ ဝါတွင် သီရိလင်္ကာနိုင်ငံသို့ ဘုရားဖူးကြွပြီး ၂ နှစ် ၆ လကြာ သီဟိုဠ်ဘာသာ၊ အင်္ဂလိပ်ဘာသာများ လေ့လာ၍ ဘာသန္တရ၊ ဒေသန္တရ ဗဟုသုတ ဆည်းပူးသည်။

၁၉ ဝါရတွင် မြောင်းမြမြို့ ကျောင်းဒါယကာ ဦးစု၏ လျှောက်ထားချက်အရ သီရိလင်္ကာမှ ပြန်လာပြီး မြောင်းမြမြို့တွင် ပဋ္ဌောတာရုံ စာသင်တိုက်တည်သည်။ ပဋ္ဌောတာရုံစာသင်တိုက်ကို ၁၉၂၈ ခုနှစ်တွင် တပည့်သံဃာ ၁၂ ပါးနှင့် စတင်အခြေချသည်။ စာချ ရှင်နန္ဒမာလာ၊ ရှင်ကုသလတို့၏ အကူအညီ၊ ဒါယကာ ဦးစု၏ ပံ့ပိုးမှုဖြင့် ဝိနည်းအလေး ထားသော စာသင်တိုက်အဖြစ် တည်ထောင်သည်။ စာမေးပွဲကို ဦးစား မပေးဘဲ စာတတ်မြောက်မှု၊ ဘာသန္တရကြွယ်ဝမှု၊ အနေအထိုင် အပြော အဆို စည်းစနစ်ကျမှုကို ဦးစားပေးသည့် စာသင်တိုက်အဖြစ် ဦးတည်သည်။ ၇ နှစ်အကြာ ၁၉၃၅ ခုနှစ်တွင် စာသင်သံဃာ ၅၇ ပါး၊ ၁၉၄၁ ခုနှစ်တွင် သံဃာ ၇၅ ပါး တိုးပွားလာသည်။ ဂျပန်ခေတ် ၁၉၄၂-၄၅ တွင် ပဋ္ဌောတာရုံ

စာသင်တိုက်မှာပင် သီတင်းသုံးသည်။ ကျန်ရစ်သမျှ သံဃာအနည်းငယ်ကို စာပေပို့ချသည်။

စစ်ပြီး ၁၉၄၅ ခုနှစ်တွင် ညောင်တုန်းမြို့ ညောင်ဦးဆရာတော် ရှင်နန္ဒဝံသ ထံမှ ပညာသင်ပြီး ပြန်ရောက်လာသော တပည့်ကြီး ရှင်ဉာဏိက (အင်္ဂလန်သာသနာပြု မြောင်းမြပဋ္ဌာတာရုံဆရာတော်) ကို တိုက်တာ အုပ်ချုပ်ရေးနှင့် စာပေပို့ချရေးတာဝန်များ လွှဲအပ်သည်။ စစ်ပြီစ သံဃာ ၁၄ ပါးနှင့် စတင်ရသည်။ ၁၉၄၆ တွင် သံဃာ ၇၀ မှ ၁၉၅၀ ပြည့်နှစ်၌ သံဃာ ၈၀ ခန့် တိုးပွားလာသည်။ ၁၉၄၅ ခုနှစ် ဒီဇင်ဘာလ ၂၁ ရက်နေ့ တွင် သာသနာရေးအတွက် ဒါယကာ ဦးထိန်ဝင်းကို အမရပူရ မဟာဂန္ဓာရုံ ဆရာတော် ရှင်ဇနကာဘိဝံသနှင့် တွေ့ဆုံပေးရန် အမရပူရကို ကြွရောက်သည်။

၁၉၄၇ ခုနှစ်တွင် တောင်ကြီးမြို့ အောင်မြေသာစည်ကျောင်းတိုက်၌ ကျင်းပသော သတ္တမအကြိမ် ရွှေကျင်နိကာယ ဂိုဏ်းလုံးကျွတ် အစည်း အဝေးက မြောင်းမြဆရာတော်အား ရွှေကျင်နိကာယ ဗဟိုဌာန မန္တလေး မဟာဝိသုဒ္ဓါရုံတိုက်ကို ပြန်လည်ပင့်ဆောင်ရန် ဆုံးဖြတ်သည်။ ၁၉၅၀ ပြည့်နှစ်တွင် ရွှေကျင်သာသနာပိုင် စံကင်းဆရာတော်၏ အမိန့်အရ မန္တလေး မဟာဝိသုဒ္ဓါရုံတိုက်ကို အုပ်ချုပ်ရန် ပြောင်းရွှေ့ သီတင်းသုံးသည်။ ၁၉၅၂ ခုနှစ်တွင် စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံကျောင်းတိုက်၌ ကျင်းပ သော အဋ္ဌမအကြိမ် ရွှေကျင်နိကာယအစည်းအဝေးတွင် ရွှေကျင်နိကာယ ဥပဥက္ကဋ္ဌ၊ ဂိုဏ်းလုံးဝန်ဆောင်အဖြစ် တာဝန်ပေးအပ်ခံရသည်။ ထိုနှစ်မှာပင် နိုင်ငံတော်အစိုးရ၏ အဂ္ဂမဟာပဏ္ဍိတဘွဲ့ ဆက်ကပ်ခံရသည်။

၁၉၅၄ ခုနှစ် ဆဋ္ဌသင်္ဂါယနာတင်ပွဲတွင် ရွှေကျင်နိကာယ ဒုတိယ သာသနာပိုင်အဖြစ် ရွှေကျင်ဂိုဏ်းကို ဦးဆောင်ပါဝင်သည်။ သင်္ဂါယနာ ဖွင့်ပွဲတွင် ဂိုဏ်းပေါင်းစုံ အတူတကွ သံဃာ့ဥပုဒ်ပြုရေးကို ဒွါရဂိုဏ်းနှင့် အတူ ရွှေကျင်ဂိုဏ်းကို ဦးဆောင်ကန့်ကွက်သည်။ ၁၉၅၇ ခုနှစ်တွင် ရန်ကုန် မဟာဗောဓိစာသင်တိုက်၊ ၁၉၇၁ ခုနှစ်တွင် မြောင်းမြ ပဋ္ဌာတာရုံ စာသင်တိုက်သစ် တည်ထောင်ရေး ဦးဆောင်လမ်းညွှန်ခဲ့သည်။ ၁၉၇၂ ခုနှစ်တွင် ဒသမမြောက် ရွှေကျင်သာသနာပိုင်အဖြစ် တင်မြှောက်ခံရသည်။

ရွှေကျင်သာသနာပိုင်အဖြစ် ရွှေကျင်ဂိုဏ်း ဝိနည်းစာပြန်ပွဲများကို အသက် အရွယ်နှင့် ကျန်းမာရေးကို မငဲ့ကွက်ဘဲ နိုင်ငံအနှံ့ ကြွရောက်ခဲ့သည်။

သက်တော် ၈၇ သိက္ခာ ၆၇ ဝါအရ ၁၉၇၅ ခုနှစ် ဇူလိုင်လ ၂၄ ရက် နံနက် ၇း၀၀ နာရီတွင် ရန်ကုန်မြို့ ကျောက်ကုန်း မဟာဗောဓိ ကျောင်းတိုက်၌ ခန္ဓာဝန်ချခဲ့သည်။





# ဘုရားကြီးတိုက် ရွှေဘုန်းရှိန်ဆရာတော် ရှင်ဥက္ကံသာဘိဝံသ

(၁၈၈၉ — ၁၉၇၅)

မန္တလေးတောင်ပြင် ဒက္ခိဏာရာမဘုရားကြီးတိုက်၏ ဒသမမြောက် သံဃာ့နာယက ရွှေဘုန်းရှိန်ဆရာတော် ဦးကြွယ်အမည်ဖြင့် ထင်ရှားသည်။ ပရိယတ္တိစာပေပို့ချမှု၌ ဇွဲလုံ့လကြီးမား၍ မန္တလေး ပရိယတ္တိသာသနဟိတ သကျသီဟအသင်း နှစ်ငါးဆယ် ရွှေရတုသဘင် (၁၉၄၈) တွင် ဓမ္မာစရိယ မူလစာချဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။ ဤရွှေရတုသဘင်တွင် နိုင်ငံတွင်း ပရိယတ္တိစာပေ ကျွမ်းကျင်လိမ္မာ၍ ထင်ရှားသော ပရိယတ္တိစာသင်တိုက် ကြီးများ၏ အဓိပတိ အင်္ဂပူဆရာတော်၊ ပခုက္ကူ အရှေ့တိုက်ဆရာတော်၊ ပခုက္ကူ အလယ်တိုက် ညောင်ဦးဆရာတော်၊ မော်လမြိုင် တောင်ပေါက် ဆရာတော်၊ ညောင်လေးပင် တောရဆရာတော်တို့နှင့်အတူ ဘွဲ့တံဆိပ် ဆက်ကပ်ခံရခြင်းဖြစ်သည်။ ၁၉၅၄ ခု ဆဋ္ဌသံဂါယနာတင်ပွဲတွင် ဆဋ္ဌ သင်္ဂါယနာဝန်ဆောင် သံဃာ့အဖွဲ့ဝင်အဖြစ် ပါဝင်ခဲ့သည်။ ထို့ပြင် နိုင်ငံတော် ဝိနည်းဓိုရ်၊ ပြည်ထောင်စုမြန်မာနိုင်ငံ ကျောင်းထိုင်ဆရာတော် များအဖွဲ့ ဥက္ကဋ္ဌ၊ ပါဠိတက္ကသိုလ်ဗဟိုအဖွဲ့ ဒုတိယဥက္ကဋ္ဌ၊ ပါဠိပညာရေး အဖွဲ့ နာယက၊ မန္တလေး ပရိယတ္တိသာသနဟိတအသင်း သြဝါဒါစရိယ၊ မဟာမုနိရုပ်ရှင်တော်မြတ် ဘဏ္ဍာဂါရိက သြဝါဒါစရိယဝန်ဆောင်အဖွဲ့ဝင် အဖြစ် ထမ်းရွက်ခဲ့ပါသည်။ မန္တလေးမြို့ ဒက္ခိဏာရာမဘုရားကြီးတိုက် ဟံသာဝတီဆရာတော်၊ သာသနာ့ဇောတိကာရုံ အုတ်ကျောင်းဆရာတော် တို့နှင့်အတူ ဘုရားကြီးဂိုဏ်း ရှေ့ဆောင်ဆရာတော်အဖြစ် ထင်ရှားသည်။

ဥက္ကံသာဘိဝံသ၊ ရှင်၊ ရွှေဘုန်းရှိန်ဆရာတော် —

၁၈၈၉ ခုနှစ် စက်တင်ဘာလ ၁၅ ရက် တနင်္ဂနွေနေ့တွင် မိတ္ထီလာခရိုင် မိတ္ထီလာမြို့နယ် ကွက်ငယ်ရွာ၌ ဖွားသည်။ အဖ ဦးဖုန်း၊ အမိ ဒေါ်ပွားလေး ဖြစ်သည်။ ဒုတိယမြောက်သားဖြစ်၍ အမည် မောင်ကြွယ် ဖြစ်သည်။ ငါးနှစ်အရွယ်တွင် ဘဝဟောင်းကို ပြောပြနိုင်သည်။

၇ နှစ်အရွယ်တွင် ကွက်ငယ်ရွာအရှေ့ဘက်၊ မင်းကျောင်းဆရာတော် ရှင်စန္ဒာသီရိထံ စတင်ပညာသင်သည်။ အခြေခံစာငယ်များနှင့် ဇနက္ကဇာတ်၊ မဟော်သဓာဇာတ်တို့ လက်ရေးလေ့ကျင့်ရသည်။ ၁၁ နှစ်တွင် ဆရာတော် ရှင်စန္ဒာသီရိကို ဥပဇ္ဈာယ်ပြု သာမဏေဖြစ်သည်။ သာမဏေ ဒါယကာမှာ ဦးချစ်ဖူး ဒေါ်လှဘုံ (မိခင်ညီမ) ဖြစ်သည်။ ဝါကျွတ်တွင် လူဝတ်လဲသည်။ နောင်နှစ်ဝါတွင်း၌ သာမဏေပြန်ဝတ်၍ ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။ သာမဏေ ၂ ဝါရတွင် ဥပဇ္ဈာယ်ဆရာ ပျံလွန်၍ ရှင်ကဝိန္ဒထံ သဒ္ဒါ၊ သင်္ဂြိုဟ်၊ ငှက်ကာကျော်၊ ကင်္ခါဝိတရဏီ အဋ္ဌကထာ၊ အဋ္ဌသာလိနီ အဋ္ဌကထာ၊ ဉာဝါဆိုင်ရာ မာတိကာ ဓာတုကထာ တို့ သင်ယူသည်။

သာမဏေ ၄ ဝါတွင် မန္တလေးမြို့တောင်ပြင် ဒက္ခိဏာရာမဘုရားကြီးတိုက် စာချရှင်နန္ဒိယထံရောက်၍ ကစ္စည်းသဒ္ဒါကြီး၊ ဝါစ္စဝါစက၊ ဝိဘတျတ္ထ၊ ကစ္စာယနသာရ ၊ ဍာသကျမ်းတို့ကို ဆိုဝါဖြင့် သင်ယူသည်။ စာချ ရှင်နန္ဒိယ (၁၈၆၅–၁၉၃၆) မှာ ကဗျာနန် အမည်ဖြင့် ထင်ရှားသည်။ ရှင်နန္ဒိယက သာမဏေဘွဲ့မခေါ်ဘဲ လူမည် 'ဘိုးကြွယ်'ကို ခေါ်ရာမှ နောင်အခါ ဆရာတော် ဦးကြွယ်ဟု အမည်တွင်ခဲ့သည်။

သာမဏေ ၈ ဝါရ အသက်ပြည့်ချိန် ၁၉၀၈ ခု ဒီဇင်ဘာလ ၁ ရက် အင်္ဂါနေ့တွင် ဇာတိကွက်ငယ်ရွာ အရှေ့ကျောင်း ခဏ္ဍာသိမ်၌ ရဟန်းဖြစ်သည်။ ဥပဇ္ဈာယ်ဆရာမှာ အရှင်ဝိဇယ၊ ရဟန်းဒါယကာမှာ ကွက်ငယ်ရွာ ဇရပ်ဒါယကာ ဦးလူတုပ် ဒေါ်မြိုင် ဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ဥက္ကံသ ဖြစ်သည်။ ရဟန်းဖြစ်ပြီး ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချ ရှင်နန္ဒိယထံ ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။ ဒက္ခိဏာရာမ ဘုရားကြီးတိုက် စတုတ္ထ သံဃာ့နာယက ရှင်အာစာရာဘိဝံသ (၁၈၄၄–၁၉၂၅) ထံ

သဒ္ဒါကြီး ၈ စောင်၊ သင်္ဂြိုဟ်၊ ဋီကာကျော်၊ ပါရာဇိကကဏ် အဋ္ဌကထာ။ စာချ ပင်းသာဆရာတော် ရှင်ခန္တီဓမ္မ (၁၈၆၀-၁၉၄၇) ထံ နျာသကျမ်း ထပ်မံသင်ယူသည်။ ပင်းသာဆရာတော်၏ ချီးမြှောက်မှုဖြင့် ညောင်ကန် ဆရာတော် ရှင်ဣန္ဒက၊ ကဗျာနန်ခေါ် ရှင်နန္ဒိယ၊ ဆရာတော်ဦးဝိုင်း ခေါ် ရှင်အဂ္ဂမဟာပဏ္ဍိတ၊ သုဓမ္မာချုပ် ရှင်ဝါသဝါဘိဝံသ၊ ဆရာတော် ရှင်ဝိမလတို့၏ စာပေပရိယတ္တိ သာသနာရေးဆွေးနွေးမှုများတွင် နာယူ မှတ်သားခွင့်ရသည်။

ဉာဏ်ထက်၍ စာပေအရအမိများရာ ဆရာသမားများ၊ သီတင်း သုံးဖော်များ တိုက်တွန်း၍ အစိုးရ ပထမပြန်နှင့် အခြားစာမေးပွဲများ ဝင်ရောက်ဖြေဆိုသည်။ ၁၉၁၂ ခုတွင် အစိုးရပထမငယ်။ ၁၉၁၃ ခုနှစ်တွင် ပထမလတ်။ ၁၉၁၄ ခုနှစ်တွင် မန္တလေး ပရိယတ္တိသာသနဟိတ (သကျ သီဟ) စာသင်တန်း။ ၁၉၁၆ ခုတွင် ပထမကြီး။ ၁၉၁၈ ခုတွင် သကျသီဟ စာချတန်းများ အောင်မြင်ခဲ့သည်။ ရဟန်း ၉ ဝါရတွင် စာမေးပွဲဖြေဆိုမှု များ ပြီးဆုံး၍ ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ (သီးခြားစာချ) ဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။

ရဟန်း ၆ ဝါရ ၁၉၁၄ မှ ၁၉၁၅ ခုထိ ပခုက္ကူ မဟာဝိသုတာရာမ တိုက် (အလယ်တိုက်) ဆရာတော် ရှင်ပညာ (၁၈၇၈-၁၉၄၆)၊ စာချ ရှင်ဇဝန (နောင် ပခုက္ကူ မဟာဝိဇယာရာမဆရာတော် ၁၈၇၇-၁၉၅၉)၊ ရှင်နန္ဒဝံသ (၁၈၈၂-၁၉၅၇) တို့ထံ နိကာယ်စာဝါများ သင်ယူသည်။ ထိုစဉ် ပခုက္ကူအလယ်တိုက် စာချ ရှင်ဇဝနထံ မြောင်းမြ တာဝတိံသာကျောင်း ဆရာတော် ရှင်ဝိစယ က စာသင်တိုက်ဖွင့်ရန် စာချတောင်းသည်။ ရှင်ဇဝန က နောက်ပါ ပဥ္စင်း ၁၅ ပါးနှင့်အတူ ရှင်ဥက္ကံသအား စာချတာဝန် ပေးအပ် သည်။ ၁၉၁၆ ခုနှစ် မတ်လ ၁၈ ရက် စနေနေ့တွင် မြစ်ဝကျွန်းပေါ် မြောင်းမြ တာဝတိံသာကျောင်းရောက်သည်။

မြောင်းမြတွင် စာချနေစဉ် တာဝတိံသာကျောင်းဆရာတော်၏ ချီးမြှောက်မှုဖြင့် ထင်ရှားခဲ့သည်။ အိမ်မဲ ရွာကလေးကျောင်းဘုန်းကြီး ရှင်အရိယာဝံသနှင့် ခလောက်သိုက်အရှေ့ကျောင်း ရှင်ပညာဝံသတို့၏ အာပတ္တာအဓိကရဏ်တွင် အဆုံးအဖြတ်ပေးရန် တာဝန်ပေးအပ်ခံရသည်။ ထို့နောက် မန္တလေး သကျသီဟစာချတန်း စာမေးပွဲဖြေရန် မန္တလေး

တောင်ပြင် ဒက္ခိဏာရာမဘုရားကြီးတိုက်၌ ပြန်၍ စာဝါလိုက်သည်။ ညောင်ကန်ဆရာတော် ရှင်ကလျာဏကထံ ပါရာဇိကဏ်အဋ္ဌကထာ၊ သမ္မောဟဝိနောဒနီအဋ္ဌကထာ၊ မူလဋီကာ၊ ဝိသုဒ္ဓိမဂ်အဋ္ဌကထာ၊ မဟာဋီကာ။ ရွှေရေးဆောင် ဦးကြည်ခေါ် ရှင်အာဒိစ္စရံသီ (၁၈၅၇—၁၉၃၅) ထံ ပါရာဇိကဏ်အဋ္ဌကထာ သင်ယူသည်။ ရဟန်း ၉ ဝါရတွင် သကျသီဟ စာချတန်း အောင်မြင်သည်။ ထိုအချိန်မှစ၍ စာပေပို့ချမှုကို ဇွဲလုံ့လကြီးမားစွာ ဆောင်ရွက်သည်။ ဥပုသ်အဖိတ်နေ့များမှာပင် စာဝါမပျက်ပို့ချသည်။ ဂျပန်ခေတ်အတွင်း ရဟန်းရှင်လူများ စာဝါ ဆက်လက်ပို့ချသည်။ စစ်ပြီး မဟာမိတ်တပ်များ ဝင်လာပြီးနောက် ဒေါက်တာဘမော်၏ ဓားမပါတ်နှင့် အဆက်အသွယ်ရှိသည်ထင်မှတ်ကာ ခေတ္တခေါ်ယူ စစ်ဆေးခံရသည်။

လွတ်လပ်ရေးရပြီး ၁၉၄၈ ခုနှစ်တွင် မန္တလေး ပရိယတ္တိသာသနဟိတအသင်း နှစ်ငါးဆယ် အထိမ်းအမှတ် ရွှေရတုသဘင်ကျင်းပရာ အဂ်ပူဆရာတော်၊ ပခုက္ကူ အရှေ့တိုက်ဆရာတော်၊ ပခုက္ကူ အလယ်တိုက်ဆရာတော်၊ ညောင်တုန်း ရွှေဟင်္သာတောရဆရာတော်၊ မော်လမြိုင် တောင်ပေါက်ဆရာတော်၊ ညောင်လေးပင်တောရဆရာတော်တို့နှင့်အတူ ဓမ္မာစရိယ (မူလစာချ) ဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။ နိုင်ငံတွင်း ပရိယတ္တိ ကျွမ်းကျင်လိမ္မာ၍ ထင်ရှားသော ပရိယတ္တိစာသင်တိုက်ကြီးများ၏ အဓိပတိ ဆရာတော်များကို ရွေးချယ်၍ ဘွဲ့တံဆိပ် ဆက်ကပ်ခြင်းဖြစ်သည်။

၁၉၅၀ ပြည့် ဒီဇင်ဘာလ ၁ ရက်မှ ၄ ရက်ထိ ရန်ကုန်မြို့ ဗုဒ္ဓဘာသာကလျာဏယုဝအသင်း (ဝိုင်အမ်ဘီအေ) ပိဋကတ်ပါဠိတော်မူမှန် ပေါ်ထွက်ရေးအစည်းအဝေးကို နေဖြူ သဒ္ဓမ္မဇောတိကာရာမဆရာတော်၊ မန္တလေး ညောင်ရမ်းဆရာတော်၊ ပခုက္ကူ မဟာဝိသုတာရာမဆရာတော်နှစ်ပါး၊ မန္တလေး မဖိုးရိမ်ဆရာတော်၊ ညောင်တုန်း ရွှေဟင်္သာတောရဆရာတော်၊ မန္တလေး ခင်မကန်စံကျောင်းဆရာတော်၊ ရန်ကုန် ဘုရားကြီးဆရာတော်၊ မန္တလေး ဒက္ခိဏာရာမဘုရားကြီးတိုက် ဟံသာဝတီဆရာတော်၊ ဘုရားကြီးတိုက် သာသနာ့ဇောတိကာရုံ အုတ်ကျောင်းဆရာတော်၊ မြောင်းမြဆရာတော်တို့နှင့်အတူ တက်ရောက်ခဲ့သည်။ ပဥ္စမသင်္ဂါယနာတင်ကျောက်စာမူများနှင့် တိုက်ဆိုင်စစ်ဆေးရန် ဦးဆောင်ရမည့် သမုတိရ

ဆရာတော်များ အဖွဲ့ဝင် ၁၀ ပါးတွင် ပါဝင်ဆောင်ရွက်သည်။ ၁၉၅၁ ခုနှစ် အောက်တိုဘာလ ၂၄ ရက်တွင် သန့်စင်ပြီး ပိဋကတ်တော်များကို ဝိုင်အမ်ဘီအေ စာပေဖြန့်ချိရေးအဖွဲ့က နိုင်ငံတော် ဗုဒ္ဓသာသနအဖွဲ့သို့ လွှဲပြောင်းရန် စီစဉ်ခဲ့ပါသည်။

၁၉၅၂ ခုနှစ်တွင် ရန်ကုန် ဘုရားကြီးဆရာတော်၊ ကျောက်ကုန်း မေဒိနီဆရာတော်၊ မန္တလေး ဘုရားကြီးတိုက် ဟံသာဝတီဆရာတော်၊ မြောင်းမြဆရာတော်တို့နှင့်အတူ အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။

၁၉၅၄ ခု ဆဋ္ဌသင်္ဂါယနာတွင် ဝန်ဆောင်ဆရာတော်အဖြစ် ဆောင်ရွက်၍ ၁၉၅၅ ခု သာသနာ ၂၅၀၀ ပြည့် အထိမ်းအမှတ်အဖြစ် မန္တလေး မစိုးရိမ်ဆရာတော်၊ မဟာစည်ဆရာတော်၊ ရန်ကုန် အောင်မြေသုခကျောင်း ဆရာတော်၊ တရားဝန်ကြီး ဦးသိမ်းမောင်တို့နှင့်အတူ ထိုင်းနိုင်ငံ သွားရောက်ခဲ့သည်။ ၁၉၅၁ ခုနှစ်တွင် အိန္ဒိယနှင့် သီရိလင်္ကာနိုင်ငံ ဘုရားဖူးကြွရောက်သည်။

ပရိယတ္တိစာချတာဝန်အပြင် နိုင်ငံတော် ဝိနည်းဓိုရ်၊ ကျောင်းထိုင်ဆရာတော်များအဖွဲ့ ဥက္ကဋ္ဌ၊ ပါဠိတက္ကသိုလ် ဗဟိုအဖွဲ့ ဒုတိယဥက္ကဋ္ဌ၊ ပါဠိပညာရေးအဖွဲ့ နာယက၊ မန္တလေး ပရိယတ္တိသာသနဟိတအသင်း ဩဝါဒါစရိယ၊ မဟာမုနိရုပ်ရှင်တော်မြတ် ဘဏ္ဍာဂါရိက ဩဝါဒါစရိယဝန်ဆောင်အဖွဲ့ဝင်တာဝန်များ ထမ်းဆောင်ခဲ့သည်။

၁၉၇၂ ခုနှစ်တွင် ဒက္ခိဏာရာမဘုရားကြီးတိုက် သံဃာ့နာယက ဟံသာဝတီဆရာတော် ရှင်ကုန္တာသဘ (၁၈၈၈—၁၉၇၂) တွင် ပျံလွန်၍ ဒသမမြောက် သံဃာနာယကအဖြစ် တင်မြှောက်ခံရသည်။

ပြုစုခဲ့သော ကျမ်းဂန်များမှာ လက္ခဏာဒိ ပကာသနီ ဋီကာနိဿယ၊ အလင်္ကာရတ္ထ ဒီပနီပါဠိ၊ အလင်္ကာရတ္ထ ဝိဘာဝနီ နိဿယ၊ ကမ္မဋ္ဌာနဒီပနီ၊ ကိုယ်တိုင်ရေးအတ္ထုပ္ပတ္တိ (သုံးဘဝအတ္ထုပ္ပတ္တိ) တို့ ဖြစ်သည်။

သက်တော် ၈၇ သိက္ခာ ၆၇ ဝါရ ၁၉၇၅ ခု ဒီဇင်ဘာလ ၃ ရက် ဗုဒ္ဓဟူးနေ့ ည ၇း၀၀ နာရီတွင် မန္တလေး ဒက္ခိဏာရာမဘုရားကြီးတိုက် ကျောင်း၌ ခန္ဓာဝန်ချခဲ့သည်။





## ရွှေဥဒေါင်းတောင်ဆရာတော်
## ရှင်ကုမာရ
(၁၈၉၂ — ၁၉၈၅)

၁၃ နှစ်ရွယ် ကိုရင်ငယ်ဘဝက ရသေ့ကြီးဦးခန္တီ၏ ကူညီပံ့ပိုးမှုဖြင့် ရှမ်းပြည်နယ်တောင်ပိုင်း ပင်လောင်းနယ် ပင်ခင်ရွာမှ မြေလတ်ဒေသ ရမည်းသင်းနယ် သိမ်ကုန်းကန်ထောင် ပရိယတ္တိစာသင်တိုက်ကို ရောက်ရှိခဲ့သည်။ သာမဏေ ၇ ဝါရသည့်တိုင် သိမ်ကုန်းကန်ထောင်၊ အုန်းတောသက်ကယ်ခြံ စာသင်တိုက်များ၌ ပရိယတ္တိစာပေ သင်ယူခဲ့၏။ ရဟန်း ၉ ဝါရသည့်တိုင် တောင်ငူ၊ မန္တလေး ပရိယတ္တိစာသင်တိုက်များတွင် ပရိယတ္တိစာပေ ဆက်လက်ဆည်းပူးခဲ့သည်။ ရဟန်း ၉ ဝါမှ သိက္ခာ ၂၇ ဝါရသည့်တိုင် ဇာတိ အင်းလေးနယ်တွင် ပရိယတ္တိစာပေ ပို့ချ၍ အင်းလေးဒေသလုံးဆိုင်ရာ ပရိယတ္တိ သဒ္ဓမ္မပါလ စာမေးပွဲ၊ ရှမ်းပြည်နယ်လုံးဆိုင်ရာ ညောင်ရွှေ ဝိနယာဒိ နုဂ္ဂဟစာပြန်ပွဲများ၌ နာယကအဖြစ် ဆောင်ရွက်သည်။ ပရိယတ္တိဆောင်ရွက်နေစဉ်မှာပင် ပဋိပတ္တိကျင့်စဉ်တွဲလျက် ကျင့်ကြံအားထုတ်ခဲ့သည်။ ရဟန်းသိက္ခာ ၂၀ ဝါရတွင် ထိုစဉ်က ရဟန်းကိစ္စပြီးမြောက်ပြီဟု ထင်ရှားသော ညောင်လွန့်တောရဆရာတော် ရှင်မေဓာဝီ (၁၈၆၈—၁၉၃၃) ထံ ပဋိပတ္တိနည်းခံခဲ့၏။ ၂၇ ဝါရတွင် အင်းလေးကန်၏ အနောက်ဘက် ရွှေဥဒေါင်းတောင်ပေါ်၌ တစ်ပါးတည်း တောထွက်ကျင့်ကြံအားထုတ်ရာမှ ရွှေဥဒေါင်းတောင်ဆရာတော်ဟု ထင်ရှားခဲ့ပါသည်။

ကုမာရ ရှင်၊ အင်းလေး ရွှေဥဒေါင်းတောင်ဆရာတော် —

၁၈၉၂ ခုနှစ် ဇန်နဝါရီလ ၁၁ ရက် တနင်္လာနေ့တွင် ဖွားသည်။ ရှမ်းပြည်တောင်ပိုင်း ပင်လောင်းမြို့နယ် ပင်ခင်ကျေးရွာဇာတိ။ အဖ တောင်ယာလယ်သမား ဦးစိုင်၊ အမိ ပအို့(ဝ်)တိုင်းရင်းသူ ဒေါ်အွတ် ဖြစ်၏။ မွေးချင်း ၉ ယောက်တွင် အငယ်ဆုံး၊ အမည် မောင်ကြာအောင် ဖြစ်သည်။

၇ နှစ်အရွယ်တွင် ပင်ခင်ကျေးရွာကျောင်းဘုန်းကြီး ရှင်သာဂရ ထံ၌ စတင် ပညာသင်ယူသည်။ ငယ်စဉ်ကပင် ဗီဇကောင်း၍ ယဉ်ကျေး သိမ်မွေ့သည်။ စာပေထူးချွန်သည်။ ဆရာဘုန်းကြီး၏ ကျေနပ်အားရမှု ခံရသည်။ ၁၂ နှစ်တွင် မိဘနှစ်ပါးက ရှင်ဒါယကာခံယူ၍ သာမဏေ ဖြစ်သည်။ ဥပဇ္ဈာယ်ဆရာမှာ ရှင်သာဂရဖြစ်သည်။ သာမဏေဘွဲ့ ရှင်ကုမာရ ဖြစ်သည်။ သာမဏေဝတ်ဖြင့် ဗုဒ္ဓဘာသာအခြေခံစာပေများ သင်ယူသည်။ သာမဏေ ၂ ဝါရတွင် ဥပဇ္ဈာယ်ဆရာ၏ အစီအစဉ်ဖြင့် ရသေ့ကြီး ဦးခန္တီ (၁၈၆၇-၁၉၄၉) နှင့်အတူ မြေလတ် ရမည်းသင်းနယ် သိမ်ကုန်း ကန်ထောင် ပရိယတ္တိစာသင်တိုက်ကို ပြောင်းရွှေ့ ပညာဆည်းပူးသည်။ သာမဏေ ၅ ဝါရသည့်တိုင် သိမ်ကုန်း ကန်ထောင်ဆရာတော် ရှင်စာရိတ္တာ ဘိဝံသထံ ရှုပသိဒ္ဓိ၊ ကစ္စာဝိဘာရဏီ၊ ဋီကာကျော်၊ မာတိကာ၊ ဓာတုကထာ၊ ယမိုက်၊ ပဋ္ဌာန်းကျမ်းများ သင်ယူသည်။ ထို့နောက် သိမ်ကုန်းဆရာတော်၏ လမ်းညွှန်မှုဖြင့် ရမည်းသင်းအနောက် အုန်းတော သက်ကယ်ခြံကျောင်း ဆရာတော် ရှင်ပဏ္ဍိတညာဏထံ ဝိနည်း ၅ ကျမ်းကို ပါဠိတော် အဋ္ဌကထာ ဋီကာ တွဲဖက်သင်ယူသည်။

အသက် ၂၀ ပြည့်ချိန်တွင် မိဘရပ်ထံပြန်၍ ပင်ခင်တောရကျောင်း ရေသိမ်၌ ရဟန်းပြုသည်။ ဥပဇ္ဈာယ်ဆရာမှာ နန်းနိမ်းဆရာတော် ရှင်နန္ဒိယ ဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ကုမာရ ဖြစ်သည်။ ရဟန်းဒါယကာမှာ မိဘနှစ်ပါး နှင့် လုံးပိုးရွာ ကျောင်းဒကာ ဦးဖူးမိသားစု ဖြစ်သည်။ ရဟန်းပြုပြီး ပွေးလှမြို့ ကျောက်တောကျောင်း စာချ အရှင်ဣန္ဒထံ တစ်ဝါ၊ တောင်ငူမြို့ လယ် ကလေးစာသင်တိုက် စာချ ရှင်ဉာဏရေထံ တစ်ဝါ ဆက်လက်နည်းခံသည်။ သုတ္တန်ပါဠိတော်ကို အဋ္ဌကထာ ဋီကာတွဲလျက်၊ သမ္မောဟဝိနောဒနီ အဋ္ဌကထာကို ဋီကာအမျိုးမျိုးတွဲ၍ သင်ယူခဲ့သည်။

ရဟန်း ၃ ဝါရ ၁၉၁၄ ခုနှစ်တွင် မန္တလေးမြို့ တောင်ပြင် ဘုရားကြီး

တိုက်ခေါ် ဒက္ခိဏာရာမတိုက် ပြောင်း၍ စာချ ရှင်ဥက္ကံသာဘိဝံသ (ဦးငြိမ်း ၁၈၆၈—၁၉၄၅)၊ ဦးဝိုင်း၊ ရှင်ဝိစာရ (ဦးပခန်း ၁၈၈၂—၁၉၄၁)၊ ရွှေရေးဆောင်ဆရာတော် ရှင်အာဒိစ္စရံသီ (ဦးကြည် ၁၈၅၇—၁၉၃၅) တို့ထံ ပရိယတ္တိ စာပေသင်ယူသည်။ မန္တလေး လေးပြင်လေးရပ် ထင်ရှားသော စာချဆရာတော်များထံ နည်းခံသည်။ ရဟန်း ၉ ဝါရသည့်တိုင် ဝိနည်းအလေးထား၍ သင်ယူခဲ့သည်။

၁၉၂၀ ပြည့်နှစ်တွင် မွေးရပ်ဇာတိ ပင်လောင်းနယ် ပင်ခင်ရွာ ကျောင်း၌ ပြန်လည်စာပေပို့ချ သီတင်းသုံးသည်။ ထိုသို့ စာပေပို့ချနေစဉ် ပင်လောင်းမြို့ နောင်ကားဆရာတော်ကြီး၏ မေတ္တာရပ်ခံချက်အရ နောင်ကားကျောင်းတွင် တစ်ဝါ၊ ထို့နောက် ရဟန်းဒါယကာ ဦးဖူးနှင့် ဗန်းပြင်ကျေးရွာမှ ပင့်လျှောက်၍ ဗန်းပြင်ကျောင်း၊ ထိုမှတစ်ဖန် ကျားတွန်ကျေးရွာ ဒါယကာ၊ ဒါယိကာမများ၏ ဆန္ဒအရ ကျားတွန်ကျောင်းသို့ ပြောင်းရွှေ့ သီတင်းသုံးခဲ့သည်။

ကျားတွန်ကျောင်းတိုက်ကို ပရိယတ္တိစာသင်တိုက်အဖြစ် ပြောင်းလဲခဲ့ရာ ရဟန်း ၂၅ ပါး၊ သာမဏေ ၇၀ ပါး၊ ကျောင်းသား ၆၀ ကျော် ဖြစ်လာသည်။ စာသင်သား ရဟန်း၊ သာမဏေ၊ ကျောင်းသားများကို နေ့ဝါ၊ ညဝါ ခွဲ၍ ကိုယ်တိုင် စာပေပို့ချသည်။ ကျေးရွာ ဒါယကာ၊ ဒါယိကာမများကို လည်း စီးပွားရှာရန် ဟောပြောဆုံးမသည်။ ၅ နှစ်ကြာလျှင် ဒါယကာ၊ ဒါယိကာမများနှင့် ညှိနှိုင်း၍ ကျားတွန်ကျောင်းတိုက် ပရိယတ္တိစာပြန်ပွဲ ကျင်းပခဲ့သည်။

၁၉၃၁ ခုနှစ် သိက္ခာ ၂၀ ဝါအရ ထိုစဉ်က ရဟန္တာဟု ထင်ရှားသော ရမည်းသင်းမြို့နယ် ညောင်လွန့်တောရဆရာတော် ရှင်မေဓာဝီ (၁၈၆၈-၁၉၃၃) ထံ ပဋိပတ္တိ နည်းခံခဲ့သည်။ ၈ လခန့် ဝိပဿနာကျင့်စဉ် နည်းခံခဲ့သည်။ ညောင်လွန့်ဆရာတော်၏ ကျေနပ်အားရ ခံရ၍ ညောင်လွန့်မှ အပြန် သာစည်ဘူတာအထိ ဆရာတော်ကိုယ်တိုင် လိုက်ပို့ခံရသည်။ ညောင်လွန့်မှအပြန် ကျားတွန်ပရိယတ္တိစာသင်တိုက်မှာပင် ပရိယတ္တိစာပေပို့ချကာ ပဋိပတ္တိကျင့်စဉ်ကို ကြောင်လက်သည်းဝှက်ကဲ့သို့ လျှို့ဝှက်ကျင့်ကြံအားထုတ်သည်။ ရှမ်းပြည်နယ်လုံးဆိုင်ရာ ညောင်ရွှေ ဝိနယာဒိ နုဂ္ဂဟ စာပြန်ပွဲ၊ အင်းလေးနယ် ပရိယတ္တိသဒ္ဓမ္မပါလ စာမေးပွဲနာယက၊ လွယ်မောဂိုဏ်းအုပ်၊ ဝိနည်းမိုရ်၊ တောင်ကြီးခရိုင် ဝိနိစ္ဆယဌာန တာဝန်ခံ

စသည့် သာသနာ့တာဝန်များကို ထမ်းဆောင်ခဲ့သည်။

၁၉၃၈ ခုနှစ် ဇူလိုင်လ ၁၂ ရက် အင်္ဂါနေ့ညတွင် ကျားတွန်ကျောင်းမှ ၂ မိုင်ကျော်ဝေးသည့် ရွှေဥဒေါင်းတောင်ပေါ်ကို တစ်ပါးတည်း တောထွက်ခဲ့သည်။ တောထွက်သည့်အချိန်ကစ၍ တရားထူးမရသရွေ့ တောင်ပေါ်က မခွာတော့၊ ဓုတင် ၁၃ ပါးအနက် ၇ ပါးကိုဆောင်၍ ကျင့်ကြံအားထုတ်ရန် အဓိဋ္ဌာန်ပြုသည်။ ၁၀ နှစ်တိုင် သုသာန်ဓုတင်နှင့် ဓုတင် ၇ ပါးကို လုံ့လုံ့ချီတင်းကြပ်စွာ ကျင့်ကြံအားထုတ်ခဲ့သည်။ ညောင်ရွှေ အင်းလေး စာပြန်ပွဲ၊ စာမေးပွဲနာယကအဖြစ် ပရိယတ္တိတာဝန်ထမ်းဆောင်ခြင်းနှင့် ၁၉၅၄ ခုနှစ် ဆဋ္ဌသင်္ဂါယနာတွင် ရှမ်းပြည်နယ် ဂိုဏ်းပေါင်းစုံ သံဃာ့ကိုယ်စားလှယ်အဖြစ် တက်ရောက်သည်မှလွဲ၍ ပဋိပတ္တိကို ပြင်းပြင်းထန်ထန် ကျင့်ကြံအားထုတ်ခဲ့ရာ ရွှေဥဒေါင်းတောင်ဆရာတော်ဟု ထင်ရှားခဲ့သည်။

ရွှေဥဒေါင်းတောင်ပေါ်တွင် ရွှေဥဒေါင်းစေတီ (၁၉၄၀)၊ အာရုံခံတန်ဆောင်း (၁၉၅၃)၊ သိမ် (၁၉၅၅)၊ သုံးထပ်မှော်ရုံကျောင်း (၁၉၆၀)၊ ဘုရားတံတိုင်း (၁၉၇၂)၊ ဘုရားတံတိုင်း (တတိယထပ်) (၁၉၇၇) အစရှိသော သာသနိက အဆောက်အအုံများ ပေါ်ထွန်းခဲ့သည်။ တောထွက်ချိန်မှစ၍ ၁၂ နှစ်တိုင်တိုင် သက်ငယ်တဲကျောင်းကလေးဖြင့် သီတင်းသုံး၍ ကျင့်ကြံအားထုတ်သည်။ နောင်အခါ သီလ၊ သမာဓိ၊ ပညာ သိက္ခာသုံးပါး၏ အစွမ်းဖြင့် ရွှေဥဒေါင်းတောင်ဆရာတော်ဟု ထင်ရှားကာ နိုင်ငံအနှံ့တို့မှ လာရောက် ဖူးမြော်ကန်တော့ကြသည်။ အခါကြီးရက်ကြီးများတွင် တောင်ပေါ်၌ နေ့စဉ် ပရိသတ် ၁၀၀၀ ခန့် ရှိသည်။ ရောက်လာသမျှ ပရိသတ်အား 'ငါ့ကျောင်းလာလို့ မစားရသူ မရှိစေရ' အမိန့်ရှိကာ ထမင်းပေါင်းအိုး ၈ လုံးခန့်၊ အလုပ်သမား ၁၀ ယောက် အမြဲထားရှိသည်။ ရွှေဥဒေါင်းတောင်ဆရာတော်၏ လောကီ၊ လောကုတ္တရာ ထူးခြားဆန်းကြယ်မှု ကိုယ်တွေ့ကြုံရသူများ၏ မှတ်တမ်းများ ကျန်ရစ်ခဲ့သည်။

သက်တော် ၉၄ နှစ် သိက္ခာ ၇၃ ဝါအရ ၁၉၈၅ ခုနှစ် ဇန်နဝါရီလ ၁၈ ရက် သောကြာနေ့ ည ၁၀း၄၅ နာရီတွင် အင်းလေး ရွှေဥဒေါင်းတောင် တောရကျောင်းတိုက်၌ တစ်ဘဝ တစ်ခန်းရပ် ချုပ်ငြိမ်းခဲ့ပါသည်။





## ရွှေဟင်္သာတိုက်သစ် ဆရာတော် ရှင်ပဏ္ဍိတသိရီ
(၁၈၉၃ — ၁၉၉၅)

သက်တော်ရှည် ရွှေကျင်သာသနာပိုင် စစ်ကိုင်း ရွှေဟင်္သာတိုက်သစ်ဆရာတော်အဖြစ် ထင်ရှားသည်။ ပရိယတ် ပဋိပတ် စွယ်စုံကျင့်ကြံအားထုတ်၍ ကျမ်းပေါင်းများစွာ ပြုစုခဲ့သည့် ကျမ်းပြုဆရာတော်အဖြစ် သတ်မှတ်ခံရသည်။ အထင်ရှားဆုံးကျမ်းမှာ ရွှေကျင်နိကာယသာသနာဝင် ဖြစ်သည်။ ငယ်စဉ်က ကျန်းမာရေး ချူချာ၍ ညောင်တုန်းရွှေဟင်္သာတောရမှ စစ်ကိုင်းတောင် ပြောင်းရွှေ့ သီတင်းသုံးသည်။ ထိုအချိန်မှစ၍ စစ်ကိုင်းမြို့ကို နေ့စဉ် ဆွမ်းခံဝတ်မပျက် သက်တော် ၉၄ နှစ်တိုင် ဖြစ်သည်။ စစ်အတွင်းမှာပင် ဆွမ်းခံဝတ်ကို အပျက်မခံခဲ့ချေ။ ညောင်တုန်း ရွှေဟင်္သာတောရ စံကျောင်းဆရာတော်များက ဆွမ်းဆန်စရိတ်အတွက် ဝတ္ထုကံ လယ်ယာခြံမြေ အလှူတို့ကို ဝိနည်းနှင့်အညီ စီမံ၍ထားရန် အကြံပြုသော်လည်း "သပိတ်ဝတ္ထုကံ" ကိုသာ စွဲစွဲမြဲမြဲကျင့်သုံးခဲ့သည်။ စာသင်သားဘဝကပင် ဝိနည်းသိက္ခာပုဒ်၊ ကျောင်းတိုက်ဝတ္တရား၊ ဆရာဩဝါဒ မျက်မှောက်မျက်ကွယ် ဖြူစင်ကျင့်သုံးသည့် သီလသုတ အင်နှစ်ပါးစုံဟု သတ်မှတ်ခံရသည်။ သက်တော် ၉၀ ကျော်တွင် အမေရိက၊ အိန္ဒိယ၊ ထိုင်း၊ မလေးရှား၊ စင်္ကာပူ၊ ပြည်ပ သာသနာပြုခရီးများနှင့် ပြည်တွင်း ရွှေကျင်ဝိနည်းစာပြန်ပွဲများ ကြွရောက်၍ ရွှေကျင်သာသနာပြန့်ပွားရေးအတွက် ဦးဆောင်ဦးရွက် ပြုခဲ့ပါသည်။

ပဏ္ဍိတသိရီ၊ ရှင်၊ ရွှေဟင်္သာတိုက်သစ်ဆရာတော် —

၁၈၉၃ ခုနှစ် ဒီဇင်ဘာလ ၁၄ ရက် ကြာသပတေးနေ့တွင် မြစ်ဝကျွန်းပေါ်ဒေသ ဟင်္သာတခရိုင် လေးမျက်နှာမြို့၌ ဖွားသည်။ အဖ ဦးကျောက်စိမ်း အမိ ဒေါ်ရွှေသော် ဖြစ်သည်။ မိဘများမှာ ကုန်သည် ခြံလုပ်ဖြစ်သည်။ သားချင်း ၅ ယောက်တွင် အငယ်ဆုံးဖြစ်၍ အမည် မောင်သန်း ဖြစ်သည်။ အကြီးမွေးချင်းလေးယောက်မှာ ငယ်စဉ်ကပင် ကွယ်လွန်သည်။

အသက် ၄ နှစ်တွင် မိဘများ ရန်ကုန်တစ်ဖက်ကမ်း ကမာကဆစ်ရွာ ပြောင်းသည်။ ကမာကဆစ်ရွာ အနောက်ကျောင်း၊ ရန်ကုန် သိမ်ကြီးဈေးထိပ် မြန်မာစာသင်ကျောင်း၊ ကျုံးကြီးလမ်း အေဘီအမ် ယောက်ျားကလေးကျောင်း၊ လေးမျက်နှာမြို့ ဆရာဆင့် အလွတ်ပညာ သင်ကျောင်းတို့၌ လေးတန်းအောင်သည်အထိ ပညာသင်သည်။ ထို့နောက် လေးမျက်နှာမြို့ မိကျောင်းရဲဆရာတော်ထံ ပြောင်း၍ ဂဏန်း သင်္ချာနှင့် ဗေဒင်ပညာသင်သည်။ ၁၄ နှစ်တွင် ဖခင်က ရှင်ဒါယကာ၊ မိကျောင်းရဲဆရာတော်က ဥပဇ္ဈာယ်ဆရာပြု၍ သာမဏေဖြစ်သည်။ ဘွဲ့ ရှင်ပဒုမ ဖြစ်သည်။

ကိုရင် တစ်ဝါရတွင် ဝိပဿနာတရားပြ ရှင်တိက္ခိန္ဒြိယ (၁၈၇၀— ၁၉၄၁) (နောင်ရွှေတောင်မြို့ အမ္ဗာရာမ ကျောင်းတိုက်ဆရာတော်) သီတင်းသုံးရာ တောကျောင်းလိုက်ပါပြုစု၍ ကစ္စည်းသဒ္ဒါကြီး ၂ လခန့် သင်ယူသည်။ ကိုရင် ၂ ဝါရတွင် လူထွက်ပြီး ဖခင်နှင့်အတူ စပါး အရောင်းအဝယ် လုပ်ကိုင်သည်။ လူဝတ်ကြောင်ဘဝ ဒုက္ခကို သံဝေဂ ရကာ ဒုတိယအကြိမ် သာမဏေပြုသည်။ သာမဏေပြုပြီး ဥပဇ္ဈာယ် ဆရာ မိကျောင်းရဲဆရာတော်၏ ခွင့်ပြုချက်ဖြင့် မော်လမြိုင် ပြည်တိုက် ရှင်ပညာသာမိ (ရန်ကုန် ကြည့်မြင်တိုင် သာစုတိုက်ဆရာတော်) ထံ ပရိယတ္တိစာပေ သင်ယူသည်။ ပြည်တိုက် စာချ ရှင်ဝါယာမထံ တလာ ဝတာရပါဠိသဒ္ဒါကျမ်း သင်ယူသည်။ ရှင်ဝါယာမက ရှင်ပဒုမဘွဲ့ကို ရှင်ဗုဒ္ဓဃောသဟု ပြောင်းပေးသည်။

၁၉၁၁ ခုနှစ်တွင် ရန်ကုန်မြို့ ကျောင်းတော်ရာတိုက် ပြောင်းရွှေ့

ပညာသင်သည်။ ကျောင်းတော်ရာတိုက် ဘုံပျံကျောင်းဆရာတော် ရှင်သောဘိတ က ဘွဲ့ကို ရှင်ပဏ္ဍိတ ဟု ဘွဲ့ပြောင်းပေးသည်။ ၁၉၁၂ ခုနှစ်တွင် ကျောင်းတော်ရာဆရာတော် ရှင်သာသန (၁၈၄၃—၁၉၂၅) ညောင်တုန်းမြို့ ရွှေဟင်္သာတောရတိုက်တည်ရာ လိုက်ပါ၍ ပရိယတ္တိ စာပေသင်ယူသည်။ ရွှေဟင်္သာတောရ စံကျောင်းဆရာတော် ရှင်ဝါယာမ (၁၈၇၄—၁၉၄၇) ထံ နေ့စာဝါ သဒ္ဒါကြီး၊ ညစာဝါ ပုဒ်စစ်၊ စာချ ရှင်မေဓာဝီ (မေဓါဝီဆရာဆိုင်၊ ၁၈၈၈—၁၉၅၈) ထံ သဂြိုဟ်ကို ဆိုဝါဖြင့် သင်ယူသည်။ ရွှေဟင်္သာတောရတွင် ထိုအချိန်က ကိုရင်ပဏ္ဍိတ ဘွဲ့တူ သုံးပါးရှိရာ စံကျောင်းဆရာတော်က ဘွဲ့ကို ပဏ္ဍိတသိရီ ဟု ပြင်ပေးသည်။

၁၉၁၃ ခုနှစ် ဇူလိုင်လ ၇ ရက် တနင်္လာနေ့တွင် ငယ်ဆရာ မိကျောင်းရဲဆရာတော်က ဥပဇ္ဈာယ်၊ ဦးကြီးဒေါ်ကြီး တော်စပ်သူ ဦးလူကြီး၊ ဒေါ်ငွေမှုံက ရဟန်းဒါယကာခံ၍ လေးမျက်နှာမြို့၌ ရဟန်းပြုသည်။ ဘွဲ့ ရှင်ပဏ္ဍိတသိရီ ဖြစ်သည်။ ထိုနှစ် ဇူလိုင်လ ၁၆ ရက်နေ့ ဗုဒ္ဓဟူး နေ့တွင် ညောင်တုန်း ရွှေဟင်္သာတောရ သီလဝိသောဓနီသိမ်၌ ကျောင်း တော်ရာ ဆရာတော်ရှင်သာသနာကို ဥပဇ္ဈာယ်ပြု၍ ထပ်မံ ရဟန်းခံသည်။ ရဟန်းဒါယကာမှာ ညောင်တုန်းမြို့ ဦးကျော်ဒွန်း၊ ဒေါ်ကြည်၊ ဦးချက်၊ ဒေါ်အိုဒွန်း တို့ဖြစ်သည်။ ရဟန်းဖြစ်ပြီး ညောင်တုန်း ရွှေဟင်္သာတောရ၌ ဆက်လက်ပညာသင်ရာ ရဟန်းတစ်ဝါရ ၁၉၁၄ ခုနှစ်တွင် အစိုးရပထမငယ်၊ ၁၉၁၅ ခုနှစ်တွင် ပထမလတ် အောင်မြင်သည်။ ကျန်းမာရေးချို့ချာ၍ ပထမကြီးတန်းကို ဆက်လက်မဖြေတော့ချေ။ ၁၉၁၆ ခုနှစ်တွင် မန္တလေးမြို့ ငါးဆူတိုက်ဆရာတော် ရှင်သဒ္ဓမ္မာစာရ (၁၈၅၆-၁၉၃၇) ထံ ကင်္ခါ အဋ္ဌကထာ၊ ဘေဒစန္တာတို့ကို နေ့ဝါ၊ ပုဒ်စစ်ကို ညဝါ။ ခင်မကန်တိုက် မန်ကျည်းပင်ကျောင်းဆရာတော် ရှင်သီလာစာရ၊ သူဌေးကျောင်းဆရာ တော် ရှင်ရေဝတ၊ တောင်သမန်တိုက်ဆရာတော် ရှင်ဝိမလ၊ မဟာဝိသုဒ္ဓါရုံ ဆရာတော်၊ ဝမ်းတွင်းမြို့နယ် ဒေါင်သူတောရဆရာတော်တို့ထံ နည်းခံ သင်ယူသည်။

ရဟန်း ၅ ဝါရတွင် ညောင်တုန်း ရွှေဟင်္သာတောရ မှန်ကျောင်း ကျောင်းဘုန်းကြီး စာချအဖြစ် ခန့်အပ်ခံရသည်။ ရွှေဟင်္သာတောရတွင်

စာပေပို့ချနေစဉ် မြန်မာ့အလင်း၊ သူရိယသတင်းစာ၊ သူရိယမဂ္ဂဇင်းတို့၌ ဘာသာရေးဆောင်းပါးများ ရေးသားသည်။ အာစေရဝဏ္ဏနာပျို့ (၁၉၁၉)၊ ဟိ စ ပ န နိပါတ္တဒီပနီ (၁၉၂၂)၊ ဥပုဒ်သည်လက်စွဲ (၁၉၂၄)၊ ကျောင်းတော်ရာဆရာတော် ဘုန်းတော်ဖွင့် ထေရုပ္ပတ္တိ (၁၉၂၅) တို့ကို စီရင်ခဲ့သည်။ ၁၉၂၆ ခုနှစ် ရဟန်း ၁၄ ဝါရတွင် အမရပူရမြို့ မဂ်လာ တိုက်ဟောင်း၌ ပဋ္ဌာန်းသင်ယူသည်။ ထိုစဉ် စစ်ကိုင်းတောင်ရိုးတွင် ခေတ္တ သီတင်းသုံးရာ ရာသီဥတုနှင့် သင့်တင့်မျှတ၍ ကျန်းမာရေး ကောင်းမွန် လာသည်။ ထို့ကြောင့် ညောင်တုန်း ရွှေဟင်္သာတောရ စံကျောင်း ဆရာတော်နှစ်ပါးထံ ခွင့်တောင်း၍ ၁၉၂၇ ခုနှစ်တွင် ကိုရင်နှစ်ပါး၊ ကျောင်းသားတစ်ယောက်ဖြင့် စစ်ကိုင်းတောင် ရက္ခမူချောင်၌ သီတင်း သုံးသည်။ ချောင်ကို ရွှေဟင်္သာချောင်ဟု အမည်သမုတ်သည်။

ရွှေဟင်္သာချောင်တွင် စတင်သီတင်းသုံးသည့် ၁၉၂၇ ခုနှစ်မှ ၁၉၇၈ ခုနှစ် သက်တော် ၈၅ နှစ်တိုင် စစ်ကိုင်း တောင်ရိုး မဟာဂန္ဓာရုံ ဝိနည်းစာပြန်ပွဲတွင် ပေးအပ်သမျှ တာဝန်ကို ထမ်းဆောင်ခဲ့သည်။ နေ့စဉ် စစ်ကိုင်းမြို့ကို ဆွမ်းခံကြွသည့် ဆွမ်းခံဝတ် တည်ခဲ့သည်။ ဒုတိယကမ္ဘာစစ် အတွင်း ငါးခွန်မြို့ သိမ်တော်ကျောင်းတိုက်၊ ရွှေလိပ်ခွံတောရတို့တွင် သီတင်းသုံးနေစဉ်မှာပင် ဆွမ်းခံဝတ် မပျက်ခဲ့ချေ။ ညောင်တုန်း ရွှေဟင်္သာ တောရ စံကျောင်းဆရာတော်များက ဒါယကာ ဒါယိကာမများနှင့် တိုင်ပင်၍ ဆွမ်းဆန်စရိတ်အထောက်အပံ့အဖြင့် ဝတ္ထုကံလယ်မြေခြံမြေကို ဝိနည်းနှင့်အညီ စီမံထားရန် အကြံပြုသော်လည်း 'သပိတ်ဝတ္ထုကံ'ကိုသာ စွဲစွဲမြဲမြဲ ကျင့်သုံးခဲ့သည်။

၁၉၃၃ ခုနှစ်တွင် အတိသုဒ္ဓါရုံဆရာတော်ထံမှ သက္ကတဘာသာ ကို ဆိုဝါဖြင့် သင်ယူသည်။ မြန်မာအလင်္ကာကျမ်း (၁၉၂၈) ပဋ္ဌမ ထွန့်ခေါင်ဆရာတော်ဘုရားကြီး အတ္ထုပ္ပတ္တိ (၁၉၃၁) စာဏကျနီတိ မြန်မာပြန် (၁၉၃၃) တို့ ပြုစုသည်။ ၁၉၃၆ ခုနှစ်တွင် သံဃာ ၂၀ ခန့်ဖြင့် စစ်ကိုင်းတောင် ရွှေဟင်္သာတိုက်သစ်ကို ပရိယတ္တိစာသင်တိုက် အဖြစ် စတင်ခဲ့သည်။ တိုက်တာအုပ်ချုပ်ပုံ၊ စာပေပို့ချပုံကို ညောင်တုန်း ရွှေဟင်္သာတောရကို စံပြုသည်။ ၁၉၃၉ ခုနှစ်တွင် ပါဠိ စကားပြော

အဖွဲ့ကို ဖွဲ့စည်း၍ အနီးစခန်းဆရာတော် ရှင်ပဏ္ဍိတ၊ အောင်မြေဘုံစံ ဆရာတော် ရှင်ဉာဏုတ္တရ တို့နှင့်အတူ ဦးဆောင်ခဲ့သည်။ ၁၉၄၂—၄၅ ဂျပန်ခေတ်တွင် ငါးဇွန်မြို့ သိမ်တော်ကျောင်း၊ စစ်ကိုင်းတောင် ဝိဇ္ဇောဒယ ချောင်တို့၌ စစ်ဘေးရှောင်စဉ် မေတ္တာသုတ်မြန်မာဋီကာ (၁၉၄၂) ပဒေသာဆုံးမစာ (၁၉၄၃) ဝိပဿနာကျမ်း။ စစ်ပြီးကာလတွင် ရွှေ့သွား မင်္ဂလာ (၁၉၄၉) မင်္ဂလသုတ်လက်စွဲ (၁၉၅၀) ပရာဘဝသုတ် မြန်မာ ဋီကာ (၁၉၅၄) ရေးခဲ့သည်။ ၁၉၅၄ ခုနှစ်တွင် ကမ္ဘာအေးကုန်းမြေ၌ ကျင်းပသည့် ဆဋ္ဌသင်္ဂါယနာပွဲတွင် ပါဠိဝိသောဓက အဖွဲ့ဝင်အဖြစ် ဝိနယမဟာဝဂ္ဂ ပါဠိတော်ကို ဦးဆောင်စီစစ်ခဲ့သည်။ ရွှေဟင်္သာတောရ သမိုင်း (၁၉၅၅) ဂရုဓမ္မဝတ္ထု (၁၉၅၅) ရွှေကျင်နိကာယ သာသနာဝင် ကျမ်း (၁၉၆၂) ရွှေကျင်နိကာယသာသနာဝင်အကျဉ်း (၁၉၆၄) ယုဝေါ ဝါဒဆုံးမစာ (၁၉၆၄) ကာယနုပဿနာ (၁၉၇၀) သာသနာတော်ရေး တရားတော် (၁၉၇၄)၊ အမတဂါမိနီ (၁၉၇၄) စသော ကျမ်းများပြုစု သည်။

၁၉၅၂ ခုနှစ် အဋ္ဌမအကြိမ် ရွှေကျင်ဂိုဏ်းလုံးဆိုင်ရာ အစည်း အဝေးမှ စတင်၍ ရွှေကျင်ဂိုဏ်းလုံးဝန်ဆောင် အဖွဲ့ဝင်။ ၁၉၇၅ ခုနှစ် ဒသမအကြိမ် ရွှေကျင်ဂိုဏ်းလုံးဆိုင်ရာ အစည်းအဝေးမှ တွဲဘက် ရွှေကျင်သာသနာပိုင်၊ ၁၉၇၆ ခုနှစ် ညောင်တုန်း ရွှေဟင်္သာတောရတိုက် ၇၅ နှစ်မြောက် စိန်ရတုသဘင်မှ ရွှေဟင်္သာဝံသ သံဃမဟာနာယက ဓိပတိဘွဲ့ ဆက်ကပ်ခံရသည်။ ၁၉၈၉ ခုနှစ်တွင် ၁၁ ကြိမ်မြောက် ရွှေကျင်သာသနာပိုင် ကြေးမြင်ဆရာတော် ရှင်ဇောတ္ယာဘိဝံသ (၁၈၈၅— ၁၉၈၉) ပျံလွန်ရာ ဒွါဒသမ ရွှေကျင်သာသနာပိုင် ဖြစ်လာသည်။

နိုင်ငံတော်အစိုးရက ၁၉၆၀ ပြည့်နှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့၊ ၁၉၇၈ ခုနှစ်တွင် အဘိဇမဟာရဋ္ဌဂုရုဘွဲ့၊ ၁၉၉၂ ခုနှစ်တွင် အဘိဇ အဂ္ဂမဟာသဒ္ဓမ္မဇောတိက ဘွဲ့များ ဆက်ကပ်ခဲ့သည်။

၁၉၈၃ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု၊ ၁၉၈၄ ခုနှစ်တွင် အိန္ဒိယ၊ ၁၉၈၆ ခုနှစ်တွင် ထိုင်းနိုင်ငံ၊ ၁၉၉၀-၉၁ ခုတွင် ထိုင်း၊ စင်္ကာပူ၊ မလေးရှား၊ ၁၉၉၂ တွင် အမေရိကန်ပြည်ထောင်စုသို့ သာသနာပြုခရီး ကြွ၍ ပြည်တွင်းပြည်ပ ခရီးသွားမှတ်တမ်းများ ပြုစုခဲ့သည်။ အထင်ရှား ဆုံးမှာ ရွှေကျင်နိကာယသာသနာဝင်အကျယ်နှင့် အကျဉ်းဖြစ်သည်။

သက်တော် ၁၀၁ နှစ်၊ ၁၀ လ၊ ၉ ရက်၊ သိက္ခာ ၈၂ ဝါအရ ၁၉၉၅ ခုနှစ်၊ အောက်တိုဘာလ၊ ၉ ရက်၊ တနင်္လာနေ့၊ ညနေ ၄း၅၅ နာရီတွင် တစ်ဘဝ တစ်ခန္ဓာ ချုပ်ငြိမ်းခဲ့ပါသည်။





## ဝေဘူဆရာတော်
## ရှင်ကုမာရ
(၁၈၉၆ — ၁၉၇၇)

မြန်မာနိုင်ငံ ပဋိပတ္တိသာသနာဝင်တွင် 'ရဟန်းကိစ္စ ပြီးမြောက်သည်' ဟု ရှင်လူအများ၏ ယုံကြည်ခြင်းခံရသည်။ ရဟန္တာဟု ထင်ရှားခဲ့သော ညောင်လွန့်တောရဆရာတော် ရှင်မေဓာဝီထံ နည်းနိဿယခံ၍ ညောင်လွန့်တောရဆရာတော်ကဲ့သို့ပင် ပျံလွန်သည့်တိုင် ဆွမ်းခံဝတ်ကို အလေးထား ကျင့်သုံးခဲ့သည်။ ၁၉၅၀ ဝန်းကျင်က ဗုဒ္ဓသာသနာပြု အီတလီ ရဟန်းတော် ဦးလောကနာထ သည် ဝေဘူဆရာတော်ကို ဖူးမျှော်၍ ရဟန္တာ ဟုတ် မဟုတ် မေးမြန်းရာ "တို့များ ခရီးသွားပုဂ္ဂိုလ်ပါဗျား" ဟု ဖြေခဲ့သည်။ ထို့နောက် ဆက်၍ "လမ်းမှာ ရတနာရွှေငွေ ကျောက်သံပတ္တမြားတွေ တွေ့ရင် ပြောပ့ါမလား" ဟု ပြန်လည်မေးမြန်းရာ ဦးလောကနာထ က 'မပြောပါဘူး' ဟု ဖြေလျှင် 'အေးဗျာ၊ ဒီလိုပါပဲ' ဟု မိန့်ခဲ့သည်။ ဤသတင်း နေရှင်းအင်္ဂလိပ်သတင်းစာတွင် ပါလာရာ ရဟန္တာဟု ထင်ရှားကျော်ကြားခဲ့သည်။ ကျောက်ဆည် ဝေဘူချောင်၊ ဇာတိ အင်ကြင်းပင်ရွာနှင့် ရွှေဘို အောင်မြေရိပ်သာတို့၌ လေးလစီ လှည့်လည်သီတင်းသုံး၍ ဝေဘူဆရာတော်၊ အင်ကြင်းပင်ဆရာတော်၊ ရွှေဘိုအောင်မြေဆရာတော် ဟု အမည်တွင်ခဲ့သည်။ ပဋိပတ္တိအမွေခံ ထင်ရှားသော တပည့်တစ်ဦးမှာ ရန်ကုန် အင်းလျားမြိုင် အပြည်ပြည်ဆိုင်ရာ ပဋိပတ္တိလုပ်ငန်းဌာနကို ဦးဆောင် တည်ထောင်သူ ငွေစာရင်းမင်းကြီး ဦးဘခင် ဖြစ်သည်။

ကုမာရ၊ ရှင်၊ ဝေဘူဆရာတော် —

၁၈၉၆ ခုနှစ် ဖေဖော်ဝါရီလ ၁၇ ရက် တနင်္လာနေ့တွင် ရွှေဘိုခရိုင် ခင်ဦးမြို့နယ် အင်ကြင်းပင်ရွာ၌ ဖွားသည်။ အဖ ဦးလူဖေ၊ အမိ ဒေါ်ကျင်နု ဖြစ်သည်။ မွေးချင်း လေးယောက်တွင် အကြီးဆုံး။ ငယ်မည် မောင်ကျော်ထွန်း ဖြစ်သည်။

အင်ကြင်းပင်ရွာ အင်ကြင်းပင်ကျောင်းဘုန်းကြီး ရှင်သုမန (၁၈၆၄—၁၉၂၈) ထံ စတင် ပညာသင်သည်။ ၁၀ နှစ်အရွယ်တွင် မိဘနှစ်ပါးက ရှင်ဒါယကာခံ၍ သာမဏေဖြစ်သည်။ ဘွဲ့ ရှင်ကုမာရ။ ဥပဇ္ဈာယ်ဆရာမှာ ရှင်သုမန ဖြစ်သည်။ ၁၃ နှစ်တွင် မန္တလေးမြို့ အင်စပက်တော် ဦးရီး ဦးရွှေလူ မိသားစုက ထပ်မံ ရှင်ပြုပေးသည်။ ၁၇ နှစ်တွင် ရှင်လိင်ပြန်၍ ကျောင်းစာရေးအဖြစ် နေခဲ့သည်။ ၁၈ နှစ်တွင် တတိယအကြိမ် ထပ်မံ သာမဏေပြုသည်။ ၁၉၁၅ ခုနှစ်တွင် ကံဆွယ်တောရဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဖြစ်သည်။ ဘွဲ့ ရှင်ကုမာရ ဖြစ်သည်။

ရဟန်း ၃ ဝါရသည်တိုင် ငယ်ဆရာ ရှင်သုမနထံ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာများ ဆက်လက်သင်ယူသည်။ ၁၉၁၈ ခုနှစ်တွင် မန္တလေးမြို့ မစိုးရိမ်ကျောင်းတိုက် မမွနယုပဒေသကျောင်း၌ သီတင်းသုံး၍ မစိုးရိမ်ဆရာတော် ရှင်သောမ (၁၈၇၇—၁၉၃၉)၊ မစိုးရိမ်ဆရာတော် ရှင်သူရိယ (၁၈၇၉—၁၉၇၅)၊ မစိုးရိမ်စာချ ပထမကျော် ရှင်ဉာဏ (၁၈၈၃—၁၉၃၇) တို့ထံ ပရိယတ္တိစာပေများ သင်ယူသည်။ ရဟန်း ၅ ဝါရတွင် ငယ်ဆရာရင်းထံ ပြန်၍ အင်ကြင်းပင်ကျောင်း၌ ရဟန်းသာမဏေ ကျောင်းသားများကို စာပေပို့ချ စောင့်ရှောက်သည်။ အားလပ်ချိန်တွင် ရှင်သုမနထံ ဝိသုဒ္ဓိမဂ်ကို ဒုတိယအကြိမ် ထပ်မံ သင်ယူလေ့လာသည်။ ပင်ကိုယ်စိတ်ဓာတ်အခံ၊ ဆရာရင်း ရှင်သုမန၏ လှုံ့ဆော်မှုကြောင့် ပဋိပတ္တိ ကျင့်ကြံအားထုတ်ရန် စိတ်ညွတ်လာသည်။ ရဟန်း ၉ ဝါရတွင် ဆရာ၏ ခွင့်ပြုချက်အရ သပိတ် တစ်လုံး သင်္ကန်းသုံးထည်ဖြင့် တောထွက်ခဲ့သည်။

ပထမဦးစွာ ရွှေဘိုမြို့ ပုသိမ်တောရ ကမ္မဋ္ဌာန်းတိုက် ဆရာတော်ထံ ချဉ်းကပ်၍ တစ်ဝါနည်းခံ ကျင့်ကြံအားထုတ်သည်၊ ဝါကျွတ်လျှင် ရွှေဘိုမှ စစ်ကိုင်း၊ စစ်ကိုင်းမှ ရမည်းသင်း ညောင်လွန့်တောရဆရာတော် ရှင်မေဓာဝီ

ထံ နည်းခံအားထုတ်သည်။ ညောင်လွန့်တောရဆရာတော် ရှင်မေဓာဝီ (၁၈၆၈—၁၉၃၃) မှာ ရဟန္တာဟု ထင်ရှား၍ ပရိယတ် ပဋိပတ် စွယ်စုံ ထက်မြက်သည်။ ညောင်လွန့်မှတစ်ဖန် မင်းဘူး ရွှေစက်တော်သို့ ခရီး ဆက်ရာ လမ်းခရီးတွင် လေနာရောဂါ ရသည်။ မီးရထားခရီးသွား ဒါယကာ တစ်ဦးက လေနာရောဂါကို ကျောက်ဆည်မြို့ ဝေဘူချောင် ဓမ္မရှော ရေတွင်းမှရေကို သောက်သုံးပါက ပျောက်ကင်းနိုင်ကြောင်း လျှောက်ထား၍ ကျောက်ဆည်ကို မီးရထားဖြင့် ပြန်ခဲ့သည်။ ၁၉၂၄ ခုနှစ် မေလ ၁၂ ရက်နေ့တွင် ကျောက်ဆည်ရောက်သည်။ ဝေဘူချောင် ဓမ္မရှောရေတွင်းမှ ရေကို သောက်သုံးရာ လေနာရောဂါ ပျောက်ကင်းခဲ့သည်။ ဝေဘူချောင် လိုဏ်ဂူများတွင် သီတင်းသုံး၍ ပဋိပတ္တိကို ကျင့်ကြံအားထုတ်ရာ ဒါယကာ ၄ ဦး စုပေါင်း၍ နေ့ချင်းပြီး တဲကျောင်းဆောက် လှူဒါန်းသည်။ ဝါတွင်း တဲကျောင်း၌ သီတင်းသုံး၍ အနီးရှိ အင်္ဂလိပ်သချိုင်း၌ သုသာန်ဓုတင် ဆောင်သည်။ ဝါကျွတ်သော် စက်သူဌေး ဦးပျော့၊ လူပြန်တော် ဆရာသိန်း တို့ ပင့်ဆောင်၍ ဝေဘူချောင် ပြောင်းရွှေ့ သီတင်းသုံးသည်။

ကျောက်ဆည်ဝေဘူချောင်၌ ကျင့်ကြံအားထုတ်နေစဉ် မိခင် ကွယ်လွန်သည်။ ဖခင်လိုက်လာ၍ အင်ကြင်းပင်ကို ပင့်ရာ အကြိမ်ကြိမ် ငြင်းပယ်သည်။ ၁၉၂၇ ခုနှစ်တွင် ကျောက်ဆည်စက်ပိုင် ဦးပျော့၏ အကြံပေးချက်အတိုင်း ဖခင်ကိုယ်တိုင် ဝေဘူချောင်၌ ရဟန်းဝတ်ပြီး ပင့်ဆောင်မှ အင်ကြင်းပင်သို့ ကြွရောက်သည်။ ဝေဘူဆရာတော်၏ ဖခင် ရဟန်းခံပွဲ၌ စွန်းလွန်းဆရာတော်ကို ပင့်သည်။ သိမ်သမုတ်ပွဲ၌ ညောင်လွန့် တောရ ဆရာတော်၊ မိတ္ထီလာရေလည်ဆရာတော်၊ မူလပုသိမ်ဆရာတော်၊ သိမ်တောင်ဆရာတော်တို့ ပါဝင်ခဲ့သည်။ အင်ကြင်းပင်တွင် ငယ်ဆရာတော် ထံ သီတင်းသုံး၍ ဆွေမျိုး ဒါယကာ ဒါယိကာမများကို တရားဟော ပြောကာ ကမ္မဋ္ဌာန်းအားထုတ်စေသည်။ ရှင်ကုမာရ တောထွက်ကျင့်ကြံ အားထုတ်သည်မှာ ၃ နှစ်ခန့်သာရှိသေး၍ ရှင်ကုမာရ၏ တရားပြသမှုကို ပတ်ဝန်းကျင် ရဟန်းသံဃာများက သံသယမကင်းဖြစ်နေသည်။ သို့သော် ရှင်ကုမာရ၏ ဣန္ဒြေသွင်ပြင်လက္ခဏာ၏ အေးချမ်းတည်ကြည်မှု၊ တရားထူး ရမှုကို ငယ်ဆရာတော်ကိုယ်တိုင် ယုံကြည်၍ တပည့်ထံမှ ကိုယ်တိုင် နည်းခံ ကျင့်ကြံအားထုတ်သည်။ တပည့်ဒါယကာများ၊ ရဟန်းရှင်လူများကိုလည်း

အားထုတ်စေသည်။ တရားကျင့်ကြံအားထုတ်နေစဉ် ၁၉၂၈ ခုနှစ် ဖေဖော်ဝါရီလ ၂၆ ရက် တနင်္ဂနွေနေ့တွင် ငယ်ဆရာရင်း အင်ကြင်းပင်ဆရာတော် ပျံလွန်တော်မူရာ ရှင်ကုမာရသည် အင်ကြင်းပင်ကျောင်းတိုက် နာယက တင်မြှောက်ခံရသည်။ အင်ကြင်းပင်ကျောင်း၌ ကမ္မဋ္ဌာန်းတရားပြသရာ ဒုလ္လဘရဟန်း ၈၀ ကျော်၊ လူပုဂ္ဂိုလ် ၂၀၀ ကျော် ညစဉ် ကျင့်ကြံအားထုတ်ခဲ့သည်။

၁၉၂၈ ခုနှစ် ဝါကျွတ်ချိန်တွင် ကျောက်ဆည်မှ စက်ပိုင်ဦးပျော့နှင့် ဒါယကာများ ရောက်လာ၍ နှစ်ဘက်ဒါယကာများ ညှိနှိုင်းကာ နှစ်စဉ် အင်ကြင်းပင် ကမ္မဋ္ဌာန်း၌ ၆ လ၊ ဝေဘူချောင်၌ ၆ လ သီတင်းသုံးရန် သဘောတူညီကြသည်။ ထိုအချိန်မှစ၍ အင်ကြင်းပင် ကမ္မဋ္ဌာန်းကျောင်းနှင့် ကျောက်ဆည် ဝေဘူချောင်၌ တစ်လှည့်စီ ၆ လ သီတင်းသုံး ပဋိပတ္တိ သာသနာပြုခဲ့သည်။ ၁၉၅၀ ပြည့်နှစ် နိုဝင်ဘာလ ၂၉ ရက်နေ့တွင် ရွှေဘိုမြို့ ရှေ့နေ ဦးအုန်းဖေ၊ ရတနာသိယ်စက်သူဌေး ဦးထွန်းဖေ စသော ဒါယကာများ တောင်းပန်၍ ရွှေဘိုမြို့ အောင်မြေရိပ်သာ၌ ၄ လခွဲ၍ သီတင်းသုံးခဲ့သည်။ နှစ်စဉ် ကမ္မဋ္ဌာန်းဌာန ၃ နေရာ လှည့်လည်သီတင်းသုံးရာ ဝေဘူဆရာတော်၊ အင်ကြင်းပင်တောရဆရာတော်၊ ရွှေဘိုအောင်မြေဆရာတော် ဟု အမည်တွင်ခဲ့သည်။ အကျင့်သိက္ခာသီလ သမာဓိ လွန်ကဲ၍ ရဟန်းရှင်လူအများ၏ 'ရဟန္တာ' ဟု ယုံကြည်မှုခံရသည်။

၁၉၅၃ ခုနှစ် ဇူလိုင်လ ၅ ရက်နေ့တွင် ရန်ကုန်မြို့ အင်းလျားမြိုင် အပြည်ပြည်ဆိုင်ရာ ပဋိပတ္တိလုပ်ငန်းဌာန တည်ထောင်သူ ငွေစာရင်းမင်းကြီး ဦးဘခင်၏ တောင်းပန်လျှောက်ထားချက်အရ ပထမဆုံးအကြိမ် ရန်ကုန်မြို့သို့ ကြွရောက်၍ ၇ ရက် ပဋိပတ္တိသာသနာပြုသည်။ ၁၉၅၄ ခုနှစ်တွင် သမ္မဟောင်း စပ်ရွှေသိုက်၊ မြန်အောင် ဦးတင်၊ ဝတ်လုံတော်ရ ဦးကျော်မြင့်၊ အမြတ်ခွန်မင်းကြီး ဦးစံသိန်း၊ မီးရထား ငွေစာရင်းမှူးချုပ် ဦးသိန်းညွန့်၊ မီးရထားမင်းကြီး ဦးကြည်ဝင်း တို့ ပါဝင်သော 'ဝေဘူဆရာတော်ပင့်ဆောင်ရေး' အဖွဲ့ လျှောက်ထားတောင်းပန်၍ ရန်ကုန်မြို့ တက္ကသိုလ်ဓမ္မာရုံ၌ သီတင်းသုံးကာ ကမ္မဋ္ဌာန်းတရားများ ဟောကြားသည်။ ရန်ကုန်မြို့တွင်း လှည့်လည်၍ ဆွမ်းခံ၊ အပ္ပဇော်ခံ ကြွခဲ့သည်။ ရန်ကုန်မြို့မှတဆင့် မြစ်ဝကျွန်းပေါ် မြို့ရွာအသီးသီးတို့ တရားလှည့်လည် ဟော

ပြောသည်။ ဆဋ္ဌသင်္ဂါယတနာ တင်ပွဲကိုလည်း တက်ရောက်ခဲ့သည်။ ပထမနေ့တွင် ဧည့်သည်တော်ခန်းမ၊ ဒုတိယနေ့၌ မစိုးရိမ်ဆရာတော် ရှင်သူရိယနှင့်အတူ အလယ်ထပ်၊ တတိယနေ့တွင် သင်္ဂါယနာ နာယက ကျောင်းရမ်းဆရာတော် ရှင်ရေဝတနှင့်အတူ အမြင့်ဆုံးနေရာ၌ နေရာပေး ခံရသည်။

၁၉၅၇ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်နေ့တွင် အီတလီဘုန်းတော်ကြီး ရှင်လောကနာထ (၁၈၉၇—၁၉၆၆)၊ ရှင်သုမန၊ မီးရထားစာရင်းစစ်ချုပ် တပည့်ရင်း ဦးသိန်းညွန့်တို့နှင့်အတူ သီရိလင်္ကာနိုင်ငံကို ရေလမ်းမှ ကြွရောက်သည်။ သီရိလင်္ကာနိုင်ငံ ဒုတိယမြောက်ဝန်ကြီးချုပ်၏ ညီ အထက်လွှတ်တော်အမတ် ဂျက်ဆတင်ကိုတီလားဝါးလား မိသားစု၏ ပင့်ဖိတ်ချက်အရ ကြွရောက်ခြင်းဖြစ်သည်။ သီရိလင်္ကာနိုင်ငံတွင် စွယ် တော်မြတ်နှင့် ရှေးဟောင်းသာသနိက နေရာများ လှည့်လည်ဖူးမျှော်၍ တရားဟောပြောခဲ့သည်။ ဝေဘူဆရာတော်က မြန်မာလိုဟော၍ ဦးသိန်းညွန့် က အင်္ဂလိပ်ဘာသာပြန်၊ သီရိလင်္ကာ စကားပြန်တစ်ဦးက သီဟိုဠ်ဘာသာ ပြန်ဆိုခဲ့သည်။ သီရိလင်္ကာမှတဆင့် အိန္ဒိယနိုင်ငံ ဗုဒ္ဓဂါယာနှင့် ဗုဒ္ဓသာသန သမိုင်းဝင်ဒေသများ လှည့်လည် ဖူးမျှော်ကာ ၁၉၅၈ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက်နေ့တွင် ရန်ကုန်မြို့သို့ ပြန်လည်ရောက်ရှိသည်။

ဝေဘူဆရာတော်သည် နွေရာသီ လေးလကို အင်ကြင်းမြိုင်၊ မိုးရာသီ လေးလကို ကျောက်ဆည်ဝေဘူချောင်၊ ဆောင်းလေးလကို ရွှေဘို အောင်မြေရိပ်သာ၌ သီတင်းသုံး၍ ကိုယ်တိုင် ကမ္မဋ္ဌာန်းကို ကျင့်ကြံ အားထုတ်၊ ယောဂီ၊ ဒုလ္လဘရဟန်းများကိုလည်း ကမ္မဋ္ဌာန်းပေးခြင်းဖြင့် ပဋိပတ္တိသာသနာပြုသည်။ ၁၉၆၅ ခုနှစ်တွင် ငွေစာရင်းမင်းကြီး၊ အင်းလျားမြိုင် အပြည်ပြည်ဆိုင်ရာ ပဋိပတ္တိဌာန၏ ကမ္မဋ္ဌာန်းဆရာကြီး ဦးဘခင်နှင့် တပည့်ဖြစ်သူ မန္တလေးတက္ကသိုလ် ဒုတိယ အဓိပတိဟောင်း ဦးကိုလေး (ဇေယျာမောင်) တို့ ဝေဘူဆရာတော်ထံ ဒုလ္လဘရဟန်းပြု၍ ပဋိပတ္တိ နည်းနာနိဿယ ခံယူသည်။ ဝေဘူဆရာတော်သည် ပဋိပတ္တိကိုသာ ကျင့်ကြံ အားထုတ်ခဲ့သည်။ ပရိယတ္တိဆိုင်ရာ စာပေကျမ်းဂန် မပြုစုခဲ့ချေ။ သို့သော် ဆရာတော် ဟောကြားခဲ့သော တရားတော်များကို ပျံလွန်ပြီးနောက် ပြန်လည်စုစည်း၍ စာအုပ်များ ထုတ်ဝေခဲ့သည်။ ၁၉၉၂ ခုနှစ်တွင် ဆရာကြီး

ဦးဘခင်၏တပည့် ရော်ဂျာဘစ်ချော့က အင်္ဂလိပ်ဘာသာပြန်၍ "Selected Discourses of Webu Sayadaw" (ဝေဘူဆရာတော်၏ လက်ရွေးစင် တရားများ) အမည်ဖြင့် အင်္ဂလိပ်ဘာသာဖြင့် ထုတ်ဝေ ဓမ္မဒါနပြုခဲ့သည်။

ရဟန္တာဟု ထင်ရှားသော ဝေဘူဆရာတော်သည် သက်တော် ၈၃ သိက္ခာ ၆၃ ဝါအရ၊ ၁၉၇၇ ခုနှစ် ဇွန်လ ၂၆ ရက် တနင်္ဂနွေနေ့ ည ၇း၃၀ နာရီတွင် ခင်ဦးမြို့နယ် အင်ကြင်းပင်ကျေးရွာ ကမ္မဋ္ဌာန်းကျောင်းတိုက်၌ ခန္ဓာဝန်ချခဲ့ပါသည်။





## ကမ္ဘာ့ဗုဒ္ဓသာသနာပြု
## ဆရာတော်
## ရှင်သေဋ္ဌိလ
(၁၈၉၆ — ၁၉၉၇)

ဒုတိယကမ္ဘာစစ်မတိုင်မီ မြန်မာရဟန်းတော်များထဲက အင်္ဂလန်တွင် ဗုဒ္ဓသာသနာပြုရန် ပထမဆုံး ကြိုးပမ်းခဲ့သူ၊ ဗုဒ္ဓဘာသာဝင် တစ်ဦးတစ်ယောက် တစ်သင်းတစ်ဖွဲ့၏ ကူညီထောက်ပံ့မှုမျှ မရဘဲ ခိုင်မာသော ဆုံးဖြတ်ချက်၊ ပြင်းပြသော ဇွဲလုံ့လ၊ ထက်သန်သော ဉာဏ်ဝီရိယကို အရင်းတည်လျက် စွန့်စွန့်စားစား သာသနာပြုခဲ့သူ။ ဗုဒ္ဓဘာသာ ရဟန်းတစ်ပါးအနေဖြင့် ဒုတိယကမ္ဘာစစ်အတွင်း အင်္ဂလန်တွင် အခက်အခဲ အမျိုးမျိုးကို ရင်ဆိုင်ပြီး ဗုဒ္ဓသာသနာ ဖြန့်ချီပေးခဲ့သည်။ ၁၉၅၂ ခုနှစ်တွင် မြန်မာနိုင်ငံအစိုးရ၏ လျှောက်ထားချက်အရ ရန်ကုန်တက္ကသိုလ်၌ အဘိဓမ္မာကထိကအဖြစ် ၈ နှစ် တာဝန်ယူ၍ ဗုဒ္ဓတရားတော်များကို အင်္ဂလိပ်ဘာသာဖြင့် ပို့ချခဲ့သည်။ ကမ္ဘာအေး သံဃာ့တက္ကသိုလ်နှင့် ဓမ္မဒူတသင်တန်းများတွင်လည်း ကထိကချုပ်အဖြစ် သာသနာပြုရဟန်း တော်များအား အင်္ဂလိပ်ဘာသာဖြင့် သင်တန်းပေးခဲ့သည်။ ၁၉၆၄ ခုနှစ်တွင် လန်ဒန်ပါဠိအသင်းကြီး၏ မေတ္တာရပ်ခံချက်အရ အဘိဓမ္မာ ပိဋကဝိဘင်းပါဠိတော်ကို အင်္ဂလိပ်ဘာသာပြန်ဆိုရန် အင်္ဂလန်သွားရောက်ခဲ့သည်။ ၁၉၆၄ မှ ၁၉၇၈ ခုနှစ်တိုင် ကမ္ဘာ့ဗုဒ္ဓဘာသာ သာမဂ္ဂီ အသင်းကြီး၏ ဒုတိယဥက္ကဋ္ဌအဖြစ် ရွေးချယ်ခံရသည်။ သက်တော် ၉၀ ကျော်သည့်တိုင် ဥရောပ၊ အမေရိက၊ သြစတြေးလျ၊ အာရှနိုင်ငံတွင် ဟောပြောပို့ချ ဆွေးနွေးခဲ့ရာ ကမ္ဘာ့ဗုဒ္ဓသာသနာပြု ဆရာတော်အဖြစ် မော်ကွန်းတင်ရစ်ပါသည်။

သေဋ္ဌိလ၊ ရှင်၊ ကမ္ဘာ့ဗုဒ္ဓသာသနာပြုဆရာတော် —

၁၈၉၆ ခုနှစ် ဇူလိုင်လ ၁၀ ရက် သောကြာနေ့တွင် မန္တလေးတိုင်း ပျော်ဘွယ်မြို့နယ် ပုတီးကုန်းရွာ၌ ဖွားသည်။ အဖ တောင်သူ ဦးအေး၊ အမိ ဒေါ်ထွေး ဖြစ်သည်။ မွေးချင်း ၃ ယောက်တွင် အငယ်ဆုံးဖြစ်သည်။ အမည် မောင်ခင် ဖြစ်သည်။

အသက် ၇ နှစ်တွင် ပုတီးကုန်းရွာကျောင်း ရှင်ကဝိန္ဒထံ ပညာသင်သည်။ ၁၃ နှစ်တွင် သာမဏေဖြစ်သည်။ ဘွဲ့ ရှင်သေဋ္ဌိလ ဖြစ်သည်။ ရှင်ကဝိန္ဒ ထံ အဘိဓမ္မာသင်္ဂဟ၊ ကစ္စာယန သင်ယူသည်။ ရှင်ကဝိန္ဒမှာ ရမည်းသင်းနယ် ဝိနည်းအကျော် မိုးနံကုန်းဆရာတော် ရှင်ဇေယျန္တ (၁၈၄၇—၁၉၁၃) ၏ ပိဋကပတ်နည်းခံတပည့်ဖြစ်၍ သာမဏေများကို သတိပဋ္ဌာန် ပါဠိတော် ပို့ချလေ့ရှိသည်။ သာမဏေ ၁ ဝါရတွင် ဥပဇ္ဈာယ်ဆရာ တောရ ဆောက်တည်ရာ လိုက်ပါ၍ အာနာပါနကမ္မဋ္ဌာန်း ၁၀ လခန့် အားထုတ်ခဲ့သည်။

သာမဏေ ၂ ဝါရတွင် ဥပဇ္ဈာယ်ဆရာက တောင်ငူ ဇေတဝန်စာသင်တိုက် ရှင်သုန္ဒရ ထံ အပ်နှံ၍ ပရိယတ္တိစာပေ သင်ယူစေသည်။ သဒ္ဒါ သင်္ဂဟ၊ ဘေဒစိန္တာ၊ ဆန်းကျမ်းတို့ကို နေ့ဝါ။ ပုဒ်စစ် မာတိကာ ဓာတုကထာကို ညဝါအဖြစ် သင်ယူသည်။ တောင်ငူမြို့ ပရိယတ္တိစာပြန်ပွဲ အငယ်တန်း၊ အလတ်တန်း၊ မိတ္ထီလာစာပြန်ပွဲ အလတ်တန်း၊ ရန်ကုန် နှစ်ကျိပ်ရှစ်ဆူစာပြန်ပွဲ အငယ်တန်းစာမေးပွဲများ အောင်မြင်ခဲ့သည်။

၁၉၁၃ ခုနှစ် သာမဏေ ၄ ဝါရတွင် မန္တလေးမြို့ မစိုးရိမ်စာသင်တိုက် ပြောင်း၍ ပရိယတ္တိစာပေ သင်ယူသည်။ မစိုးရိမ်စာချ ရှင်သောမ၊ ရှင်သူရိယ၊ ရှင်ဉာဏတို့ထံ နည်းခံသည်။ အထူးသဖြင့် စာချ ရှင်အာဒိစ္စဝံသ (နောင် ဆရာကြီး ဦးအောင်မြတ်ထွတ်) ကို ဓမ္မာစရိယဆရာပြု၍ ရူပသိဒ္ဓိ၊ ကစ္စာယန သဒ္ဒဝုတ္တိ သဒ္ဒဗိန္ဒု ဆန်း အလင်္ကာ ဒွေမာတိကာ ယမိုက်ပဋ္ဌာန်း ကျမ်းများ သင်ယူသည်။ စာချပထမကျော် မစိုးရိမ် ရှင်ဉာဏမှာ အင်္ဂလိပ် ဘာသာ ကျွမ်းကျင်၍ နိုင်ငံခြား ဗုဒ္ဓသာသနာပြုအသင်း၏ ဒု-ဥက္ကဋ္ဌ ဖြစ်ရာ ရှင်သေဋ္ဌိလ၏ အားကျရာ ဆရာတော်တစ်ပါး ဖြစ်ခဲ့သည်။ မစိုးရိမ် တိုက်မှပင် ၁၉၁၄ ခုနှစ်တွင် ပထမပြန်စာမေးပွဲ ပထမငယ်၊ ၁၉၁၅ ခုနှစ် တွင် ပထမလတ် အောင်မြင်ခဲ့သည်။

၁၉၁၅ ခုနှစ်တွင် ဓမ္မာစရိယဆရာရင်း ရှင်အာဒိစ္စဝံသ မော်လမြိုင်မြို့ ကြံခင်းကျောင်းတိုက် ပြောင်းရွှေ့ရာ အတူလိုက်ပါ၍ ပရိယတ္တိစာပေ သင်ယူသည်။ ၁၉၁၅ ခုနှစ် နိုဝင်ဘာလ ၁၇ ရက်နေ့တွင် ကြံခင်းကျောင်းတိုက် သိမ်၌ ရဟန်းဖြစ်သည်။ ဥပဇ္ဈာယ်ဆရာမှာ ရှင်အာဒိစ္စဝံသ။ ရဟန်း ဒါယကာမှာ ဦးဘိုးခင် ဒေါ်ငြိမ်း။ ဘွဲ့ ရှင်သေဋ္ဌိလ ဖြစ်သည်။ ရဟန်းဖြစ်ပြီး ၁၉၁၆ ခုနှစ်တွင် သထုံမြို့ ပါဠိပထမပြန်စာမေးပွဲ ပထမကြီးတန်း ပထမ၊ အစိုးရပထမပြန် ပထမကြီးတန်းများ အောင်မြင်ခဲ့သည်။

၁၉၁၇ ခုနှစ် ရဟန်း ၂ ဝါရတွင် ဥပဇ္ဈာယ်ဆရာ ရန်ကုန်ပြောင်း၍ ရှင်အာဒိစ္စဝံသကျောင်းတိုက် တည်ထောင်ရာ လိုက်ပါကူညီ စာချခဲ့သည်။ ထိုနှစ်မှာပင် ပထမကျော်စာမေးပွဲကို အဆင့်တစ်မှ အောင်မြင်၍ ပထမကျော် ဘွဲ့ရရှိသည်။ ဘွဲ့တံဆိပ်ဆက်ကပ်ရေး အခမ်းအနားနှင့်ပတ်သက်၍ ရှင်အာဒိစ္စဝံသနှင့် ကျောင်းဒကာ ဆာဖိုးသာတို့ သဘောကွဲလွဲရာမှ အခမ်းအနား မကျင်းပဖြစ်ခဲ့ချေ။ ၁၉၁၈ ခုနှစ်တွင် မန္တလေး ပရိယတ္တိ သာသနာ့ဟိတ (သျှကသီဟစာသင်တန်း)၊ ၁၉၂၀ ပြည့်နှစ်တွင် ပရိယတ္တိ သာသနာ့ဟိတ (သကျသီဟ) စာချတန်းအောင်သည်။ သကျသီဟ စာမေးပွဲမှာ အောင်မြင်ရန် ခက်ခဲ၍ ထိုနှစ်ဖြေဆိုသူ ၁၅၀၀ အနက် လေးပါးသာ အောင်မြင်သည်။ မန္တလေးမြို့ မိုးကောင်းတိုက် ညောင်ရမ်းဆရာတော် ရှင်ရေဝတ (၁၈၇၃—၁၉၅၅)၊ ဒက္ခိဏာရာမ ဘုရားကြီးတိုက် စတုတ္ထ သံဃနာယက ရှင်အာစာရ (၁၈၄၄—၁၉၂၅) ခေမာသီဝံတိုက် ဆရာတော်တို့ထံ ၂ နှစ်ခန့် နည်းခံသင်ယူသည်။

၁၉၂၂ ခုနှစ်မှစ၍ ရန်ကုန်မြို့ ရှင်အာဒိစ္စဝံသကျောင်းတိုက် ဒုတိယ နာယက စာချအဖြစ် ပရိယတ္တိ စာပေပို့ချသည်။ ဗဟန်းကျောင်းတော်ရာ ရွှေကျင်တိုက်မှန်ကျောင်း ရှင်ဉာဏိန္ဒာသဘထံ ပါရာဇိကဏ်၊ သီလက္ခန်၊ အဋ္ဌကထာကြီးသုံးကျမ်းကို ထပ်မံသင်ယူသည်။ တစ်ဖက်တွင်လည်း ပုဇွန်တောင်ရပ် ဂရမ်မာဆရာထွား၊ သီဟိုဠ်ပြန် ဆရာသင်တို့ထံမှ အင်္ဂလိပ်စာ သင်ယူသည်။ ထိုအချိန်က ရဟန်းတော်များ အင်္ဂလိပ်စာသင်ခြင်းကို ပတ်ဝန်းကျင်က ပြင်းပြင်းထန်ထန် ဝေဖန်ကဲ့ရဲ့နေချိန်ဖြစ်သည်။ ၁၉၂၄ ခုနှစ်တွင် ဘာသန္တရသင်ကြားရန် အိန္ဒိယနိုင်ငံ သျှန်တိနိကေတန်တက္ကသိုလ် သွားရောက် ပညာဆည်းပူးခဲ့သည်။ တစ်နှစ်ခန့်အကြာ ကျန်းမာရေး

ချို့ယွင်း၍ ပြန်လာသည်။ ရှင်အာဒိစ္စဝံသကျောင်းတိုက်မှာပင် ပရိယတ္တိ စာပေပို့ချခဲ့သည်။

၁၉၃၀ ပြည့်နှစ်တွင် ဘာသန္တရသင်ကြားရန် သီရိလင်္ကာနိုင်ငံသို့ သွားရောက်ခဲ့သည်။ သီရိလင်္ကာတွင် ၃ နှစ် သင်ကြားပြီးနောက် အိန္ဒိယ နိုင်ငံသို့ ဒုတိယအကြိမ် သွားရောက်သည်။ အိန္ဒိယတွင် ဘာသန္တရ သင်ကြားရေးအပြင် သာသနာပြုလုပ်ငန်းအတွက် ကြိုတင်ပြင်ဆင်ခြင်း၊ ဘာသာအယူဝါဒ မျိုးစုံလေ့လာခြင်းတို့ကို ၅ နှစ်မျှ အချိန်ယူဆောင်ရွက် သည်။ ထိုသို့ ဆောင်ရွက်နေစဉ် မဒရပ်သီအိုဆိုဖီအသင်း အတွင်းရေးမှူး၊ စာကြည့်တိုက်မှူး၊ အိန္ဒိယတောင်ပိုင်း ဗုဒ္ဓဘာသာအသင်း ဥက္ကဋ္ဌ၊ ပါရမ်ဘာ အခမဲ့ ဗုဒ္ဓဘာသာစာသင်ကျောင်း အုပ်ချုပ်ရေးတာဝန်များ ပေးအပ်ခံရ သည်။

၁၉၃၈ ခုနှစ်တွင် ဥရောပ၌ ဗုဒ္ဓသာသနာပြုရန် ရည်ရွယ်၍ အိန္ဒိယမှ အင်္ဂလန်ကို ထွက်ခွာခဲ့သည်။ လန်ဒန်ဗုဒ္ဓဘာသာအသင်းတွင် ပထမဆုံး ဗုဒ္ဓဓမ္မကို ဟောပြောခဲ့သည်။ ထို့နောက် ကမ္ဘာ့ဘာသာရေးကွန်ဂရက် ဥက္ကဋ္ဌ ဆာဖရန့်စစ် ယမ်းဟတ်စ်ဗင်၏ ဖိတ်ကြားချက်အရ ပြင်သစ်နိုင်ငံ ပါရီဆောဗွန်းတက္ကသိုလ်၌ ဟောပြောခဲ့သည်။ နောက်ပိုင်းတွင် အင်္ဂလိပ် စကားကျွမ်းကျင်မှု အဆင့်မီရန် လန်ဒန် ပိုလီတက်ကနစ် ဘာသာစကား သင်ကျောင်း၌ ဘာသာဗေဒ၊ သဒ္ဒဗေဒ၊ အဆင့်မြင့် အင်္ဂလိပ်စာအရေး အသား အဟောအပြောသင်တန်းများ တက်ရောက်သည်။ ၁၉၃၉ ခုနှစ်တွင် ဥရောပ၌ စစ်ရိပ်သန်းလာရာ စစ်အတွင်း ကြုံတွေ့လာရမည့် လူမှုကယ် ဆယ်ရေးအတွက် သင်တန်းများ ထပ်မံတက်ရောက်ခဲ့ရသည်။ ဗြိတိသျှ ကြက်ခြေနီအသင်းက ကြီးမှူးသော ရှေးဦးသူနာပြုသင်တန်း၊ အိမ်တွင်း သူနာပြုသင်တန်း၊ လေကြောင်းရန်ကာကွယ်ရေး သင်တန်းများ တက်ရောက် ခဲ့သည်။

၁၉၃၉ ခုနှစ် စက်တင်ဘာလတွင် ဒုတိယကမ္ဘာစစ် ဖြစ်ပွားလာ သည်။ အင်္ဂလန်ရှိ မြန်မာပညာတော်သင်အများစု မြန်မာပြည် ပြန်လာ ကြသည်။ ဆရာရင်း ရှင်အာဒိစ္စဝံသသည် တပည့် ရှင်သေဋ္ဌိလ ပြန်လာ နိုင်ရေးအတွက် ဗြိတိသျှအစိုးရထံ မေတ္တာရပ်ခံသည်။ ဗြိတိသျှ နိုင်ငံခြားရေး ရုံးက အစိုးရစရိတ်ဖြင့် မြန်မာပြည် ပြန်ပို့ရန် စီစဉ်ပေးသော်လည်း ငြင်းပယ်

ခဲ့သည်။ ဥရောပတွင် ဗုဒ္ဓသာသနာပြုရေး ရည်မှန်းချက်ဖြင့် ဒုတိယကမ္ဘာစစ်အတွင်း စစ်ဘေးကယ်ဆယ်ရေး၊ သူနာပြုစောင့်ရှောက်ရေးလုပ်ငန်းများ လုပ်ဆောင်ခဲ့သည်။ စစ်ပြီး ဘီဘီစီ မြန်မာပိုင်းအသံလွှင့်ဌာနနှင့် ဂျေအေစတီးဝပ် ပြုစုနေသော မြန်မာအင်္ဂလိပ် အဘိဓာန်ပြုစုရေးတွင် ဝင်ရောက်ကူညီခဲ့သည်။ ဗုဒ္ဓသာသနာ ပြန့်ပွားရေးအတွက် ဗြိတိသျှ ဗုဒ္ဓဘာသာအသင်း ဥက္ကဋ္ဌ မစ္စတာ ဟန်းဖရေးနှင့် ဆက်သွယ်၍ ဗုဒ္ဓဘာသာတရားပွဲ၊ ဟောပြော၊ ဆွေးနွေးပွဲများ  လက်ခံဆောင်ရွက်သည်။

၁၉၄၈ ခုနှစ်တွင် လန်ဒန်မြို့ မြန်မာသံရုံး ပေါ်ပေါက်လာရာ မြန်မာသံအမတ်ကြီး ဆာမောင်ကြီး၊ အိုင်စီအက်စ်ဦးကာစီ၊ စစ်သံမှူး ဦးထွန်းလှအောင်၊ သံရုံးဝန်ထမ်း သခင်လူမင်းတို့၏ ပံ့ပိုးကူညီမှုဖြင့် ဗုဒ္ဓသာသနာပြုလုပ်ငန်းများ ပိုမိုအရှိန်ရလာသည်။ ဗြိတိသျှ ဥပသကာများ၏ စိတ်ဝင်စားမှုဖြင့် ပါဠိသင်တန်း၊ အဘိဓမ္မာသင်တန်း၊ နိကာယ်သင်တန်းများ ဖွင့်လှစ်ပို့ချသည်။ ၁၉၃၈ ခုနှစ်မှ ၁၉၅၂ ခုနှစ်တိုင် အင်္ဂလန်တွင် သီတင်းသုံး၍ ပြင်သစ်၊ ဂျာမနီ၊ နယ်သာလန်၊ ဘယ်လ်ဂျီယံ၊ ဆွစ်ဇာလန်၊ အီတလီ၊ နော်ဝေ၊ ဆွီဒင်နိုင်ငံများတွင် ဗုဒ္ဓတရားတော်များနှင့် ဘာသာအယူဝါဒရေးရာများ  ဟောပြောဆွေးနွေး  ဖြန့်ဖြူးသည်။

၁၉၅၂ ခုနှစ်တွင် နိုင်ငံတော်အစိုးရ၏ ပင့်လျှောက်ချက်အရ ရန်ကုန်တက္ကသိုလ်၊ ဖီလိုဆိုဖီဌာန အဘိဓမ္မာဌာနခွဲတွင် ကထိကရာထူးကို လက်ခံ၍ ၁၉၆၀ ပြည့်နှစ်တိုင် ဗုဒ္ဓတရားတော်များကို အင်္ဂလိပ်ဘာသာဖြင့် ပို့ချသည်။ ထိုသို့ ပို့ချနေစဉ် ဩစတြေးလျနိုင်ငံသို့ ဗုဒ္ဓသာသနာပြု ၃ ကြိမ် (၁၉၅၄ ခုနှစ်တွင် ပထမအကြိမ်၊ ၁၉၅၆ ခုနှစ်တွင် ဒုတိယအကြိမ်၊ ၁၉၆၂ ခုနှစ်တွင် တတိယအကြိမ်) သွားရောက်ခဲ့သည်။ ၁၉၅၄—၅၆ ဆဋ္ဌသင်္ဂါယနာတွင် ပါဠိဝိသောဓက ဆရာတော်အဖြစ် ပါဝင်ဆောင်ရွက်သည်။ ၁၉၅၅ ခုနှစ်တွင် ဂျပန်နိုင်ငံ မိုဂျီမြို့ ဓမ္မဒူတ ဖွင့်လှစ်နိုင်ရန် အဂ္ဂမဟာပဏ္ဍိတ ရှင်ဉာဏုတ္တရနှင့်အတူ ဂျပန်နိုင်ငံသို့ ကြွရောက်သည်။ ၁၉၅၆ ခုနှစ်မှ စတင်၍ ဗုဒ္ဓသာသနအဖွဲ့ ဓမ္မဒူတ သာသနာပြုသင်တန်း၊ ကမ္ဘာအေးသံဃာ့တက္ကသိုလ်တို့တွင် ကထိကချုပ်အဖြစ် တာဝန်ယူ၍ သာသနာပြုရဟန်းတော်များအား အင်္ဂလိပ်ဘာသာဖြင့် ပို့ချသည်။ ၁၉၅၉ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု အာရှလေ့လာရေးဌာနမှ ဖိတ်ခေါ်၍ အမေရိကန်

တက္ကသိုလ်များတွင် အယူဝါဒရေးရာများကို ၆ လခန့် ဟောပြော ဆွေးနွေးခဲ့သည်။ ၁၉၆၂-၆၃ ခုနှစ်တွင် သာသနာရေးဌာနမှ အင်္ဂလိပ်ဘာသာဖြင့် ထုတ်ဝေသော ဓမ္မအလင်းရောင် (The Light of The Dhamma) စာစောင် အယ်ဒီတာအဖြစ် တာဝန်ယူခဲ့သည်။ အိန္ဒိယ၊ နီပေါလ်၊ မလေးရှား၊ အင်ဒိုနီးရှား၊ ကမ္ဘောဒီးယား၊ ထိုင်းနိုင်ငံများတွင် ကျင်းပသော ကမ္ဘာ့ဗုဒ္ဓဘာသာ သာမဂ္ဂီအသင်း ညီလာခံများကို မြန်မာနိုင်ငံကိုယ်စားပြု တက်ရောက် ဆွေးနွေးခဲ့သည်။ ၁၉၆၄ ခုနှစ်မှ ၁၉၇၈ ခုနှစ်အထိ ကမ္ဘာ့ဗုဒ္ဓဘာသာ သာမဂ္ဂီအသင်းကြီး၏ ဒုတိယဥက္ကဋ္ဌအဖွဲ့ဝင်အဖြစ် တင်မြှောက်ခံရသည်။

၁၉၆၄ ခုနှစ်တွင် လန်ဒန်ပါဠိစာပေအသင်းကြီး၏ လျှောက်ထားချက်အရ အင်္ဂလန်သို့ ကြွ၍ အဘိဓမ္မာပိဋက ဝိဘင်းပါဠိတော်ကို အင်္ဂလိပ်ဘာသာ ပြန်ဆိုပေးခဲ့သည်။ ၁၉၆၆ ခုနှစ်တွင် မြန်မာနိုင်ငံသို့ ပြန်လည်သီတင်းသုံးရာ ၁၉၈၂ ခုနှစ်တိုင် ဖြစ်သည်။ ၁၉၈၂၊ ၁၉၈၃၊ ၁၉၈၅ ခုနှစ်တွင် အင်္ဂလန်သို့ ကြွရောက်၍ အဘိဓမ္မာသင်တန်း၊ ဘာဝနာသင်တန်းများ ပို့ချ ဆွေးနွေးခဲ့သည်။ ရွှေတိဂုံစေတီတော်၊ ဆူးလေစေတီတော်၊ ကမ္ဘာအေးစေတီတော်များ၏ ဂေါပကဩဝါဒါစရိယ၊ အဘိဓမ္မာပြန့်ပွားရေးအသင်း၏ ဩဝါဒါစရိယ၊ နိုင်ငံတော် သံဃာ့မဟာနာယက ဩဝါဒါစရိယ၊ ပိဋကတ်တော်များကို အင်္ဂလိပ်ဘာသာပြန်ဆိုရေးအဖွဲ့ နာယကတာဝန်များကို ထမ်းဆောင်ခဲ့သည်။

၁၉၅၅ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့၊ ၁၉၈၉ ခုနှစ်တွင် အဘိဓဇ မဟာရဋ္ဌဂုရုဘွဲ့၊ ၁၉၉၂ ခုနှစ်တွင် အဘိဓဇအဂ္ဂမဟာသဒ္ဓမ္မဇောတိက ဘွဲ့များ ဆက်ကပ်ခံရသည်။

ပြုစုခဲ့သော ကျမ်းဂန်များမှာ မြန်မာဘာသာဖြင့် အခြေပြု ပဒသိက္ခာ နယူပဒေသကျမ်း။ ဗုဒ္ဓဘာသာနှင့် ကိုယ်ပိုင်နေထိုင်ရေး (၁၉၄၈)၊ ဓမ္မပဒ ပါဠိတော်မြန်မာပြန် (၁၉၄၉)၊ လက်တွေ့အသုံးချ အဘိဓမ္မာတရားတော် (၁၉၉၀)၊ ဗုဒ္ဓဘာသာဝင်လက်စွဲ (မြန်မာပြန်သူ ဒေါ်မြတင်) (၁၉၉၆)၊ ဗုဒ္ဓတရားအဆီအနှစ်များ (မြန်မာပြန်သူ သစ္စာရှင်) (၁၉၉၂)၊ ကမ္ဘာကြီးအတွက် မြတ်ဗုဒ္ဓ (မြန်မာပြန်သူ သစ္စာရှင်) (၂၀၀၂) ဖြစ်၍ အင်္ဂလိပ်ဘာသာဖြင့် Buddhism and the Personal Life (1948)၊ The Book

of Analysis (1969)၊ Essential Themes of Buddhist Lecturers (1985)၊ A Buddha's Companion (1996) တို့ဖြစ်သည်။

ရန်ကုန်မြို့ ရန်ကင်းမြို့နယ် အရှင်သေဋ္ဌိလဗိမာန်ကျောင်းတိုက်၌ သီတင်းသုံးနေစဉ် သက်တော် ၁၀၁ သိက္ခာ ၈၁ ဝါအရ ၁၉၉၇ ခုနှစ် ဇန်နဝါရီလ ၃ ရက် သောကြာနေ့ ညနေ ၆း၁၀ နာရီတွင် မင်္ဂလာဒုံ တပ်မတော်ဆေးရုံကြီး၌ ဘ၀ နိဂုံးချုပ်ငြိမ်းခဲ့ပါသည်။





## နတ်မှီတောရဆရာတော်
## ရှင်ဥက္ကဋ္ဌ
(၁၈၉၇ — ၁၉၇၈)

မြန်မာနိုင်ငံသာသနာဝင်တွင် တော်လှန်သောတွေးခေါ်ရှင်၊ ပဋ္ဌမ ပေပင်အဖြစ် တင်စားခံရကာ တောင်တွင်းကြီး နတ်မှီတောရဆရာတော် အမည်ဖြင့် ထင်ရှားသည်။ ပိဋကတ်၊ ဘာသန္တရ၊ ဒေသန္တရ၊ အယူဝါဒ အတွေးအခေါ်အမျိုးမျိုး ကျွမ်းကျင်နှံ့စပ်၍ 'လူသေလူဖြစ်' ကျမ်းဖြင့် အငြင်းပွားဖွယ် ဒုတိယမြောက် ပကာသနီယကံ ပြုခံရသည်။ ပရိယတ္တိ စာပေကို မန္တလေး၊ အမရပူရ၊ ပခုက္ကူ စာသင်တိုက်ကြီးများတွင် သင်ယူခဲ့သည်။ မဟာဝိသုဒ္ဓါရုံ ရွှေကျောင်တိုက်တွင် ကစားမက်၊ စာတော်၊ ဉာဏ်ထက် ကိုရင်တစ်ပါးအဖြစ် ထင်ရှားသည်။ သာမဏေ ၇ ဝါရတွင် စိန်တင့်ကြီးဝတ္ထုကို ရေးသားခဲ့သည်။ အိန္ဒိယတွင် ၇ နှစ်ခန့် ဘာသန္တရ၊ ဒေသန္တရ၊ အတွေးအခေါ် အယူဝါဒမျိုးစုံ လေ့လာခဲ့သည်။ အိန္ဒိယမှ အပြန် အင်္ဂလိပ်ဘာသာနှင့် ခေတ်ပညာကို ထွန်တုံးပေါ်အရောက် ပို့ပေးရန် ရည်ရွယ်လျက် တောင်တွင်းကြီးမြို့တွင် ဗုဒ္ဓဘာသာ နေရှင်နယ် ကျောင်း တည်ထောင်ခဲ့သည်။ နေရှင်နယ်ကျောင်းမှ မြန်မာ့လွတ်လပ်ရေး တိုက်ပွဲဝင် ကျောင်းသားများ မွေးထုတ်ပေးခဲ့သည်။ စာပေရေးသားရာ တွင် စူးရှထက်မြက်လှသော်လည်း ဗုဒ္ဓသားတော် ရဟန်းတစ်ပါးအနေ ဖြင့် နူးညံ့သိမ်မွေ့အလိုဆန္ဒ နည်းပါးလှ၍ ယနေ့တိုင် စာပေ၊ အတွေး အခေါ် ဩဇာကြီးမားနေဆဲ ဖြစ်သည်။

ဥက္ကဋ္ဌ၊ ရှင်၊ နတ်မှီတောရဆရာတော် —

၁၈၉၇ ခု စက်တင်ဘာလ ၁၉ ရက် တနင်္ဂနွေနေ့တွင် မကွေး တိုင်း တောင်တွင်းကြီးမြို့နယ် ဆီမီးထွန်းရွာ၌ ဖွားသည်။ အဖ ဦးရွှေထပ်၊ အမိ ဒေါ်လှဝါ ဖြစ်သည်။ မွေးချင်း ၅ ယောက်တွင် အငယ်ဆုံး၊ အမည် မောင်အောင်ဇံထွန်း ဖြစ်သည်။ မိဘများမှာ တောင်တွင်းမြောက်ဘက် မြို့သစ်နယ်မှ ဖြစ်သည်။

၇ နှစ်အရွယ်တွင် ရွာတောင်ဘက် ရတနာပင်စည် တောရ ကျောင်းဆရာတော် ရှင်ရာဇိန္ဒထံ စတင်ပညာသင်သည်။ ၈ နှစ်အရွယ် တွင် ရှင်ရာဇိန္ဒကို ဥပဇ္ဈာယ်ယူ၍ သာမဏေဖြစ်သည်။ မိဘများက ရှင်ဒါယကာခံသည်။ သာမဏေဘွဲ့ ရှင်ဥက္ကဋ္ဌ။ သာမဏေ ၂ ဝါရတွင် သဒ္ဒါကြီးရှစ်စောင်၊ သဂြိုဟ် ၉ ပိုင်း အာဂုံရသည်။ ဥပဇ္ဈာယ်ဆရာတော် မှာ မန္တလေး ခင်မကန်တိုက်စာချ၊ ပိဋကတ်ကျမ်းကျင်၍ ခေတ်အမြင် ရှိသည်။ သာမဏေ ရှင်ဥက္ကဋ္ဌက ဟံသာဝတီသတင်းစာ ဖတ်ပြရသည်။

သာမဏေ ၂ ဝါရတွင် မန္တလေးမြို့ အရှေ့ပြင် မဟာဝိသုဒ္ဓါရုံ တိုက် (ဟောင်း) ရောက်သည်။ မဟာဝိသုဒ္ဓါရုံတွင် နောင်တော် ရှင်တေ ဇောသာရနှင့် ဦးရီးတော် ရှင်သုန္ဒရ အစောင့်အရှောက်ဖြင့် ပရိယတ္တိ စာပေသင်ယူသည်။ ဉာဏ်ထက် အဆော့သန်သော ကိုရင်ကလေးအဖြစ် ထင်ရှားခဲ့သည်။ ရဟန်းတော်များနှင့်အတူ ရူပသိဒ္ဓိ၊ ဋီကာကျော် စာဝါ လိုက်သည်။ သာမဏေ ၅ ဝါရတွင် နောင်တော် ရှင်တေဇောသာရထံ အဘိဓာန်၊ အလင်္ကာ၊ ဆန်း၊ ဓာတွတ္ထသဂြိုဟ်၊ ကစ္စာယနသာရ၊ သဒ္ဒတ္ထ ဘေဒစိန္တာကျမ်းများ အာဂုံပြန်ဆို ကျက်မှတ်ခဲ့သည်။ ထို့နောက် အနောက် ပြင် မဟာဝိသုဒ္ဓါရုံတိုက်သစ် ပြောင်းရွှေ့၍ ပရိယတ္တိစာပေ ဆက်လက် သင်ယူသည်။ မဟာဝိသုဒ္ဓါရုံတိုက်သစ်တွင် သင်ရိုးပိဋကတ်ကို ဆိုဝါဖြင့် သင်ယူခဲ့သည်။ သာမဏေဘဝဖြင့် 'စိန်တင့်ကြီး' ကာလပေါ်ဝတ္ထု (၄ တွဲ) ရေးသားထုတ်ဝေခဲ့သည်။

သာမဏေ ၁၀ ဝါရတွင် ဦးရီးတော်နှင့် နောင်တော်၏ ခွင့်ပြု ချက်ဖြင့် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် ပြောင်းရွှေ့၍ နိကာယ် ငါးရပ်၊ အထူးအားဖြင့် ကျမ်းအိပ်ကြီးများကို ရှင်ပညာ၊ ရှင်သုန္ဒရ၊

ရှင်နန္ဒဝံသ တို့ထံမှ သင်ယူသည်။ ၁၁ ဝါမြောက်တွင် ရွှေဘိုမြို့ ဘုရားကြီးတိုက်ဆရာတော် ရှင်ကိတ္တိထံ စာချအဖြစ် ဆောင်ရွက်သည်။ ဗေဒင်ဆိုင်ရာ ဇာတာဖွဲ့နည်း၊ ပြက္ခဒိန်စီရင်နည်းတို့ကို လေ့လာသင်ယူသည်။ ထို့နောက် မန္တလေးမြို့ အနောက်ပြင် ချမ်းသာကြီးတိုက် ပြောင်း၍ ဆင်တဲဆရာတော်၊ ခင်မကန်ဆရာတော်၊ ခေမာသီဝံဆရာတော်တို့ထံ စာဝါမျိုးစုံ လိုက်ခဲ့သည်။

အသက် ၂၀ ပြည့်ချိန် ၁၉၁၇ ခု ဇန်နဝါရီလ ၇ ရက် တနင်္ဂနွေနေ့တွင် တောင်တွင်းကြီးမြို့ ရတနာဗိမာန်ဆရာတော်ကို ဥပဇ္ဈာယ်ယူ၍ ရဟန်းဖြစ်သည်။ ရဟန်းဒါယကာမှာ မောင်းတိုင်ရပ် ဒေါ်မြသန်း၊ ဒေါ်ဖွားအုံ ညီအစ်မဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ဥက္ကဋ္ဌ ဖြစ်သည်။ ရဟန်းပထမဝါကို မြို့သစ်မြို့ သရက်တောကျောင်းတိုက်ဆရာတော် ရှင်ဥတ္တမထံ ဝါဆိုသည်။ ဝါကျွတ်လျှင် မန္တလေးမြို့ ရွှေရေးဆောင်တိုက်ဆရာတော် ရှင်အာဒိစ္စရံသီ (ဦးကြည်) ထံ ဝိနည်းအဋ္ဌကထာ စာဝါလိုက်သည်။ ရဟန်း ဒုတိယဝါတွင် ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်း၌ စာချအဖြစ် ဆောင်ရွက်သည်။ ကြခတ်ဝိုင်းစာသင်တိုက်ဆရာတော် ရှင်ဝိစိတ္တမှာ ဝိသုဒ္ဓါရုံတိုက်တွင် စာသင်ဖက်ဖြစ်၍ ကူညီစာချပေးခြင်းဖြစ်သည်။ ကြခတ်ဝိုင်းတွင် စာချနေစဉ် သီဟိုဠ်ပြန်ဆရာတော် ရှင်ပါမောက္ခ၊ ရန်ကုန်မြို့ စိန်ပေါလ်အထက်တန်းကျောင်း အင်္ဂလိပ်စာပြ အက်စ်ဖိုးလှတို့ထံမှ အင်္ဂလိပ်စာ သင်ယူခဲ့သည်။

ရဟန်း ၆ ဝါရ ၁၉၂၂ ခု နိုဝင်ဘာလတွင် ဆရာရင်း ရတနာပင်စည်ဆရာတော်၏ ခွင့်ပြုချက်အရ အိန္ဒိယသို့ ပညာသင်ထွက်ခွာခဲ့သည်။ အိန္ဒိယနိုင်ငံ ကလကတ္တား မဟာဗောဓိမဟာသာလာတွင် ဆရာတော် ရှင်အာဒိစ္စဝံသ (၁၈၈၂—၁၉၅၁) နှင့် တွေ့သည်။ ဗာရာဏသီတွင် အတူသီတင်းသုံး၍ ပညာသင်သည်။ ၁၉၂၆ ခု ရှင်အာဒိစ္စဝံသ အင်္ဂလန်ထွက်သွားပြီး လတ်ကနောင်းနှင့် အမရစ်ဆာမြို့များ ပြောင်းရွှေ့ပညာဆည်းပူးသည်။ အိန္ဒိယတွင် ၇ နှစ်ကျော် သီတင်းသုံးခဲ့စဉ် အင်္ဂလိပ်ဘာသာနှင့်အတူ သက္ကတ၊ ဟင်ဒီ၊ ဘင်္ဂါလီ၊ နာဂရီ၊ အူရဒူ၊ အာရဗီ၊ ပြင်သစ်၊ လက်တင်တို့ကို လေ့လာသင်ယူသည်။ ကမ္ဘာ့ဘာသာကြီးများဖြစ်သော ဟိန္ဒူ၊ ခရစ်ယာန်၊ မဟာမေဒင်နှင့် အယူဝါဒအမျိုးမျိုးကို

မူရင်းဘာသာမှ လေ့လာသင်ယူ၍ ဆွေးနွေးပွဲ၊ ဟောပြောပွဲကို တက်ရောက် ဆွေးနွေးခဲ့သည်။ ဒေသန္တရ ဗဟုသုတအတွက် အိန္ဒိယနိုင်ငံတွင်း လှည့်လည်ပြီး ဗုဒ္ဓသာသနာပြုလုပ်ငန်းများ ဆောင်ရွက်သည်။ ဝိသုဒ္ဓိမဂ်နှင့် ကထာဝတ္ထုကို အင်္ဂလိပ်ဘာသာ၊ ဓမ္မပဒကို အူရဒူဘာသာပြန်ထုတ်ဝေခဲ့သည်။ ၁၉၂၉ ခု မေလတွင် အိန္ဒိယမှ ပြန်လာသည်။

အိန္ဒိယမှအပြန် မြို့သစ်မြို့ သရက်တောကျောင်းတိုက်တွင် သီတင်းသုံးသည်။ လောကီ လောကုတ္တရာစာပေများ ပို့ချ၍ ဟံသာဝတီ မဂ္ဂဇင်း၊ ဘားမားဂျာနယ်၊ တိုးတက်ရေး၊ လယ်တီတရားသတင်းစာ တို့တွင် ဘာသာရေး၊ ပညာရေး၊ အယူဝါဒရေးရာ ဆောင်းပါးများ ရေးသားသည်။ ထိုစဉ် မြို့သစ်မြို့ ဒေါ်မမကြီး၏သမီး မသန်းကြည်နှင့် စွပ်စွဲခံရသည်။ မြို့သစ်မြို့ ဆရာတော်ကြီးများ ခုံရုံးမှ ရှင်ဥက္ကဋ္ဌအနေဖြင့် အပြစ်မထင် ကင်းစင်သန့်ရှင်းကြောင်း အဆုံးအဖြတ်ပေးခဲ့သည်။ ထို့နောက် ငယ်ဆရာ၏အမိန့်ဖြင့် တောင်တွင်းကြီးမြို့ ရတနာပင်စည်တောရ ပြန်လည်သီတင်းသုံး၍ စာပေပို့ချသည်။ ၁၉၃၁ ခုတွင် ရတနာပင်စည်ကျောင်း၌ ရဟန်းသာမဏေ ၂၂ ပါး၊ ကျောင်းသား ၃၅ ယောက်ကို အခြေတည်၍ သူငယ်တန်းမှ သတ္တမတန်းအထိ ပညာသင်ကျောင်း စတင်ဖွင့်လှစ်သည်။

၁၉၃၂ ခု မေလ ၁၆ ရက်တွင် ဒါယကာ ဒါယိကာမများ၏ ထောက်ပံ့မှု၊ ရှင်ဝိလာသ (ဖာဗီယန်ခရီးစဉ်ရေးသူ) ရှင်ဇဝန (ပရဟိတ) တို့၏ ကူညီမှုဖြင့် တောင်တွင်းကြီးမြို့တွင်း၌ ဗုဒ္ဓသာသနာပြု နေရှင်နယ် အထက်တန်းကျောင်းကို တည်ထောင်ခဲ့သည်။ ပိဋကတ်သင်ကြားရေးကို ရှင်ဝိလာသ၊ ရှင်ဇဝန၊ ရှင်နန္ဒာဘာသ။ မူလတန်း၊ အလယ်တန်း၊ အထက်တန်း ပညာသင်ကြားရေးကို ကျောင်းအုပ် ရှင်ဥက္ကဋ္ဌက ဦးဆောင်၍ ရှင်ပညာ၊ ရှင်ကေသရ ရှင်တိလောက၊ ရှင်တေဇိန္ဒ၊ ရှင်ဉာဏ၊ ရှင်မဏ္ဍလ တို့က တာဝန်ယူသည်။ ဗုဒ္ဓသာသနာပြု နေရှင်နယ်ကျောင်းကို ခရစ်ယာန်သာသနာပြု မစ်ရှင်ကျောင်းများကဲ့သို့ စနစ်တကျ စီမံခန့်ခွဲသည်။ နေရှင်နယ်ကျောင်းသည် ဗုဒ္ဓသာသနာပြုရေးကို အခြေခံ၍ လူတော်လူကောင်းဖြစ်ရေး၊ အမျိုးသားစိတ်ထက်သန်ရေးတို့ကို လှုံ့ဆော်အားပေးသည်။ ၁၉၃၃ ခုနှစ်တွင် နေရှင်နယ်ကျောင်း အင်္ဂလိပ်-မြန်မာ ၁၀ တန်း

စာမေးပွဲဝင်ခွင့်ကို အစိုးရ၏ အသိအမှတ်ပြုခံရသည်။ နောက်ပိုင်းတွင် ဆရာကြီး ဦးကွန့်၊ ဦးကိုကြီး (တောင်တွင်းကိုကိုကြီး) မစ္စတာ ဘီပူတိပရာ ဆက်အချာရနှင့် လုပ်အားပေးဆရာများ အကူအညီဖြင့် အမျိုးသမီး ကျောင်းသူများကိုပါ လက်ခံသင်ကြားပေးခဲ့သည်။ ၁၉၃၈ ခု ထောင့် သုံးရာပြည့် အရေးတော်ပုံတွင် နေရှင်နယ်ကျောင်းသည် စစ်ပုလိပ်၏ ဝိုင်းဝန်းပိတ်ဆို့မှုနှင့် ကြုံရသည်။ မြေလတ်ဒေသနှင့် တောင်တန်းဒေသ အချို့မှ ကျောင်းအိပ်ကျောင်းစား ကျောင်းသားများ တိုးပွားလာသည်။ နေရှင်နယ်ကျောင်းက နှစ်စဉ် အမျိုးသားနေ့လှည့်လည်ပွဲ ကျင်းပ၍ လက်ရုံးတပ်ဖွဲ့စည်းရာ အာဏာပိုင်များ၏ ငြိုငြင်မှုခံရသည်။ နေရှင်နယ် ကျောင်းသည် ၁၉၄၂ ခု ဒုတိယကမ္ဘာစစ်မီး ကူးစက်လာသည်အထိ တည်တံ့ခဲ့သည်။

၁၉၃၆ ခု မေလ ၁ ရက်နေ့တွင် ပြည်ခရိုင်၊ ဝက်ထီးကန်မြို့နယ် ကျောက်ကွင်းရွာကလေး၌ ခရစ်ယာန်နှင့် ဗုဒ္ဓဘာသာ အငြင်းပွားရာမှ ဘာသာရေး ယှဉ်ပြိုင်ဟောပြောပွဲ ကျင်းပရာ ရှင်ဥက္ကဌသည် ဗုဒ္ဓ ဘာသာမှ ဟောပြော၍ ဗုဒ္ဓသာသနာ ပြန့်ပွားစေခဲ့သည်။

၁၉၄၂ ခု အင်္ဂလိပ်အစိုးရ အိန္ဒိယ ဆုတ်ခွာစဉ် တောင်တွင်းကြီး ထောင်၌ ၉ ရက် အကျဉ်းချခံရသည်။ ဂျပန်ခေတ်တွင် ဂျပန်အာဏာ ပိုင်များ၏ ဆန္ဒကို မလိုက်လျော၍ ရန်ကုန်၊ လန်ကက်စတာလမ်း မက်သဒစ် မိန်းကလေးကျောင်း အဆောက်အအုံ (ထောင်)၌ ၂၁ ရက် တိုင်တိုင် အကျဉ်းချခံရသည်။

ဂျပန်ခေတ်မှစ၍ တောင်တွင်းမြို့ ကန်တော်ကြီးအရှေ့ဘက် နတ်မှီတောရတွင် သီတင်းသုံးခဲ့သည်။ စစ်ပြီးစ ၁၉၄၅ ခု ဩဂုတ်လ ၁၉ ရက်တွင် ရန်ကုန်မြို့ ကန်တော်ကြီး နေသူရိန်ဇာတ်ရုံ၌ ဖတပလ (ဖက်ဆစ်တိုက်ဖျက်ရေးနှင့် ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ်) က ဦးဆောင် ကျင်းပသော နေသူရိန် လူထုအစည်းအဝေးကြီးကို ရှင်ဇဝနနှင့်အတူ တက်ရောက်ခဲ့သည်။ ၁၉၄၇ ခုတွင် အိန္ဒိယကြွရောက်၍ တစ်နှစ်ခန့် သာသနာပြုလုပ်ငန်းများ ဆောင်ရွက်သည်။ ထိုစဉ် အင်္ဂလိပ်ဘာသာ ဖြင့် Twin Paths (လမ်းနှစ်သွယ်) ကို ထုတ်ဝေခဲ့သည်။ အိန္ဒိယမှ ပြန် လာပြီး တောင်တွင်းကြီး နတ်မှီတောရတွင် သီတင်းသုံး၍ ဗုဒ္ဓဝါဒနှင့်

အယူဝါဒဆိုင်ရာ စာအုပ်ပြုစုခြင်း၊ တရားဆွေးနွေးဟောပြောခြင်း စသည့် သာသနာပြုလုပ်ငန်းများ ဆောင်ရွက်သည်။ ၁၉၅၄ ခုနှစ် ဆဋ္ဌသင်္ဂါယနာတင်ရာတွင် ပိဋကတ်တော်များ သန့်ရှင်းစင်ကြယ်ရေး ဆောင်ရွက်ရာ အများနှင့် သဘောမတိုက်ဆိုင်၍ ပါဠိဝိသောဓကအဖွဲ့မှ ထွက်ခွာခဲ့သည်။

၁၉၅၉ ခု ဩဂုတ်လ ၁၄ ရက်နေ့တွင် 'လူသေလူဖြစ်' နှင့် ပတ်သက်၍ အစိုးရ၏ အရေးယူမှုခံရကာ တောင်တွင်း၌ ၉ လ အကျဉ်းချခံရသည်။ ၁၉၆၂ ခု တော်လှန်ရေးအစိုးရတက်လာပြီး လွတ်ငြိမ်းချမ်းသာခွင့်အရ ပြန်လည်လွတ်မြောက်ခဲ့သည်။ ၁၉၆၃ ခု ဇူလိုင်လ ၁၄ ရက် တနင်္ဂနွေနေ့တွင် ဂိုဏ်းပေါင်းစုံ၊ အဖွဲ့ပေါင်းစုံ သံဃာ့ကိုယ်စားလှယ်များ၊ လူဒါယကာ ဒါယိကာများ စုဝေး၍ ရန်ကုန်မြို့ ခြောက်ထပ်ကြီး ဘုရားကြီးတိုက် သာသနဝိပုလကာရီ သိမ်တော်ကြီး၌ 'လူသေလူဖြစ်' စာအုပ်နှင့် ပတ်သက်၍ ဆရာတော် ရှင်ဥက္ကဋ္ဌနှင့် စာအုပ်ထုတ်ဝေသူ ရှင်ဝါသဝတို့ကို ပကာသနီယကံ ပြုခဲ့သည်။

၁၉၅၆ ခုနှစ် အိန္ဒိယနိုင်ငံ နယူးဒေလီ၌ ကျင်းပသည့် အာရှအာဖရိကစာရေးဆရာ ညီလာခံကို မြန်မာစာရေးဆရာ အဖွဲ့ခေါင်းဆောင်အဖြစ်လည်းကောင်း၊ ၁၉၅၇- ၅၈ ခုနှစ် ဆွဲဒင်နိုင်ငံ စတော့ဟုမ်း ကမ္ဘာ့ငြိမ်းချမ်းရေး ကွန်ဖရင့်ကို မြန်မာအဖွဲ့ ခေါင်းဆောင်အဖြစ်လည်းကောင်း တက်ရောက်သည်။ ညီလာခံအပြီး အရှေ့ဥရောပ၊ ဆိုဗီယက်၊ တရုတ်၊ ဗီယက်နမ်နိုင်ငံများကို လှည့်လည်လေ့လာခဲ့သည်။

ပြုစုခဲ့သော စာပေများမှာ ဗုဒ္ဓဝါဒ၊ ဗုဒ္ဓလမ်းစဉ်၊ ဗုဒ္ဓအဘိဓမ္မာ၊ အနတ္တရောင်ခြည်၊ ဗုဒ္ဓစာချွန်တော်၊ ဗုဒ္ဓမှတ်ကျောက်၊ အသင်လူသားဘာမှားနေသလဲ၊ အိုယောဂီ သင်ဘယ်သွားမလဲ၊ အစွဲပြုတ် တဲကုတ်ရွှေနန်းတော်၊ ကပ္ပပြဿနာ၊ လူသေလူဖြစ်၊ စင်ပြိုင်သာသနာ (၂ တွဲ)၊ ကမ္ဘာ့အဘိဓမ္မာလက်စွဲ၊ မဟာသမဂ္ဂဝါဒ၊ သမ္မာသမဂ္ဂဝါဒ၊ လူသားနှင့်မြေလွှာ၊ ဘဝရေစီး ကြိုက်ရာရွေး လမ်းနှစ်သွယ်၊ ကန်တော့ပန်း၊ ရွှေချိန်ခွင်စာအပြေ၊ ဓမ္မစကြာတရား၊ နတ်မိုရေစမ်းမှ ရေပန်းကလေးများ၊ လက်ဝဲနိုင်ငံများနှင့် ဘာသာလွတ်လပ်မှု၊ တကယ့်စာတန်၊ ဖြဟ္မ

ယာစနကထာ၊ ဗုဒ္ဓဝိနည်း၊ ယုဒ္ဓအဘိဓမ္မာ၊ အဘိဓမ္မာ အဘိဓမ္မာကျမ်းများ ဖြစ်၍ အချို့မှာ လက်ရေးမူအဖြစ် ကျန်ရစ်သည်။

သက်တော် ၈၂ သိက္ခာ ၆၂ ဝါအရ ၁၃၇၈ ခု နိုဝင်ဘာလ ၂၇ ရက် ညနေ ၃ နာရီ ၄၅ မိနစ်၌ တောင်တွင်းကြီးမြို့နယ် တောရကျောင်းတိုက်၌ ခန္ဓာဝန်ချခဲ့ပါသည်။





## မူလပဋ္ဌာန်းဆရာတော် ရှင်နာရဒ

(၁၈၉၇ — ၁၉၈၃)

နှစ်ဆယ်ရာစု မြန်မာနိုင်ငံ ပရိယတ္တိသာသနာ၀င်တွင် ယမိုက်၊ ပဋ္ဌာန်း အဘိဓမ္မာကျမ်းများကို စနစ်ဇယား နည်းသစ်များ တီထွင်ပို့ချရာမှ ပဋ္ဌာန်းဆရာတော်ဟု အမည်တွင်ခဲ့သည်။ ရဟန်း ၁၂ ဝါရမှ ပျံလွန်သည့်တိုင် ယမိုက်၊ ပဋ္ဌာန်း သင်္ဂြိုဟ်ကျမ်းများကိုသာ ပို့ချ၍ ဆူးလေစေတီတော် အဘိဓမ္မာပြန့်ပွားရေးအသင်းကြီး၏ သြ၀ါဒါစရိယ သင်တန်းနည်းပြအဖြစ် ဆောင်ရွက်ခဲ့သည်။ ဆဋ္ဌသင်္ဂါယနာတင်ကာလတွင် နိုင်ငံခြား ယောဂီ ရဟန်း ရှင်လူများအား အဘိဓမ္မာတရားများကို အင်္ဂလိပ်ဘာသာဖြင့် ပို့ချခဲ့၏။ ထိုအချိန်ကပင် သီရိလင်္ကာနိုင်ငံ ပါဠိနာမအဘိဓာန်ကျမ်းပြု ဒေါက်တာမာလာလဆေကေရနှင့် လန်ဒန်ပါဠိစာပေအသင်းကြီး၏ မေတ္တာရပ်ခံချက်အရ အဘိဓမ္မာပိဋကက 'ဓာတုကထာကျမ်း'နှင့် 'ပဋ္ဌာန်း' ကျမ်းကြီးကို တပည့် ဦးသိန်းညွန့်၏ အကူအညီဖြင့် အင်္ဂလိပ်ဘာသာ ပြန်ဆိုခဲ့သည်။ ထိုအင်္ဂလိပ်ဘာသာပြန်ကျမ်းများကို လန်ဒန် ပါဠိစာပေ အသင်းက အသင်းစာစဉ်အဖြစ် ကမ္ဘာသို့ ဖြန့်ချိပေးခဲ့ခြင်း၊ ၀န်ကြီးချုပ်ဟောင်း ဦးနု၏ ပိဋကတ်ဘာသာပြန် စာပေဖြန့်ချိရေးအဖွဲ့ တွဲဖက်ဥက္ကဋ္ဌ အဖြစ် ယမိုက်ပါဠိတော် သုံးအုပ်ကို အင်္ဂလိပ်ဘာသာ ပြန်ဆိုခဲ့ခြင်းဖြင့် ကမ္ဘာသိ ဗုဒ္ဓအဘိဓမ္မာ ဘာသာပြန် ပညာရှင်အဖြစ် ထင်ရှားပါသည်။

နာရဒ၊ ရှင်၊ မူလပဋ္ဌာန်းဆရာတော် —

၁၈၉၇ ခုနှစ် နိုဝင်ဘာလ ၂၇ ရက် စနေနေ့တွင် ပြည်ခရိုင် ကြို့ပင်ကောက်မြို့၌ ဖွားသည်။ အဖ စပါးအဝယ်တော် စာရေးကြီး ဦးစိန်၊ အမိ ဒေါ်မေ ဖြစ်သည်။ မွေးချင်း ၇ ဦးတွင် ဆဋ္ဌမမြောက် ဖြစ်သည်။ အမည် မောင်စိန်ထွန်း ဖြစ်သည်။

၁၀ နှစ်အရွယ်တွင် ကြို့ပင်ကောက်မြို့ ရိုမန်ကက်သလစ် သာသနာပြု စာသင်ကျောင်း၌ ပညာသင်သည်။ ၁၆ နှစ်တွင် သတ္တမတန်း အောင်သည်။ သတ္တမတန်းအောင်ပြီး ပြည်မြို့ ပထမ အင်ကြင်းမြောင်တောရ ဆရာတော် ရှင်အာသဘ (၁၈၆၀– ၁၉၁၆) ကို ဥပဇ္ဈာယ်ယူ၍ သာမဏေ ဖြစ်သည်။ အင်ကြင်းမြောင်တောရ ဆရာတော်ထံမှာပင် ၅ လခန့် သာမဏေဝတ်၍ ကျင့်ကြံအားထုတ်သည်။ အင်ကြင်းမြောင်ဆရာတော်မှာ ပဋိပတ္တိနယ်ပယ်တွင် ထင်ရှားသည်။

ဖခင် ဦးစိန် ကွယ်လွန်ပြီးနောက် ရန်ကုန်မြို့ ပြောင်းရွှေ့နေထိုင်သည်။ ရန်ကုန်မှ ပြည် အင်ကြင်းမြောင်တောရကို မိခင်နှင့်အတူ လိုက်ပါ၍ အာနာပါနကမ္မဋ္ဌာန်း အားထုတ်လေ့ရှိသည်။ ၁၉၁၆ ခုနှစ် ဧပြီလ ၂၄ ရက်တွင် ပြည် အင်ကြင်းမြောင်တောရသိမ်၌ သာမဏေပြုသည်။ သာမဏေပြုပြီး ရဟန်းဆက်လက်ခံယူသည်။ ဥပဇ္ဈာယ်ဆရာမှာ ခရွဲဆရာတော် ဖြစ်သည်။ စစ်ကွင်း သေဌ္ဌာရာမဆရာတော်က ကမ္မဝါစာဆရာ။ အုတ်ဖိုဆရာတော်၊ ပြည်နိဗ္ဗိန္ဒဆရာတော် ရှင်သီရိ (၁၈၈၆—၁၉၇၇) ဓမ္မိကတောင်ဆရာတော် စသော သံဃာ ၁၅ ပါးက ကာရကသံဃာ၊ မိခင်ကြီးက ရဟန်းဒါယိကာခံသည်။ ဘွဲ့ ရှင်နာရဒ ဖြစ်သည်။

ရဟန်းဖြစ်ပြီး ပဋိပတ္တိ ကျင့်ကြံအားထုတ်ရန် ရည်ရွယ်သော်လည်း အသက် ငယ်ရွယ်သေး၍ ပရိယတ္တိသင်ကြားရန် စိစဉ်သည်။ ပြည်မြို့ ခေမာရုံ (ယခု ဂန္ဓာရုံ) တိုက်က ရဟန်း ၁ ဝါရတွင် ပထမငယ်၊ ရန်ကုန်မြို့ ဘင်္ဂလားတိုက် မစိုးရိမ်ကျောင်းမှ ပထမလတ်၊ မုံရွာ စာဖြေဌာနမှ ပထမကြီးတန်း အောင်မြင်ခဲ့သည်။ ပထမလတ်တန်း ယမိုက်စာဝါကို အမရပူရမြို့ ပထမကျော် ဦးအုန်း၏ ဓာတုကထာ ဥဒါနသင်္ဂဟ နိဿယကျမ်းကို လက်စွဲထား လေ့လာသည်။ ပထမကြီးတန်း အောင်မြင်ပြီးနောက် မန္တလေး

မစိုးရိမ်တိုက် ပထမကျော် ဦးဉာဏ (၁၈၈၃—၁၉၃၇)၊ ရွှေရေးဆောင်တိုက် ဦးကြည်ခေါ် ရှင်အာဒိစ္စရံသီ (၁၈၅၇—၁၉၁၅)၊ ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချရှင်ဇာဂရ၊ ရှင်ဝိမလတို့ထံ ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။ ထို့နောက် မန္တလေး မြင်းဝန်တိုက်၊ အမရပူရ မင်္ဂလာတိုက်၊ ပခုက္ကူ မဟာဝိသုတာရာမတိုက်တို့တွင် ရဟန်း ၁၂ ဝါရသည်တိုင် ပရိယတ္တိစာပေ သင်ယူခဲ့သည်။

မန္တလေးမြို့ မစိုးရိမ်တိုက်တွင် သီတင်းသုံးနေစဉ် ရဟန်း ၁၂ ဝါရ၌ ခင်ဦးမြို့ ရွှေဘေးကင်းတောရကို အလည်ရောက်ရာက တောရဆောက်တည်ခဲ့သည်။ ပြိုကျဆဲဆဲ ကျောင်းငယ်တစ်ဆောင်တွင် တစ်ပါးတည်း သီတင်းသုံး၍ ပိဋကပါတ်မူတင်ဆောင်သည်။ နောက်ပိုင်းတွင် ဥပုဒ်သည် တရားနာများစည်ကားလာရာ ပဋိပတ္တိ ကျင့်ကြံအားထုတ်ယုံမျှမက စာလိုက်သံဃာများအား ဝိနည်းစာဝါ၊ လူဒါယကာ၊ ဒါယိကာမများအား ဓမ္မစကြာ၊ သင်္ဂြိုဟ်၊ ပဋ္ဌာန်းများ ပို့ချသင်ကြားပေးသည်။ ပဋ္ဌာန်းသင်ရာတွင် လွယ်ကူ ရှင်းလင်းသော နည်းလမ်းများ ကြံဆ၍ ပဋ္ဌာန်းဇယားများ တီထွင်ပို့ချသည်။ ပဋ္ဌာန်းပို့ချရာ နည်းသစ်အောင်မြင်သည်နှင့်အမျှ ပဋ္ဌာန်းအရာ ထင်ရှားလာ၏။ သင်္ဂြိုဟ်ပဋ္ဌာန်းစာမေးပွဲများ ကျင်းပပေးသည်။ စစ်ကိုင်းတောင်ရိုး ပဋ္ဌာန်းသိပ္ပံဆရာတော် ရှင်ဣန္ဒက ကလည်း ကူညီသင်ကြားပေးသည်။ ဒုတိယကမ္ဘာစစ် မတိုင်မီ ရန်ကုန်မြို့ အလယ်တောရဆရာတော်၏ တိုက်တွန်းချက်အရ အလယ်တောရစာသင်တိုက်နှင့် မန္တလေး မစိုးရိမ်ဆရာတော် ရှင်သူရိယ၏ အားပေးမှုဖြင့် မစိုးရိမ်တိုက်တို့တွင် ပဋ္ဌာန်းစာဝါများ ပို့ချခဲ့သည်။ ဒုတိယကမ္ဘာစစ်အတွင်း ချပ်သင်းသူဌေး ဦးဘသင်၏ လျှောက်ထားချက်အရ စစ်ကိုင်းတောင်ရိုး၌ ပဋ္ဌာန်းပို့ချ၏။ ရန်ကုန်မြို့၌ ပဋ္ဌာန်းပို့ချနေစဉ် စာတိုက်ဝန် ဦးသွယ်သည် စာရေးလျှောက်ထားရာတွင် 'ပဋ္ဌာန်းဆရာတော်' ဟု သုံးနှုန်းခဲ့သည်။

ပဋ္ဌာန်းဆရာတော်ဟူသော အမည်ကို သတိပြုမိရာမှ ပဋ္ဌာန်းဆရာတော် အမည်ခံထိုက်စေရန် ပဋ္ဌာန်း ၂၄ ကျမ်းလုံး၏ လျှို့ဝှက်ခက်ခဲမှုကို အကုန်အစင် နားလည်သဘောပေါက်ရန် ဆက်လက် အားထုတ်ခဲ့သည်။ ပဋ္ဌာန်းလေ့လာပြီးနောက် ယမိုက် ၁၀ ကျမ်း ပါဠိတော် အရကောက်များကို ပဋ္ဌာန်းအရကောက်ကဲ့သို့ စနစ်ဇယားများ တီထွင်ကြံဆ ဖော်ထုတ်ခဲ့သည်။

ဒုတိယကမ္ဘာစစ်ပြီးနောက် ရဟန်းရှင်လူအများ၏ ပင့်လျှောက်ချက အရ မော်လမြိုင်ကျွန်း၊ ဖျာပုံ၊ ရန်ကုန် ဝေဠုဝတီကျောင်းတိုက်၊ ခြောက်ထပ်ကြီး ဘုရားကြီးတိုက်တို့၌ ယမိုက် ပဋ္ဌာန်း သင်တန်းများ ပို့ချသည်။ ဖျာပုံတွင် သင်တန်းပို့ချနေစဉ် ရန်ကုန်မှ ဒါယကာ ဦးကျော်၏ လျှောက်ထားချက် အရ ရန်ကုန်မြို့ ပြောင်းရွှေ့ သင်တန်းပို့ချသည်။

၁၉၄၆ ခုနှစ် မေလ ၅ ရက် တနင်္ဂနွေနေ့တွင် ဦးကျော် ဦးဆောင်သော အဘိဓမ္မာသင်တန်းသားများက အဘိဓမ္မာပြန့်ပွားရေးအသင်းကို တည်ထောင်၍ ဆရာတော် ရှင်နာရဒက အသင်းဩဝါဒါစရိယ၊ သင်တန်း နည်းပြအဖြစ် စတင်ဆောင်ရွက်သည်။ ၁၉၄၇ ခုနှစ်တွင် အဘိဓမ္မာ ပြန့်ပွားရေးအသင်းသည် ဆူးလေစေတီတော်သို့ နေရာပြောင်း၍ အဘိဓမ္မာ သင်တန်းများ ပို့ချသည်။ သီတင်းသုံးရာ ရန်ကုန် ပြည်လမ်း ပဋ္ဌာန်း ကျောင်းတိုက်၌လည်း ယမိုက် ပဋ္ဌာန်းသင်တန်းများ ပို့ချသည်။ ၁၉၅၄—၁၉၅၆ ခုနှစ် ဆဋ္ဌသင်္ဂါယနာတင်ကာလတွင် နိုင်ငံခြားသား ရဟန်းရှင်လူ များကို အင်္ဂလိပ်ဘာသာဖြင့် သင်တန်းပို့ချခဲ့၏။ ဆဋ္ဌသင်္ဂါယနာတင်ရာ တွင် ပါဠိဝိသောဓက၊ ပဋိဝိသောဓက၊ ဩသာနဝိသောဓက တာဝန်များ ထမ်းဆောင်သည်။ သုတ်သီလက္ခန်၊ ယမိုက်၊ ပဋ္ဌာန်းပါဠိတော်များနှင့် ပဥ္စပကရဏ အဋ္ဌကထာကျမ်းကို တာဝန်ယူ တည်းဖြတ်ခဲ့သည်။ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့အတွက် 'ပဋ္ဌာန်းအရကောက်ကျမ်း'ကိုလည်း စိစစ် တည်းဖြတ်ပေးခဲ့သည်။

သီရိလင်္ကာနိုင်ငံက 'ပါဠိနာမအဘိဓာန်' ကျမ်းပြု ဗုဒ္ဓစာပေပညာရှင် ဒေါက်တာ မာလာလဆေကေရနှင့် လန်ဒန်ပါဠိစာပေအသင်း၏ မေတ္တာ ရပ်ခံချက်အရ ၁၉၆၂ ခုနှစ်တွင် အဘိဓမ္မာ ပိဋကဓ၏ တတိယမြောက် ဓာတုကထာကျမ်း (Discourse on Elements)၊ ၁၉၆၉ ခုနှစ်တွင် ပဋ္ဌာန်း ကျမ်းပထမအုပ် (Conditional Relations, Patthana Vol.1)၊ ၁၉၇၉ ခုတွင် ပဋ္ဌာန်းဟောပုံ နည်းမျိုးစုံ လမ်းညွှန်ကျမ်း (Guide to Conditional Relations)၊ ၁၉၈၀ ပြည့်နှစ်တွင် ပဋ္ဌာန်းပါဠိတော် ဒုတိယအုပ် (Conditional Relations, Patthana, Vol.2) တို့ကို တပည့် ဦးသိန်းညွန့်၏ အကူအညီဖြင့် အင်္ဂလိပ်ဘာသာ ပြန်ဆို၍ လန်ဒန် ပါဠိစာပေအသင်းက ကမ္ဘာသို့ ဖြန့်ချိခဲ့သည်။

မြန်မာဘာသာဖြင့် သင်္ဂြိုဟ် ၉ ပိုင်း သရုပ်ခွဲဇယားအကျဉ်း၊ သင်္ဂြိုဟ် ၉ ပိုင်း သရုပ်ခွဲဇယားအကျယ်၊ ပါဠိပါရဂူကျမ်း၊ ယမိုက်ပါရဂူကျမ်း၊ မာတိကာ ဓာတုကထာ ပါရဂူကျမ်း၊ ယမိုက်ပါရဂူကျမ်း နောက်ဆက်တွဲ၊ ပရမတ္ထဝိနိစ္ဆယကျမ်းနှင့် နာမရူပပရိစ္ဆေဒကျမ်းဇယား၊ ဆဝါရသင်္ချာ (အသံဖမ်းပဌာန်းပို့ချစဉ်) ကျမ်း၊ ပဉ္စဝါရဝိဘင်္ဂ (အသံဖမ်းပဌာန်းပို့ချစဉ်) ကျမ်း၊ ပစ္စယနိဒ္ဒေသ ပထမပိုင်း၊ ဒုတိယပိုင်း (အသံဖမ်းပို့ချစဉ်) ကျမ်း၊ ပဉ္စဝါရ သင်္ချာ အနုလုံ ပစ္စနိက် (အသံဖမ်းပို့ချစဉ်) ကျမ်း၊ ပဉ္စဝါရသင်္ချာ အနုလောမပစ္စနိက် ပစ္စနိယာနုလောမ (အသံဖမ်းပို့ချစဉ်) ကျမ်း၊ ဆဝါရ ဝိဘင်္ဂ (အသံဖမ်းပို့ချစဉ်) ကျမ်း၊ သင်္ခါရယမိုက် (အသံဖမ်းပို့ချစဉ်) ကျမ်း၊ အနုသယယမိုက် (အသံဖမ်းပို့ချစဉ်) ကျမ်း၊ စိတ္တနှင့် ဓမ္မယမိုက် (အသံဖမ်း ပို့ချစဉ်) ကျမ်း၊ ဣန္ဒြိယယမိုက် (အသံဖမ်းပို့ချစဉ်) ကျမ်း၊ သစ္စယမိုက် (အသံဖမ်းပို့ချစဉ်) ကျမ်း၊ အာယတနနှင့် ဓာတုယမိုက် (အသံဖမ်းပို့ချစဉ်) ကျမ်းတို့ ပြုစုခဲ့ပါသည်။

၁၉၇၈ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။

၁၉၈၀ ပြည့်နှစ်တွင် ဦးနုဦးဆောင်သော ပိဋကတ်ဘာသာပြန် စာပေအဖွဲ့၏ ဩဝါဒါစရိယအဖွဲ့ဝင် တွဲဖက်ဥက္ကဋ္ဌ တာဝန်အဖြစ်ယူ၍ ယမိုက်ပါဠိတော် ၃ ကျမ်းကို ကုသိုလ်ဖြစ် အင်္ဂလိပ်ဘာသာ ပြန်ဆိုခဲ့သည်။

၁၉၈၂ ခုနှစ်တွင် ဆုးလေအဘိဓမ္မာပြန့်ပွားရေးအသင်းကြီးအတွက် ဣန္ဒြိယယမိုက်ကျမ်းကို ထပ်မံတည်းဖြတ်ခဲ့သည်။

သက်တော် ၈၆ သိက္ခာ ၆၆ ဝါရ ၁၉၈၃ ခုနှစ် ဇန်နဝါရီလ ၁ ရက် စနေနေ့ ည ၁၀း၄၅ နာရီတွင် ရန်ကုန်မြို့ ပြည်လမ်း မူလပဋ္ဌာန်း ကျောင်းတိုက်၌ ဘဝနတ်ထံ ပျံလွန်ခဲ့ပါသည်။



## တောင်ပုလုဆရာတော်
## ရှင်နန္ဒိယ
(၁၈၉၇ — ၁၉၈၆)



မြန်မာနိုင်ငံ ပဋိပတ္တိသာသနာ၀င်တွင် တောင်ပုလုဆရာတော်၊ ကမ္ဘာအေးဆရာတော် အမည်နှစ်မျိုးဖြင့် ထင်ရှားသည်။ ရဟန်းသိက္ခာ ၂၀ ဝါရသည့်တိုင် ပရိယတ္တိစာပေ သင်ယူပို့ချခဲ့သည်။ ပဋိပတ္တိကျင့်စဉ်ကို သထုံမြို့ မူလမင်းကွန်းဇေတဝန်ဆရာတော်ထံ နည်းခံခဲ့သည်။ ခုတင် ၁၃ ပါး ဆောင်လျက် တောရဆောက်တည် ကျင့်ကြံအားထုတ်ခဲ့ရာ ရဟန်းကိစ္စ ပြီးမြောက်သည်ဟု သတ်မှတ်ခံရသည်။ လဲလျောင်းခြင်း ဣရိယာပုတ်ကို ပယ်၍ လမ်းလျှောက်ခြင်း၊ ရပ်ခြင်း၊ ထိုင်ခြင်း ဣရိယာပုထ် သုံးပါးဖြင့်သာ နေထိုင်ခဲ့သည်။ အမေရိကန်ပြည်ထောင်စု၊ ကာလီဖိုးနီးယားပြည်နယ်၊ ကာလီဖိုးနီးယားတက္ကသိုလ် အာရှလေ့လာရေးဌာန ဗုဒ္ဓဘာသာ လေ့လာရေးဆိုင်ရာ ညွှန်ကြားရေးမှူး၊ ပါမောက္ခ ဒေါက်တာရီနာဆာကား (ရန်ကုန်တက္ကသိုလ် ဒဿနိကဗေဒဌာန လက်ထောက်ကထိကဟောင်း)နှင့် တပည့် ယောဂီများ လျှောက်ထားချက်အရ သက်တော် ၈၁ နှစ်၊ ၁၉၇၈ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုသို့ ဓမ္မဒူတ ခရီးသွားရောက်ခဲ့သည်။ ဆန်ဖရန်စစ္စကိုမှ လော့စ်အိန်ဂျယ်လိ လေယာဉ်ခရီးစဉ်တွင် လေယာဉ်မှူးမှာ ဘီးချမရဘဲ အခက်အခဲတွေ့နေစဉ် တောင်ပုလုဆရာတော်ကို ဖူးမြင်လိုက်ရရာမှ လေယာဉ်ဘီး ချ၍ရသွားသည်ဟု လင်းရောင်ခြည်စာစောင်၌ တအံ့တသြ ဖော်ပြခံရပါသည်။

နန္ဒိယ၊ ရှင်၊ တောင်ပုလုဆရာတော် —

၁၈၉၇ ခုနှစ် မတ်လ ၂၀ ရက် စနေနေ့တွင် မိတ္ထီလာခရိုင် ဝမ်းတွင်းမြို့နယ် တဲစုရွာ၌ ဖွားသည်။ အဖ ဦးရဲ၊ အမိ ဒေါ်ရွှေသဲ ဖြစ်သည်။ မွေးချင်း ၅ ဦးတွင် စတုတ္ထမြောက်။ ငယ်မည် မောင်ပေါ်လာ တွင်သည်။

၇ နှစ်အရွယ်၌ တဲစုရွာ ရေဝန်းကျောင်းဘုန်းကြီး ရှင်တေဇ ထံ စတင်ပညာဆည်းပူးသည်။ ရှင်တေဇနှင့် ရှင်လက္ခဏတို့ထံမှ သဒ္ဒါ၊ သင်္ဂြိုဟ် အခြေခံစာများနှင့် ပန်းချီဆေးရေး လက်မှုပညာများ သင်ယူခဲ့သည်။ ၁၃ နှစ်တွင် မိဘနှစ်ပါးက ရှင်ဒါယကာခံ၍ သာမဏေဖြစ်သည်။ သာမဏေဘွဲ့ ရှင်နန္ဒိယ ဖြစ်သည်။ ဥပဇ္ဈာယ်ဆရာမှာ ရှင်တေဇ ဖြစ်သည်။ ရေဝန်းကျောင်း၌ သာမဏေ ၉ ဝါရသည်တိုင် ပရိယတ္တိစာပေ သင်ယူဆည်းပူးခဲ့သည်။

၁၉၁၇ ခုနှစ် ဇွန်လ ၂၈ ရက် ကြာသပတေးနေ့တွင် ရေဝန်းကျောင်းဘုန်းကြီး ရှင်တေဇကို ဥပဇ္ဈာယ်ယူ၍ ရဟန်းဖြစ်သည်။ ဘွဲ့ ရှင်နန္ဒိယ။ ရဟန်းဒါယကာမှာ တဲစုရွာ ဦးထွန်းအေး ဒေါ်ကြာမွှေးမိသားစု ဖြစ်သည်။ ရဟန်းဖြစ်ပြီး ဥပဇ္ဈာယ်ဆရာနှင့် ပျဉ်းမနားမြို့ ရှမ်းစုကျောင်းတိုက်ဆရာတော်ထံ ပါဠိတော်၊ အဋ္ဌကထာ ဋီကာများ ဆက်လက်သင်ယူသည်။ ရဟန်း ၅ ဝါရ၍ မန္တလေးမြို့ ဒက္ခိဏာရာမဘုရားကြီးတိုက် ရွှေဘိုကျောင်း ပြောင်းရွှေ့ စာပေသင်ယူရာ ၄ နှစ်ခန့်ကြာသည်။ ရွှေဘိုကျောင်းဆရာတော် ရှင်အာစာရ ထံ အဘိဓမ္မာ ၇ ကျမ်း၊ စာချအကျော် ရှင်နာရဒထံ ဝိနည်း ၅ ကျမ်း၊ စာချ ရှင်တေဇဝန္တထံ သာရတ္ထဒီပနီဋီကာ၊ စာချရှင်ဥေယျထံ ညဝါနှင့်ကဒီ၊ ပခုက္ကူတိုက်ထွက် ကျွဲပွဲအိုးဆိပ်ဆရာတော် ရှင်သာသနထံ ဝိနည်း ၅ ကျမ်း၊ သုတ် ၃ ကျမ်းတို့ကို ဆိုဝါဖြင့် သင်ယူသည်။ မန္တလေးမြို့ရှိ အခြားထင်ရှားသော စာချဆရာတော်များထံလည်း နည်းခံခဲ့သည်။ ပရိယတ္တိ သင်ယူနေစဉ် ပတ္တပိုင်မူတင်ကို ဆောက်တည်ခဲ့သည်။

ရဟန်းသိက္ခာ ၉ ဝါရတွင် ညီဖြစ်သူ သာစည် ရေလယ်ကျောင်းဘုန်းကြီး ရှင်စန္ဒောဘာသ၏ လျှောက်ထားချက်အရ ရေလယ်ကျောင်းစာသင်တိုက်၌ ဂဏဝါစက စာချအဖြစ် စာပေပို့ချသည်။ မူလ ဓမ္မာစရိယဘွဲ့ဖြင့် စာပေပို့ချခဲ့ရာ စာသင်သံဃာ ၁၀၀ ဝန်းကျင်ရှိသည်။ စာပေပို့ချ

ခဲ့ရာမှ သံဝေဂညာဏ်ဖြစ်ကာ သိက္ခာ ၂၀ ဝါရတွင် ရေလယ်ကျောင်းတိုက် သီတင်းသုံးဖော် ၆ ပါးနှင့်အတူ တောရဆောက်တည်ရန် ထွက်ခွာခဲ့သည်။ သာစည်မြို့ အရှေ့ဘက် လှိုင်းတက်မြို့မှ အတော်ဝေးသော တောစခန်းသို့ တောရဆောက်တည်ရန် ထွက်ခွာခဲ့ရာ ထိုသတင်းသည် ထိုအချိန်က သာစည်နယ်၌ အတော်ထင်ရှားခဲ့သည်။ တောရဆောက်တည်ရာအရပ်မှာ ရာသီဥတုဆိုးဝါးခြင်း၊ ဆွမ်းကွမ်းခက်ခဲခြင်းတို့အပြင် ကျန်းမာရေး ချို့ယွင်းလာရာ တပည့် ဒါယကာ၊ ဒါယိကာမများက ရေလယ်ကျောင်းတိုက်သို့ ပြန်လည်ပင့်ဆောင်ခဲ့ကြသည်။

၁၉၃၇ ခုနှစ် နိုဝင်ဘာလ ၁၇ ရက်နေ့ ဗုဒ္ဓဟူးနေ့ ညသန်းခေါင်ယံတွင် ပဋိပတ္တိကျင့်ကြံအားထုတ်ရန် တပည့် ရှင်ဇဝနနှင့်အတူ ရေလယ်ကျောင်းတိုက်မှ ဒုတိယအကြိမ် ထွက်ခွာခဲ့သည်။ ဆရာတပည့်နှစ်ပါး ဆွမ်းခံဝတ်ဖြင့် ခြေလျင်သွားရန်၊ ခရီးတလျှောက် ထင်ရှားသော စေတီပုထိုးများ ဖူးမျှော်ရန်၊ ရောက်ရာအရပ် တောရဆောက်တည် ဝါကပ် တရားအားထုတ်ရန်၊ ထင်ရှားသော တောရဆရာတော်များထံ ချဉ်းကပ်၍ တရားဆွေးနွေးနာယူရန် အဓိဋ္ဌာန်လေးချက် ခရီးထွက်ခဲ့ရာ ပထမဦးစွာ ပျော်ဘွယ်နယ် တွင်းကြီးရွာအနီး သိမ်တောင်တောရစခန်း၌ တောရဆောက်တည် ဝါဆိုသည်။ ဝါကျွတ်ချိန် ခရီးဆက်ရာ ထန်းတပင်ဆရာတော်၊ မိုးကောင်းဆရာတော် ရှင်ပဏ္ဍိတ၊ မှင်ထိုတောင်ဆရာတော် ရှင်သာသနတို့ထံ ဝင်ရောက်ဖူးမျှော် တရားဆွေးနွေးခဲ့သည်။ ရသေ့ကြီး ဦးခန္တီ၏ကောင်းမှု ကုသိုလ်တော် ရမည်းသင်း ရွှေမြင်တောင်ရှိ စေတီပုထိုးများ၊ ရေတာရှည် မယ်ဒက်စေတီများကို ဖူးမျှော်၍ တောင်ငူကို ခရီးဆက်သည်။ ၁၉၃၈ ခုနှစ် ဖေဖော်ဝါရီလ ၉ ရက် ဗုဒ္ဓဟူးနေ့တွင် တောင်ငူမြို့ စည်ပင်ကျောင်းတိုက် တပည့်ကြီး ရှင်နန္ဒောဘာသထံ ရောက်သည်။ တောင်ငူမှ တပည့် ရှင်နန္ဒောဘာသနှင့်အတူ ဆရာတပည့် ၃ ပါး ခရီးဆက်ရာ ပဲခူး၊ ကျိုက်ထီးရိုး၊ ကျိုက်ထိုမှတဆင့် သထုံမြို့ ရောက်ရှိသည်။ ၁၉၃၈ ခုနှစ် မတ်လ ၂ ရက် ဗုဒ္ဓဟူးနေ့ဖြစ်သည်။

သထုံမြို့ ရွှေစာရံဘုရား အရှေ့မုခ် ကန်ကြီးကျောင်းဆရာတော် ရှင်စန္ဒောဘာသမှတဆင့် သထုံမြို့ မူလမင်းကွန်းဇေတဝန်ဆရာတော်ထံ ရောက်ရှိသည်။ သတိပဋ္ဌာန်တရားတော်အတိုင်း နည်းခံကျင့်ကြံ

အားထုတ်ခဲ့ရာ မင်းကွန်းဆရာတော်၏ ကျေနပ်အားရခံရသည်။ မင်းကွန်းဇေတဝန်ဆရာတော် ရှင်နာရဒ (၁၈၆၉—၁၉၅၅) ၏ ပဋိပတ္တိ နည်းခံ ထင်ရှားသော တပည့်တစ်ပါးမှာ ရှင်သောဘဏ ဖြစ်သည်။ ရှင်သောဘဏသည် ဆဋ္ဌသင်္ဂါယနာတင်ပွဲတွင် အမေးပုစ္ဆက ဆရာတော်၊ မဟာစည် ကမ္မဋ္ဌာန်းနည်းပြဆရာတော်အဖြစ် ထင်ရှားသည်။ ရှင်နန္ဒိယသည် မင်းကွန်းဇေတဝန် ဆရာတော်ထံတွင် ၂ ဝါ တရားအားထုတ်ပြီးနောက် ဆရာတော်၏ကိုယ်စား မော်လမြိုင်မြို့ စရွှန်တောရရိပ်သာ၌ တရားပြအဖြစ် စေလွှတ်ခံရသည်။ တရားကျင့်ဖော် တပည့်နှစ်ပါးနှင့်အတူ စရွှန်ရိပ်သာ၌ တရားပြနေစဉ် ၂ နှစ်ခန့်အကြာ ဒုတိယကမ္ဘာစစ်မီး မြန်မာပြည်တောင်ပိုင်း စတင်ရောက်ရှိလာသည်။ ၁၉၄၁ ခုနှစ် နိုဝင်ဘာလ ၁၀ ရက်နေ့တွင် ရှင်နန္ဒိယ သာစည်မြို့ ရေလယ်ကျောင်းတိုက်သို့ ပြန်လည်ရောက်ရှိသည်။ ထိုမှ ဇာတိ ဝမ်းတွင်းမြို့နယ် တဲစုရွာ ပြန်လည်ကြွရောက်၍ တဲစုရွာအနီး ကျောက်ဆင်တောရ၊ ရွှေသာလျောင်းတောရ၊ သပြေချောင်းတောရ၊ သိမ်တောင်ကလေးတောရ၊ သစ္စာပြုတောင်တောရ၊ တောင်ပုလုတောရတို့၌ လှည့်လည် သီတင်းသုံး ကျင့်ကြံအားထုတ်သည်။

၁၉၅၁ ခုနှစ် တောင်ပုလုတောရ၌ ကျင့်ကြံအားထုတ်နေစဉ် ဆည်တည်ဆောက်ရန် အထူးတာဝန်ကျသော မိတ္ထီလာအမတ်ဆရာထီ၊ ဆည်မြောင်းဌာန ကန်ဗိုလ်ဦးစံငြိမ်းတို့ တောင်းပန်လျှောက်ထား၍ ကပ်မိုးကပ်ကာ ကျောင်းကလေးကို အလှူခံ သီတင်းသုံးရာမှ တောင်ပုလုဆရာတော်ဟု အမည်တွင်လာသည်။ ၁၉၅၃ ခုနှစ်တွင် ဆရာထီနှင့် ဦးစံငြိမ်း လျှောက်ထားတောင်းပန်၍ တောင်ပုလုတောင်ထိပ်၌ ကမ္ဘာအေးစေတီတော် အုတ်မြစ်ချပေးခဲ့ရာ ကမ္ဘာအေးစေတီဟု ထင်ရှားခဲ့သည်။ ရှင်နန္ဒိယသည် တောရ အသီးသီးတွင် ၁၂ နှစ်ခန့် မူတင် ၁၃ ပါးဆောင်၍ ကျင့်ကြံအားထုတ်ရာမှ တောင်ပုလုဆရာတော်ဟု ထင်ရှားလာခဲ့သည်။ ထိုအချိန်မှစ၍ တောင်ပုလုရိပ်သာ၌ သီတင်းသုံး၍ မူလ မင်းကွန်းဇေတဝန်ဆရာတော်၏ စည်းစနစ်အတိုင်း ကမ္မဋ္ဌာန်းတရား ပြသသည်။ အမျိုးသားယောဂီများကို ရဟန်းဝတ်ဖြင့်သာ တရားအားထုတ်စေ၍ မင်းကွန်းဆရာတော်၏ အဆုံးအမအတိုင်း ပါတိမောက်ပြန်နိုင်ရသည်။ ဆွမ်းခံ

ဘုဉ်းပေးရသည်။ မကြာမကြာ ဝတ်ဆောက်တည်၍ ဓူတင်ကိုလည်း ကျင့်ဆောင်ရသည်။

မိတ္ထီလာစစ်ဆေးရုံတွင် တာဝန်ကျနေသော ဘင်္ဂါလီလူမျိုး ဒေါက်တာ အယ်လ်ဘတ်ဆာကား (ရန်ကုန်တက္ကသိုလ် ဒဿနိကဗေဒ လက်ထောက်ကထိက ဒေါက်တာ ရီနာဆာကား၏ မောင်အငယ်ဆုံး) ကို အကြောင်းပြု၍ ရန်ကုန်မြို့ ဦးဝိစာရလမ်း ဆာကားတိုက် ကြွရောက် သီတင်းသုံးရာမှ နောင်အခါ သကြံန်ရက်များတွင် ရန်ကုန် ကြွရောက်လေ့ရှိသည်။ ယောဂီများအား ဒါန သီလ ဘာဝနာ အထူးသဖြင့် သရဏဂုံတရားကို အလေးပေး၍ သတိပဋ္ဌာန်တရားတော်အတိုင်း ကမ္မဋ္ဌာန်းပေးလေ့ရှိသည်။ သက်တော် ၇၀ နီးလာသော်လည်း နိုင်ငံအနှံ့ မြို့ရွာအသီးသီးက ပင့်ဆောင်ပါက ခရီးအဝေးအနီး၊ ခက်ခဲပင်ပမ်းမှုကို ပဓာနမထားဘဲ ကြွရောက် တရားချီးမြှင့်ခဲ့သည်။

၁၉၇၇ ခုနှစ် ဩဂုတ်လ ၁၆ ရက်နေ့တွင် ဆရာတော်၏ တပည့်ရင်း ဒေါက်တာ ရီနာဆာကားသည် အမေရိကန်ပြည်ထောင်စု ကာလီဖိုးနီးယားတက္ကသိုလ် အာရှလေ့လာရေးဌာန ဗုဒ္ဓဘာသာလေ့လာရေးဆိုင်ရာ ညွှန်ကြားရေးမှူး၊ ပါမောက္ခတာဝန်ထမ်းဆောင်နေရာမှ တပည့် အမျိုးသား ၃ ဦး၊ အမျိုးသမီး ၃ ဦးနှင့်အတူ တောင်ပုလုဆရာတော်ထံ ရောက်လာသည်။ ပြည်ဝင်ခွင့် ဗီဇာ ၇ ရက်ရရာ တောင်ပုလုရိပ်သာ၌ ရဟန်းဝတ်၊ ယောဂီဝတ်ဖြင့် သတိပဋ္ဌာန်တရား ၅ ရက်ဝင်ခဲ့သည်။ ထို့နောက် ဆရာတော်အား အမေရိကန်ပြည်ထောင်စုသို့ ဓမ္မဒူတခရီးကြွရောက်ရန် လျှောက်ထားခဲ့သည်။ ဒေါက်တာရီနာဆာကားနှင့် အမေရိကန်ပြည်ထောင်စု ကာလီဖိုးနီးယားပြည်နယ် ဗုဒ္ဓဘာသာဝင်များ၏ ကြိုးပမ်းမှုဖြင့် တောင်ပုလုဆရာတော်သည် အမေရိကန်ပြည်ထောင်စုသို့ ဓမ္မဒူတခရီး လေးကြိမ် ကြွရောက် သာသနာပြုခဲ့သည်။

၁၉၇၈ ဩဂုတ် ၁ မှ ၁၉၇၉ ဇန်နဝါရီလ ၂ အထိ ပထမအကြိမ်။ ဤခရီးတွင် အပြန်၌ အိန္ဒိယဝင်၍ ဓမ္မဒူတခရီး လှည့်ခဲ့သည်။ ၁၉၈၁ ဧပြီ ၂၅ မှ ၁၉၈၂ မတ် ၆ အထိ ဒုတိယအကြိမ်။ ဤခရီး၌ အင်္ဂလန်နိုင်ငံအထိ ဓမ္မဒူတခရီးဆန့်ခဲ့သည်။ အပြန်၌ နီပေါလ် ထိုင်း သီရိလင်္ကာနိုင်ငံများ၌ သာသနာပြုလုပ်ငန်းများ ဆောင်ရွက်သည်။ ၁၉၈၃ ဧပြီ ၉ မှ

၁၉၈၃ နိုဝင်ဘာ ၂၅ အထိ တတိယအကြိမ်။ ၁၉၈၅ ဧပြီ ၁၁ မှ ၁၉၈၆ ဒီဇင်ဘာ ၁၀ အထိ စတုတ္ထအကြိမ် ကြွရောက် သာသနာပြုခဲ့သည်။ ဝါတွင်း ကာလကို အမေရိကန်ပြည်ထောင်စု၌ ဝါကပ်သည်။ ပထမအကြိမ် ဓမ္မဒူတ ခရီးတွင် ရဟန်းတော် ၄၅ ပါး သာမဏေ ၁၅ ပါး၊ ရသေ့မ ယောဂီဝတ်သူ ၃၀ ကျော်၊ ဗုဒ္ဓဘာသာ သရဏဂုံတည်သူ ယောဂီ ၈၀၀ ကျော်ရှိခဲ့သည်။ စိန့်ကလဲမြို့၌ ဓမ္မရိပ်သာကျောင်း သိရိရတနာခဏ္ဍသိမ်တို့ ပေါ်ထွန်းခဲ့သည်။ ဒုတိယအကြိမ် ဓမ္မဒူတခရီး၌ တောင်ပုလုကျောင်းတော်သစ်၊ တတိယ အကြိမ်၌ ရွှေသိမ်တော် ကမ္ဘာအေးစေတီ၊ သတိပဋ္ဌာန် ကမ္မဋ္ဌာန်းရိပ်သာ များ ပေါ်ပေါက်ခဲ့သည်။ တောင်ပုလုဆရာတော်သည် အင်္ဂလိပ်ဘာသာ စကား မတတ်သော်လည်း တပည့်ရင်း ဒေါက်တာရီနာဆာကား၏ ဘာသာ ပြန်ဖြင့် အမေရိကန်ပြည်ထောင်စုတွင် ထေရဝါဒ ဗုဒ္ဓသာသနာကို အမြစ် တွယ်စေခဲ့သည်။

တောင်ပုလုဆရာတော်သည် ၁၉၇၅ ခုနှစ်ကပင် ဇာတိ တဲစုရွာရှိ ရှေးဟောင်း မြမဥ္ဇူစေတီတော် ပျက်စီးယိုယွင်းနေသည်ကို ရွှေတိဂုံစေတီ ပုံတော်အတိုင်း ပြန်လည်ပြုပြင်ပေးခဲ့သည်။ ၁၉၈၄ ခုနှစ်တွင် လားရှိုး ဆရာတော်က ရန်ကုန်မြို့ အင်းလျားကန်စပ်ရှိ ကန်ဖျားကျောင်း လှူဒါန်း သည်ကို လက်ခံသီတင်းသုံးခဲ့သည်။ ၁၉၈၆ ခုနှစ် မတ်လ ၂၈ ရက်နေ့တွင် ရန်ကုန်မြို့ ဆုတောင်းပြည့်ကျောင်းတိုက် (ကန်ဖျားကျောင်း) ၌ သက်တော် ၉၀ ပြည့်မွေးနေ့ ကျင်းပပြီးနောက် ခရမ်း၊ သုံးခွ၊ သက္ကလ၊ ကျောက်တန်း၊ ထို့နောက် မော်လမြိုင်၊ သံဖြူဇရပ်တရားပွဲများ ဟောပြောခဲ့သည်။

သက်တော် ၉၀ သိက္ခာ ၇၀ ဝါအရ ၁၉၈၆ ခုနှစ် ဇွန်လ ၇ ရက်နေ့ နံနက် ၈း၀၄ နာရီတွင် ရန်ကုန်မြို့ တက္ကသိုလ်ရိပ်သာလမ်း အမှတ် ၇၀ တောင်ပုလုဆုတောင်းပြည့်ကျောင်းတိုက်၌ ခန္ဓာဝန်ချခဲ့ပါသည်။





## ပဲခူးမြို့မဆရာတော်
## ရှင်ဣန္ဒာစာရ
(၁၈၉၇ — ၁၉၉၃)

၁၉၈၀ ပြည့်နှစ် ပထမအကြိမ် ဂိုဏ်းပေါင်းစုံ (သုဓမ္မာ ရွှေကျင် မဟာဒွါရ မူလဒွါရ အနောက်ချောင်ဒွါရ ဝေဠုဝန် စတုဘုမ္မိက (ငှက်တွင်း) ကူးတို့ မဟာရင် ဂိုဏ်း ၉ ဂိုဏ်း) သံဃအစည်းအဝေးကြီးက နိုင်ငံတော် သံဃနာယကအဖွဲ့ ဥက္ကဋ္ဌ၊ ဂိုဏ်းပေါင်းစုံ သံဃအဖွဲ့အစည်းကြီး၏ ဥက္ကဋ္ဌ အဖြစ် ရွေးချယ်တင်မြှောက်ခံရ၏။ ရာသက်ပန် သံဃမဟာနာယကအဖွဲ့ ဥက္ကဋ္ဌအလား ပျံလွန်တော်မူသည့်တိုင် နှစ်ပေါင်း ၁၃ နှစ်တိုင်တိုင် သာသနာတော် သန့်ရှင်းစင်ကြယ် ပြန့်ပွားရေးအတွက် ဦးဆောင်ခဲ့သည်။ ငယ်ရွယ်စဉ် ပရိယတ္တိစာပေ သင်ယူစဉ်က ချောင်းဦး ဓမ္မာရုံ၊ မန္တလေး မစိုးရိမ်၊ ဘုရားကြီး၊ ရွှေရေးဆောင်၊ ပခုက္ကူ မဟာဝိသုတာရာမ၊ ဆည် တွင်းချောင်၊ ကျွန်းကုန်းတောရ၊ တောင်မြို့ မင်္ဂလာရာမ၊ တူးမောင်း၊ မြင်းခြံ ဖက်ပင်အိုင်တို့တွင် ဆရာစုံ နည်းစုံ တပည့်ခံ၍ လောကီ လောကုတ္တရာ စွယ်စုံ လေ့လာဆည်းပူးခဲ့သည်။ ပရိယတ္တိစာပေ ပြန်လည်ပို့ချစဉ် စာသင် သံဃာ ၂၀ ခန့်မှ ၂၀၀ ကျော်ရှိ ပဲခူးမြို့မ စာသင်တိုက်ကြီးကို ဦးဆောင် တည်ထောင်၍ ပဲခူးမြို့မဆရာတော် ဟု ထင်ရှားခဲ့သည်။ မစိုးရိမ်ဆရာ တော် ရှင်သူရိယ၏ လမ်းညွှန်မှုဖြင့် ပဲခူးနယ်တွင် နိကာယ်စာမေးပွဲများ ဦးဆောင် ဦးဆောင်ကျင်းပ၍ နိုင်ငံတော် သံဃမဟာနာယကအဖွဲ့ ဥက္ကဋ္ဌ ဆရာတော်အဖြစ် ထင်ရှားပါသည်။

ဣန္ဒာစာရ၊ ရှင်၊ ပဲခူးမြို့မဆရာတော် —

၁၈၉၇ ခုနှစ် ဇူလိုင်လ ၁၁ ရက် တနင်္ဂနွေနေ့၌ ပဲခူးမြို့နယ် ဝမ်းဘဲအင်းရွာ၌ ဖွားသည်။ အဖ ဦးရွှေအေး၊ အမိ ဒေါ်လှညိမ်း ဖြစ်သည်။ မွေးချင်း ၇ ယောက်တွင် အကြီးဆုံးဖြစ်ပြီး အမည် အောင်သိန်းလေး ဖြစ်သည်။

အသက် ၅ နှစ်တွင် ဝမ်းဘဲအင်းရွာ ဆရာဦးစံအေး၏ မြန်မာစာသင်ကျောင်း၌ စတင်ပညာသင်သည်။ ၁၀ နှစ်သားတွင် လေးတန်းအောင်သည်။ ဝမ်းဘဲအင်းရွာ အနောက်ကျောင်းကြီး ဆရာတော်ရှင်သုဒဿနထံ ပြောင်းရွှေ့ ပညာဆည်းပူးသည်။ ၁၁ နှစ်တွင် သာမဏေဖြစ်သည်။ ဘွဲ့မည် ရှင်ဣန္ဒ၊ ဥပဇ္ဈာယ်ဆရာ ရှင်သုဒဿန၊ ရှင်ဒါယကာမှာ မိဘနှစ်ပါး ဖြစ်သည်။ သာမဏေ ၈ ဝါရသည့်တိုင် ရှင်သုဒဿနထံတွင် သဒ္ဒါ၊ သင်္ဂြိုဟ်၊ ဝိနည်းတို့ကို သင်ယူသည်။

အသက် ၂၀ ပြည့်ချိန် ၁၉၁၇ ခုနှစ် ဖေဖော်ဝါရီလ ၂၄ ရက် စနေနေ့တွင် ဝမ်းဘဲအင်း အနောက်ကျောင်းသိမ်၌ ရှင်သုဒဿနကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဖြစ်သည်။ မိဘများက ရဟန်းဒါယကာခံသည်။ ရဟန်းဘွဲ့ ရှင်ဣန္ဒာစာရ ဖြစ်သည်။ ရဟန်း ၁ ဝါရတွင် ၈ ကြိမ်မြောက် ပဲခူး သုဓမ္မာနိကာယ ကြေးနီကန်ဝိနည်းစာပြန်ပွဲ အောင်မြင်ခဲ့သည်။ ဥဘတောဝိဘင်း၊ ဥဒ္ဒေသပါဠိ၊ ခုဒ္ဒကသိက္ခာ၊ မူလသိက္ခာတို့ကို အာဂုံပြန်ဆိုခဲ့သည်။ ရဟန်း ၂ ဝါရတွင် ချောင်းဦး ဓမ္မာရုံဆရာတော် ရှင်ဒီပမာလာ (၁၈၇၄—၁၉၃၄) ထံ ပိဋကတ်စာပေများ သင်ယူသည်။ ရှင်ဒီပမာလာမှာ ရှင်သုဒဿန၏ ညီတော်ဖြစ်၍ ပရိယတ္တိအရာ ထင်ရှားသည်။ မုံရွာ သုဓမ္မာဂိုဏ်းချုပ်၊ ပရမတ္ထဝိဘာဝနီကျမ်းပြု ဖြစ်၏။ ပရမတ္ထဝိဘာဝနီကျမ်းမှာ လယ်တီဆရာတော် ရှင်ဉာဏ (၁၈၄၆-၁၉၂၃)၏ ပရမတ္ထဒီပနီဋီကာခေါ် ဋီကာမော်ကို ချေပသောကျမ်း ဖြစ်သည်။ ချောင်းဦးဆရာတော်ထံ၌ ၃ နှစ် ပရိယတ္တိစာပေသင်ယူစဉ် အစိုးရပထမပြန် ငယ်၊ လတ်၊ ကြီး စာမေးပွဲများ ဖြေဆိုအောင်မြင်သည်။

ရဟန်း ၅ ဝါရတွင် မန္တလေး မစိုးရိမ်တိုက် ရှင်သောမာဘိဝံသ (၁၈၇၇—၁၉၃၉)၊ ရှင်သူရိယ (၁၈၇၉—၁၉၇၅)၊ ရှင်ဉာဏ (၁၈၈၃—

၁၉၃၇) တို့ထံ ပါဠိတော် အဋ္ဌကထာ ဋီကာများကို နေ့ဝါ ညဝါဖြင့် သင်ယူ ခဲ့သည်။ မစိုးရိမ် ဝိနည်းစာမေးပွဲကိုလည်း တတိယအဆင့်အထိ ဖြေဆို အောင်မြင်ခဲ့သည်။ မန္တလေးတွင်နေစဉ် ဒေါင်ပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချအကျော် သာသနာ့ဇောတိကာရုံဆရာတော် အရှင် နာရဒ (၁၈၈၈—၁၉၆၅) နှင့် ရွှေရေးဆောင်ဆရာတော် ဦးကြည် ခေါ် ရှင်အာဒိစ္စရံသီ (၁၈၅၇—၁၉၃၅) တို့ထံ မန္တလေးစာသင်နည်း နည်းခံ ခဲ့သည်။ ၇ ဝါမြောက်တွင် ပိဋကတ်သုံးသွယ် နိကာယ်ငါးရပ် ကျမ်းအိပ်များ ပို့ချရာ ပခုက္ကူ မဟာဝိသုတာရာမတိုက် အရှင်ပညာ (၁၈၇၈—၁၉၄၆)၊ ရှင်နန္ဒဝံသ (၁၈၈၂—၁၉၅၇)၊ ရှင်သုနန္ဒ (၁၈၇၉—၁၉၇၂) တို့ထံ နည်းခံ သင်ယူပါသည်။ မဟာဝိသုတာရာမတိုက်တွင် ပခုက္ကူနည်းဖြင့် ကျမ်းပေါက် ၃ နှစ်ခန့် သင်ယူနေစဉ် ပလိပ်ရောဂါကြောင့် မြင်းခြံခရိုင် တောင်သာ မြို့နယ် ဆယ်တွင်းချောင်တောရ ကျွန်းရွာဆရာတော် ရှင်အဂ္ဂဝံသ (၁၈၈၀—၁၉၄၉) ထံ ပြောင်းရွှေ့နည်းခံသည်။ ရှင်အဂ္ဂဝံသမှာ ဝိနိစ္ဆယ ဖြတ်ထုံး၊ ဂန္ထန္တရကျမ်းဂန် အရပ်ရပ်တွင် 'တစ်မိုးအောက် တစ်အဂ်' ဟု ဆိုရိုးပြုခံရ၏။

တောင်သာတွင် ပရိယတ္တိစာပေ ဆည်းပူးနေစဉ် ထင်ရှားလှသော တောင်သာဗိန္ဓောဆေးပညာကို တောင်သာဆရာမှုန်၊ ဆရာမှဲ့တို့၏ သားတပည့် ဆရာကြီး ဦးတဲနှင့် မုန်းပင်ဘုန်းကြီး ဦးကွဲထံ နည်းခံ သင်ယူခဲ့သည်။ ထို့နောက် ဗေဒပါရဂူ၊ ဝါကျပါရဂူ ဖက်ပင်အိုင်ဆရာတော် ရှင်ဒီပ (၁၈၅၆—၁၉၃၈) ထံ နည်းခံရန် အခါအခွင့်စောင့်နေစဉ် ရမည်းသင်း ပျော်ကုန်းရွာ၌ ဝါဆိုသည်။ ထိုစဉ် ကိုရင် ရှင်စန္ဒောဘာသ (နောင် နိုင်ငံတော် သံဃမဟာနာယကအဖွဲ့ဝင် ရွှေတောင်ဆရာတော်)၊ ရှင်ဒီပတို့ တောင်းပန်၍ 'ဝိဂြိုဟ်အလင်းပြကျမ်း' ပြုစု၏။ ပျော်ကုန်းမှ တစ်ဆင့် တောင်မြို့ခေါ် အမရပူရ မင်္ဂလာတိုက်သစ် ညဝါအကျော် ရှင်ဓမ္မသာမိထံ ပဋ္ဌာန်းညဝါ၊ တူးမောင်းတိုက် ရှင်နန္ဒိယထံ ဗန်းမော်ဆန်း ကျမ်းမူကျယ် သင်ယူခဲ့သည်။

အမရပူရတွင် စာပေ သင်ယူပို့ချနေစဉ် ဖက်ပင်အိုင်၌ သင်ယူရန် အခွင့်ရ၍ ၁၁ ဝါရ၌ မြင်းခြံနယ် ဖက်ပင်အိုင်အနီး ကျောင်းတိုင်ရေတွင်း ကျောင်းကို ပြောင်းရွှေ့ခဲ့သည်။ ဖက်ပင်အိုင်ဆရာတော်ထံမှ အဘိဓမ္မတ္ထ

ဝိဘာဝနီခေါ် ဋီကာကျော်နှင့် မူလဋီကာ ထပ်မံသင်ယူသည်။ ဖက်ပင်အိုင် ဆရာတော်၏တပည့် ပင်လယ်ရွာဘုန်းကြီး အရှင်သောဘိတထံမှ ဝါထပ် ရက်ငင်ဆိုင်ရာ လက်ရိုးကျမ်း၊ သရေဒွေးကျမ်းနှင့် ဗေဒင်နက္ခတ်ကျမ်းများ လေ့လာသင်ယူသည်။ ဖက်ပင်အိုင်နိယံအဖြေခေါ် ဝါကျတ္တပါဒက ဝါကျ အခြေပြုကျမ်းကိုလည်း ရေးမှတ်ခဲ့သည်။ ၁၉၃၁ ခုနှစ်တွင် ပဲခူးလျှင်နှင့် ဆရာစံဦးဆောင်သော တောင်သူလယ်သမားပုန်ကန်မှုကြောင့် နယ်မြေ မငြိမ်မသက်ဖြစ်နေသဖြင့် မိဘနှစ်ပါးနှင့် ဥပဇ္ဈာယ်ဆရာက ပြန်လည် ခေါ်ယူခဲ့၏။

၁၉၃၁ ခုနှစ်တွင် ဇာတိ ဝမ်းဘဲအင်းအနောက်ကျောင်း ဥပဇ္ဈာယ် ဆရာထံ ပြန်သီတင်းသုံးသည်။ ကျောင်းသား၊ သာမဏေများကို စာပေ ပို့ချ၍ ဥပဇ္ဈာယ်ဆရာကို ပြန်လည်စောင့်ရှောက်သည်။ စာသင်သံဃာ ၃၀ ခန့် တိုးပွားလာရာ ကျေးရွာအခြေအနေနှင့် ဆွမ်းကွမ်းထောက်ပံ့ရန် အခက်အခဲဖြစ်လာသည်။ ၁၉၃၃ ခုနှစ်တွင် ဘုန်းတော်ကြီး ဦးဩဘာ ဆက်သွယ်ပေးသဖြင့် ပဲခူးမြို့ စိန်ထွန်းရပ် ဥတ္တရာဇေယျုံကျောင်းကို ပြောင်းရွှေ့ စာချသည်။ ထိုမှတစ်ဖန် ပဲခူးမြို့ ညောင်ဝိုင်းကျောက်ကို ပြောင်းရွှေ့သည်။ ညောင်ဝိုင်းကျောင်းမှာ မူလက ရဟန္တာဟု ထင်ရှားသော တောရဘုန်းကြီး ဦးသီလ (၁၈၃၂—၁၉၀၇) သီတင်းသုံးသည့်နေရာ ဖြစ်သည်။ လက်ရှိ ညောင်ဝိုင်းဘုန်းကြီး ရှင်သုမန၏ ခွင့်ပြုချက်ဖြင့် ၁၉၃၄ ခုနှစ်တွင် သုမနာဝံသ ဝိဇ္ဇာလယ မြို့မစာသင်တိုက် ဖြစ်လာသည်။

ရှင်ကေနွာစာရသည် ဦးလေးတော် ရှင်ဝိစိတြနှင့်အတူ မြို့မစာသင် တိုက်ကို သက်ငယ်မိုး၊ ဝါးကပ်အဆောက်အအုံ စာသင်သံဃာ ၂၀ မျှဖြင့် စတင်ခဲ့သည်။ စာသင်တိုက်မှာ တဖြည်းဖြည်း စာသင်သံဃာ ၅၀ ခန့်အထိ တိုးပွားလာသည်။ ၁၉၃၇ ခုနှစ်တွင် တောင်ခွင်သာသနာပိုင် ရှင်ဝိသုဒ္ဓါ သီလာစာရ၏ 'ရာမညရဋ္ဌ ဝိနယဓရ သာသနာပြုဆရာတော်' ဘွဲ့တံဆိပ် ချီးမြှင့်ခံရသည်။

ဂျပန်ခေတ် (၁၉၄၂—၄၅) တွင် ရှင်ကေနွာစာရသည် တပည့် စာသင် သားအချို့နှင့်အတူ ဝမ်းဘဲအင်းရွာပြောင်း၍ ခေတ္တယာယီကျောင်းတည်ပြီး စာကြည့် ကျမ်းပြုခဲ့သည်။ ပဲခူးမြို့ပေါ်ရှိ မြို့မစာသင်တိုက်ကိုလည်း အခြေ အနေအရ စောင့်ရှောက် ထိန်းသိမ်းခဲ့သည်။ ဂျပန်ခေတ်တွင် ဝိနည်း

စာမေးပွဲများကျင်းပရာ စာစစ်ဆရာတော်အဖြစ် တာဝန်ပေးအပ်ခံရသည်။ ၁၉၄၅ ခုနှစ် ဖေဖော်ဝါရီလ ၁၉ ရက် တနင်္လာနေ့တွင် ညောင်ဝိုင်းတိုက် ဂရန်ပိုင် ဘုန်းကြီး ရှင်သုမက စာချဆရာတော် ရှင်ကုန္ဒာစာရအား 'မြို့မစာသင်တိုက်' တိုက်ပိုင်အဖြစ် အပြီးအပြတ် လွှဲအပ်ပေးခဲ့သည်။ စစ်ပြီး မြို့မစာသင်တိုက်ကို ပြန်လည်ပျိုးထောင်နေစဉ် ၁၉၄၆ ခုနှစ် ဒီဇင်ဘာလ ၅ ရက်တွင် ပဲခူးမြို့နယ် သုဓမ္မာ ဂိုဏ်းလုံးဆိုင်ရာ သံဃအစည်းအဝေး ကျင်းပခဲ့သည်။ ထိုအစည်းအဝေးတွင် ရှင်ကုန္ဒာစာရသည် အခမ်းအနားမှူး အဖြစ် ဆောင်ရွက်ခဲ့၍ အစည်းအဝေးက အမှုဆောင်အဖွဲ့ဝင်အဖြစ် ရွေးချယ် တာဝန်ပေးအပ်ခံရသည်။ ၁၉၅၂ ခုနှစ်တွင် ပဲခူးမြို့နယ် ဝိနိစ္ဆယ ဌာန ဝိနည်းဓိုရ်၊ ပဲခူးခရိုင် ဝိနည်းဓိုရ်အဖြစ် ထပ်မံ တာဝန်ပေးအပ် ခံရသည်။ ၁၉၅၂-၅၃ ခုနှစ်တွင် ပဲခူးမြို့ ရွှေမော်ဓောစေတီ ပြန်လည် တည်ဆောက်ရေးအဖွဲ့ ဩဝါဒါစရိယအဖွဲ့ဝင်အဖြစ် ပါဝင်ခဲ့သည်။

၁၉၅၄ ခုနှစ် ဆဋ္ဌသင်္ဂါယနာသဘင်၌ ပါဠိဝိသောဓကအဖွဲ့ဝင်၊ ပဲခူးမြို့နယ် သုဓမ္မာနိကာယ ပါဠိဝိသောဓကအဖွဲ့ အကျိုးဆောင်အဖြစ် ရွေးချယ်ခံရသည်။ ဝိသောဓကအဖွဲ့နှင့်အတူ ဘူရိဒတ္တ၊ စန္ဒကုမာရ၊ မဟာ နာရဒ၊ ဝိဓူရ၊ ဝေဿန္တရာဇာတ် အဋ္ဌကထာ ပါဠိနိဿယ၊ ဇာတ်ပါဠိတော်၊ ပါဠဇာတ်ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာတို့ကို သုတ်သင်တည်းဖြတ်ပေး ခဲ့သည်။ ဆဋ္ဌသင်္ဂါယနာ အလှည့်ကျ သိင်္ဂီတိကာရ ဘဏကဆရာတော် အဖြစ် ၁၉၅၆ ခုနှစ် ဧပြီလ ၂၀ ရက်မှ မေလ ၂၇ ရက်အထိ ကျင်းပသော ပဥ္စမ သန္နိပါတတွင် ပါဝင်ဆောင်ရွက်ခဲ့သည်။

၁၉၆၅ ခုနှစ် မတ်လ ၁၇ ရက်မှ ၁၉ ရက်အထိ မှော်ဘီမြို့တွင် ကျင်းပသော ဂိုဏ်းပေါင်းစုံ သံဃအစည်းအဝေးကြီး၌ သုဓမ္မာနိကာယမှ ပဲခူးခရိုင်ကိုယ်စားလှယ်အဖြစ် တက်ရောက်ဆွေးနွေးခဲ့သည်။

၁၉၇၅ ခုနှစ်တွင် မစိုးရိမ်ဆရာတော် ရှင်သူရိယာဘိဝံသ၏ လမ်းညွှန်မှု၊ တိုက်တွန်းမှုအရ ပဲခူးနယ်တွင် နိကာယ်စာမေးပွဲများ ကျင်းပရန် တာဝန်ယူ၍ ၁၉၇၆ ခုနှစ်မှစတင်၍ ပဲခူးမြို့မစာသင်တိုက်၌ စာမေးပွဲများ ကျင်းပပေးခဲ့သည်။ နိကာယ်သာသနာပြန့်ပွားရေးအဖွဲ့ ပဓာန နာယကအဖြစ် တာဝန်ယူခဲ့သည်။

၁၉၈၀ ပြည့်နှစ် မေလ ၂၄ ရက်မှ ၂၇ ရက်အထိ ရန်ကုန်မြို့

ကမ္ဘာ့အေးကုန်းမြေ မဟာပါသာဏလိုဏ်ဂူတော်၌ ကျင်းပသော ဂိုဏ်းပေါင်းစုံ သံဃအဖွဲ့အစည်းကြီး၏ ဥက္ကဋ္ဌ၊ နိုင်ငံတော် ဗဟိုသံဃဝန်ဆောင်အဖွဲ့ ဥက္ကဋ္ဌ၊ နိုင်ငံတော် သံဃမဟာနာယကအဖွဲ့ ဥက္ကဋ္ဌအဖြစ် ရွေးချယ်တင်မြှောက်ခံရသည်။ ထိုအချိန်မှစ၍ ပျံလွန်သည့်တိုင် သံဃအဖွဲ့အစည်းများ၏ ဥက္ကဋ္ဌအဖြစ် တာဝန်ယူခဲ့သည်။ နိုင်ငံတော် သံဃမဟာနာယကအဖွဲ့ဥက္ကဋ္ဌအဖြစ် ၁၉၈၉ ခုနှစ်တွင် လေးနိုင်ငံဘုရားဖူး (ထိုင်း၊ အိန္ဒိယ၊ နီပေါ၊ သီရိလင်္ကာ)၊ ၁၉၉၀ ပြည့်နှစ်တွင် ငါးနိုင်ငံ ပရိယတ္တိပညာသင်ကြားမှု လေ့လာရေး (နီပေါ၊ အိန္ဒိယ၊ သီရိလင်္ကာ၊ ဂျပန်၊ ထိုင်း) ခရီးများ ကြွရောက်ခဲ့သည်။

နိုင်ငံတော်က အဂ္ဂမဟာပဏ္ဍိတဘွဲ့ (၁၉၈၀)၊ အဘိဓဇ မဟာရဋ္ဌဂုရုဘွဲ့ (၁၉၈၃)၊ အဘိဓဇအဂ္ဂမဟာသဒ္ဓမ္မဇောတိကဘွဲ့ (၁၉၉၁) တို့ ဆက်ကပ်ခံရသည်။

ပြုစုခဲ့သော စာပေကျမ်းများမှာ ပိဋကတ်ကြေးမုံ ပကိဏ္ဏကဝိနိစ္ဆယ၊ ဖက်ပင်အိုင်နိဿယအဖြေခေါ် ဝါကျအခြေပြုကျမ်း၊ ဋီကာကျော်ဂဏ္ဌိသစ်၊ ဝိသုဂါမဝိနိစ္ဆယစာတမ်း၊ ဝါစနက္ကမဒီပနီ၊ ပဋ္ဌာန်းညဝါကြေးမုံကျမ်း၊ ဝါကျနယူပဒေသ၊ မာတိကာ ညဝါကြေးမုံ နိဒါန်းအဖွင့်နှင့် ဓာတုကထာ နယလက္ခဏာ စသော ၃၆ ကျမ်း ရှိသည်။ အများစုမှာ လက်ရေးမူအဖြစ်သာ ကျန်ရစ်သည်။ ပုံနှိပ်မှုသို့ မရောက်သေးချေ။

သက်တော် ၉၃ သိက္ခာ ၇၇ ဝါအရ ၁၉၉၃ ခုနှစ် ဧပြီလ ၂၈ ရက် ဗုဒ္ဓဟူးနေ့တွင် ရန်ကုန်မြို့ တပ်မတော်ဆေးရုံကြီး၌ ဘဝနတ်ထံ ပျံလွန်ခဲ့ပါသည်။





## မိုးကုတ်ဆရာတော်
## ရှင်ဝိမလ
(၁၈၉၉ — ၁၉၆၂)

ပရိယတ်ပဋိပတ် စွယ်စုံ ကျွမ်းကျင်လိမ္မာ၍ မိုးကုတ်ဝိပဿနာ တရားနှင့်အတူ နိုင်ငံအနှံ့ 'မိုးကုတ်ဆရာတော်'ဟု ထင်ရှားသည်။ ခန္ဓာ ဝန်ချပြီး ဓာတ်တော်များ ကြွင်းကျန်ရစ်ရာ ရဟန္တာဟု ရှင်လူအများ၏ ယုံကြည်အားထားခံရသည်။ အထူးသဖြင့် မျက်မှောက်ဘဝမှာပင် တစ်မဂ် တစ်ဖိုလ်ရရေး ဦးစားပေးကာ သစ္စာလေးပါး၊ ပဋိစ္စသမုပ္ပါဒ်နှင့် စိတ္တာ နုပဿနာတို့ကို ဟောပြောလေ့ရှိသည်။ ရှင်သာမဏေ ဘဝကပင် တောင်မြို့ ညဝါအကျော် ဆရာကြီးဦးအုန်းထံ အဘိဓမ္မာ ညဝါကျမ်းများ သင်ယူခဲ့သည်။ ရဟန်း ၄ ဝါရတွင် ဆရာကြီး ဦးအုန်း၏ လွှဲအပ်ချက်အရ အဘိဓမ္မာညဝါများ ပို့ချခဲ့ရာ အမရပူရ မင်္ဂလာတိုက်ဟောင်း ညဝါ စာချ အကျော်အဖြစ် ထင်ရှားခဲ့သည်။ ရဟန်း ၁၃ ဝါတွင် စစ်ကိုင်းတောင်ရိုး ဓမ္မကထိက လယ်တီဦးပဒုမ၏ ညွှန်ကြားချက်ဖြင့် ညောင်လေးပင်မြို့ အဘိဓမ္မာတရားပွဲများ ၉ နှစ်တိုင်တိုင် ဟောပြော၍ လယ်တီဆရာတော်၏ အဘိဓမ္မာတရားပွဲအမွေခံယူခဲ့သည်။ စာသင်၊ စာချ၊ တရားဟောနေရာမှ အောင်ခြင်းရှစ်ပါးဆရာတော်၏ သတိပေးဆုံးမမှုဖြင့် ဒုတိယကမ္ဘာစစ် အတွင်း မိုးကုတ်ဒေသတွင် ကျင့်ကြံအားထုတ်ခဲ့ရာ မိုးကုတ်ဆရာတော်ဟု အမည်တွင်ခဲ့သည်။ ခန္ဓာဝန်ချပြီး တပည့် ရဟန်းရှင်လူများ၏ ကြိုးစား အားထုတ်မှုဖြင့် မိုးကုတ်ဝိပဿနာအဖွဲ့များ နိုင်ငံအနှံ့ ပေါ်ထွန်းလာခဲ့သည်။

## ဝိမလ၊ ရှင်၊ မိုးကုတ်ဆရာတော် —

၁၈၉၉ ခုနှစ် ဒီဇင်ဘာလ ၂၇ ရက် ဗုဒ္ဓဟူးနေ့တွင် မန္တလေးတိုင်း အမရပူရမြို့နယ် ဥယျာဉ်တော်ရွာ၌ ဖွားသည်။ အဖ တောင်သူ ဦးအောင်ထွန်း၊ အမိ ဒေါ်ရွှေအိပ် ဖြစ်သည်။ မွေးချင်း ရှစ်ယောက်တွင် ပဉ္စမမြောက်။ အမည် မောင်လှဘော် ဖြစ်သည်။

၄ နှစ်အရွယ်တွင် ဥယျာဉ်တော်ရွာ ဦးစံရ မူလတန်းကျောင်း၌ စတင်ပညာသင်သည်။ ၉ နှစ်တွင် ၄ တန်းအောင်၏။ ၄ တန်းအောင်ပြီး ဥယျာဉ်တော်ရွာ ဌေးပင်တောရကျောင်း ဆရာတော် ရှင်ဇာဂရထံ သာမဏေ ပြုသည်။ မိဘနှစ်ပါးက ရှင်ဒါယကာခံသည်။ ဘွဲ့ ရှင်ဝိမလ။ သာမဏေ ဝတ်ဖြင့် ဗုဒ္ဓဘာသာအခြေခံစာများ၊ ပါဠိ သဒ္ဒါနှင့် သင်္ဂြိုဟ်တို့ သင်ယူသည်။ သာမဏေ ၃ ဝါရတွင် သက်န်းပျားစွဲရာ ဥပဇ္ဈာယ်ဆရာက ဘုန်းကံကြီးမား မည်ဟု မိန့်ဆိုခဲ့သည်။ သာမဏေ ၅ ဝါရတွင် ပရိယတ်အခြေခံ သဒ္ဒါ ဆိုင်ရာ ပုဒ်စစ်၊ သုတ်စစ်၊ သဒ္ဒါစစ်၊ နည်းလေးဆယ်၊ ပဒမာလာ သင်္ဂြိုဟ် ဆိုင်ရာ ဝီထိလက်ရိုး၊ မာတိကာ၊ ဓာတုကထာကျမ်းများ သင်ယူသည်။

သာမဏေ ၅ ဝါရတွင် အမရပူရမြို့ မင်္ဂလာတိုက် တိုက်အုပ်ဆရာ တော် ရှင်သုဇာတထံ ပြောင်းရွှေ့ ပညာသင်သည်။ တိုက်အုပ်ဆရာတော်ထံမှ ရူပသိဒ္ဓိ၊ စာချဆရာကြီး ဦးအုန်းထံမှ ဥဒဝါဆိုင်ရာ မာတိကာတို့ စတင် သင်ယူသည်။ ဦးအုန်း (၁၈၄၆—၁၉၂၅) မှာ မင်းတုန်းမင်းလက်ထက် မဏ္ဍလာရာမတိုက် ဉဒဝါအကျော် ပြည်ဆရာတော်၏ တပည့်ရင်းတစ်ပါး ဖြစ်၍ ကိုယ်တိုင် ပထမကျော်၊ ပထမစာတော်ချ၊ ဉဒဝါအကျော်ဆရာတော် တစ်ပါး ဖြစ်သည်။ အရှင်နှစ်ပါး ပါတော်မူပြီးနောက် လူဝတ်လဲပြီး အမရပူရ (တောင်မြို့)တွင် ရဟန်း၊ သာမဏေနှင့် သီလရှင်များကို ဉဒဝါကျမ်းများ ပို့ချသည်။ ဦးအုန်း၏ ဉဒဝါစာပေပို့ချမှုကို အကြောင်းပြု၍ ကိုလိုနီခေတ် တွင် တောင်မြို့သည် မန္တလေး၊ ပခုက္ကူစာသင်တိုက်ကြီးများနှင့်အတူ ရဟန်းတော်များ ပရိယတ္တိစာပေ သင်ယူရာ အထူးအားဖြင့် ဉဒဝါ သင်ယူရာ ဉဒဝါတက္ကသိုလ်အဖြစ် အလွန်ထင်ရှားသည်။ စာလိုက်သံဃာ များပြားလွန်း၍ မင်္ဂလာတိုက်နှင့် မဆံ့။ အနီးဝန်းကျင် ကျောင်းတိုက် များနှင့် ရပ်ကွက်ဓမ္မာရုံ၊ ဇရပ်များတွင်ပါ သီတင်းသုံး၍ စာလိုက်ရသည်။

တစ်ခါတစ်ရံ တောင်သမန်အင်းစောင်း မယ်ဇလီပင်တန်းများအောက်တွင် ယာယီ သီတင်းသုံး စာလိုက်ကြရသည်။

ရှင်ဝိမလသည် အစ်မ သီလရှင် မသုစာရီ၏ အပ်နှံမှုဖြင့် ဆရာကြီး ဦးအုန်းထံ ညဝါသင်ကြားနေစဉ် မန္တလေးတွင် ပုလိပ်ရောဂါကျရောက်၍ ဆရာကြီးဦးအုန်းနှင့်အတူ ဆရာကြီး၏ဇာတိ ရမည်းသင်းနယ် အလည်ကုန်းရွာ၌ ၇ လခန့် ပြောင်းရွှေ့ ပညာသင်ခဲ့သည်။ သာမဏေ ရှင်ဝိမလ အပါအဝင် ရဟန်း ၁၀ ပါး၊ သီလရှင် ၂၀ ပါးခန့် လိုက်ပါ၍ အလည်ကုန်းရွာ ကျောင်းဝင်းဇရပ်၌ ညဝါဆိုင်ရာ မာတိကာ၊ ဓာတုကထာ၊ ယမိုက်၊ ပဋ္ဌာန်းကျမ်း သင်ယူခဲ့သည်။ ထို့နောက် အမရပူရ မင်္ဂလာတိုက်သို့ ပြန်လည် ပြောင်းရွှေ့ ပညာသင်သည်။

၁၉၁၉ ခုနှစ် ဇူလိုင် ၄ ရက်နေ့တွင် အမရပူရ မင်္ဂလာတိုက်အုပ် ဆရာတော် ရှင်သုဇာတကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဖြစ်သည်။ ဘွဲ့ ရှင်ဝိမလ။ ရဟန်းဒါယကာမှာ အမရပူရ အိုးတော်ရပ် ကုန်သည် ဦးဝင်း၊ ဒေါ်စောမိသားစုဖြစ်သည်။ ရဟန်းခံသိမ်ထွက်ပြီး မကုတကျောင်းပေါ် ဝါးလုံးတန်း၌ သက်န်းဖြန့်လှန်းထားစဉ် ဒုတိယအကြိမ် ပျားစွဲသည်။ ပျားစွဲခြင်းကို နောင်တော်ကြီးပမာ စောင့်ရှောက်နေသော ဘုန်းကြီး ရှင်နာဂဝံသ (နောင်အောင်ခြင်းရှစ်ပါးဆရာတော်) က ယခုဘဝမှာပင် တရားထူးရမည်၊ ကိစ္စပြီးမြောက်မည်ဟု နိမိတ်ကောက်ယူ အားပေးခဲ့သည်။

ရဟန်းပြုပြီး ဆရာကြီးဦးအုန်း၏ ညွှန်ကြားချက်ဖြင့် အထက်တန်းနေ့ဝါစာပေများ သင်ယူရန် မန္တလေးကို နေ့စဉ်သွား၍ စာတက်ရသည်။ မန္တလေးမြို့ အနောက်ပြင် ခေမာသီဝံကျောင်းတိုက်ဆရာတော်၊ တောင်ပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချဆရာတော်များနှင့် စာချ ဦးခန္တီ၊ တောင်ပြင် ရွှေရေးဆောင်တိုက် စာချအကျော် ရှင်အာဒိစ္စရံသီတို့ထံ ပရိယတ္တိစာပေများ ဆက်လက်သင်ယူသည်။ ဆရာကြီးဦးအုန်းထံတွင်လည်း ဆရာကြီး၏ ရှေ့မှောက် ဆရာကြီး၏ကိုယ်စား ညဝါကျမ်းများကို ရှင်ဓမ္မသာမိနှင့်အတူ တစ်လှည့်စီ ပို့ချပေးရသည်။

မန္တလေးတွင် ၃ နှစ်ခန့် စာလိုက်ပြီးနောက် ဆရာကြီး ဦးအုန်းထံမှာပင် ညဝါစာချနိုင်ရန် ပညာအမွေ ဆက်လက်ခံယူခဲ့သည်။ ရဟန်း

၄ ဝါရတွင် ဆရာကြီး၏ ခွင့်ပြုချက်ဖြင့် ညဝါစာချ တာဝန်အပြည့်အဝ စတင်ထမ်းဆောင်ခဲ့ရသည်။

ရဟန်း ၃ ဝါတွင် သီလရှင် ဆရာကြီး ဒေါ်ဝိစာရီက ဒုတိယအကြိမ် သိက္ခာထပ်ရာ မိုးကုတ်ဇာတိ ရဟန်းအမ ဒေါ်ဝိစာရီကို အကြောင်းပြု၍ မိုးကုတ်နှင့် ဆက်သွယ်မိသည်။ ရဟန်း ၅ ဝါရတွင် တစ်နှစ်တာ စာဝါ ပြီးချိန် မင်းကွန်းမိုးကုတ်ချောင် သီလရှင် ဒေါ်ဝိလာသထံ အနားယူသွား ရောက်ရာ နောင် ဒါယကာရင်းချာဖြစ်လာမည့် မိုးကုတ်မှ ဒေါ်သိုင်းခြုံ၊ ခင်ပွန်း ဦးလယ်တို့နှင့် အဆက်ဖြစ်လာသည်။ မင်းကွန်းချောင်တွင် သီလရှင် များကို ညဝါပို့ချသည်။ ၁၉၂၅ ခုနှစ်တွင် ဆရာကြီးဦးအုန်း ကွယ်လွန် ခဲ့ရာ အဘိဓမ္မာညဝါဆိုင်ရာ မာတိကာ၊ ဓာတုကထာ၊ ယမိုက်၊ ပဋ္ဌာန်း စာဝါများကို စာသင်ဖက် ရှင်ဓမ္မသာမိ၊ ရှင်အာစာရ၊ ရှင်ကောသလ္လ၊ ရှင်ဉာဏိန္ဒတို့နှင့် ခွဲဝေပို့ချသည်။ ရှင်ဝိမလသည် နေ့စဉ် ညဝါ စာနှစ်ဝါ ပို့ချရာ စာလိုက်သံဃာ ၂၅၀ မှ ၃၀၀ ခန့်အထိရှိသည်။ စာဝါပို့ချမှုအပြင် အဘိဓမ္မာတရားဟော ဓမ္မကထိကအဖြစ်လည်း တရားပွဲများ ကျင်းပ ဟောပြောသည်။ ၈ ဝါရတွင် ညဝါဆိုင်ရာ ယမကမဥ္ဇရီ (၁၉၂၇) နှင့် ပုထုဇနအလင်းပြကျမ်းတို့ ပြုစုသည်။

၁၉၃၁ ခုနှစ်တွင် လယ်တီဆရာတော် ရှင်ဉာဏ (၁၈၄၆—၁၉၂၃) ၏ တပည့်ရင်း စစ်ကိုင်းတောင်ရိုး လယ်တီဦးပဒုမ၏ တိုက်တွန်းမှုဖြင့် ညောင်လေးပင်တရားပွဲတွင် အဘိဓမ္မာတရားများ စတင်ဟောကြားသည်။ လယ်တီဆရာတော်၏ အဘိဓမ္မာတရား ဟောပြောမှု ဓမ္မအမွေကို ဆက် ခံခြင်းဖြစ်ရာ ၁၉၃၉ ခုနှစ်တိုင် ဖြစ်သည်။ ရှင်ဝိမလ၏ အဘိဓမ္မာတရားပွဲ ကို ထိုစဉ်က ညောင်လေးပင်တောရတိုက် ဆရာတော် ရှင်အရိယ (၁၈၈၇— ၁၉၅၂) က အားပေးချီးမြှင့်ခဲ့သည်။ ထိုသို့ နှစ်စဉ် ညဝါစာချ၊ အဘိဓမ္မာ တရား ဟောပြောနေရာ ရှင်နာဂဝံသ (နောင် အောင်ခြင်းရှစ်ပါးဆရာ တော်) ၏ 'ကိုယ့်ကိစ္စ ကိုယ်စိတ်ချရအောင်လုပ်ဖို့ အချိန်ရောက်နေပြီ'ဟု သတိပေးခံရသည်။

၁၉၃၂ ခုနှစ်တွင် မိုးကုတ်မြို့မှ ဦးလယ် ဒေါ်သိုင်းခြုံတို့ ပင့်လျှောက်၍ မိုးကုတ်ကို ပထမဆုံး ကြွရောက် အဘိဓမ္မာတရား ဟောကြားသည်။ ထိုအချိန်မှစ၍ မိုးရာသီတွင် အမရပူရ၌ ညဝါစာချ၊ ဆောင်းတွင် မင်းကွန်း၊

နွေဦး၌ ညောင်လေးပင်တရားပွဲ၊ နွေရာသီ၌ မိုးကုတ်မြို့ လှည့်လည် သီတင်းသုံးသည်။

၁၉၃၅ ခုနှစ်တွင် မိုးကုတ်မြို့မှ ဒေါ်အုံ၊ ဒေါ်ဖုံ မိသားစုတို့က အမရပူရ မဂ်လာတိုက်၌ မိုးကုတ်ကျောင်းဆောင် ဆောက်လုပ်လှူဒါန်း ရာမှ မိုးကုတ်ဆရာတော်ဟု အမည်တွင်လာသည်။ ၁၉၃၈ ခုနှစ်တွင် သီရိလင်္ကာနိုင်ငံ အနုရာဓမြို့ဟောင်း မဟာစေတီ ဂေါပကအဖွဲ့သည် မဟာစေတီ စိန်ဖူးတော်အတွက် ကိုလံဘို မကုဋာရာမဆရာတော် ရှင်ဝိနယာလင်္ကာရမှတစ်ဆင့် မိုးကုတ်မြို့ကို အကူအညီတောင်းခံလာသည်။ စိန်ဖူးတော်အတွက် ရှင်ဝိမလသည် မိုးကုတ်သုသာန်ကျောင်းဆရာတော် ရှင်ကောသလ္လနှင့်အတူ ဦးဆောင်၍ ကျပ်တစ်သိန်းတန် စိန်ဖူးတော်နှင့် ပတ္တမြားကလပ် လှူဒါန်းခဲ့သည်။

ဒုတိယကမ္ဘာစစ်မီး ကူးစက်လာချိန်တွင် မိုးကုတ်မြို့မှ ဒါယကာ၊ ဒါယိကာမများ၏ ပင့်လျှောက်ချက်အရ မိုးကုတ်မြို့၊ ထိုမှ (၄)မိုင်ကွာ ဘော်ပတန်းရွာအနီး ကျောက်လိုဏ်တွင် တစ်ပါးတည်း ကျင့်ကြံအားထုတ်ရာ ၁၉၄၅ ခုနှစ် စစ်ပြီးသည့်တိုင်ဖြစ်သည်။ ၁၉၄၅ ခု အောက်တိုဘာလ ဝါကျွတ်ချိန်တွင် ကျောက်လိုဏ်ဂူမှထွက်၍ မိုးကုတ်မြို့ပေါ် သုသာန် ကျောင်း၌ ပြန်လည်သီတင်းသုံးသည်။ အဘိဓမ္မာတရားပွဲများကို ကျောင်း ဒကာ ဦးလယ် ဒေါ်သိုင်းခြုံတို့နေအိမ်၌ ပြန်လည်ကျင်းပသည်။ ခန္ဓာ ညဏ်ရောက် သစ္စာလေးပါး၊ ပဋိစ္စသမုပ္ပါဒ်နှင့် စိတ္တာနုပဿနာတို့ကို အလေးအနက်ထား ဟောကြားသည်။ ထိုသို့ ဟောကြားနေစဉ် ၁၉၄၇ ခုနှစ်တွင် ရန်ကုန်မြို့ ဗိုလ်တထောင်စေတီတော် စိန်ဖူးတော်လှူဒါန်းရေး အတွက် မိုးကုတ်မြို့မှ ဒါယကာ၊ ဒါယိကာမများကို ဦးဆောင်မှုပေးခဲ့သည်။ ၁၉၄၂ မှ ၁၉၅၂ ခုနှစ်တိုင် မိုးကုတ်မြို့တွင် ကျင့်ကြံအားထုတ်၍ ခန္ဓာ ညဏ်ရောက်တရားကို ဦးစားပေး ဟောကြားခဲ့သည်။

၁၉၅၂ ခုနှစ် နှိုဝင်ဘာလတွင် အမရပူရမြို့ မဂ်လာတိုက် ကျောင်း အမကြီး ဒေါ်သက်ရင်၏ ပင့်လျှောက်ချက်အရ အမရပူရသို့ ပြန်လည် ကြွရောက်သည်။ ပြန်ရောက်လျှင် ယခင်အတိုင်း ညဝါကျမ်းများ ပြန်လည် ပို့ချရာ စာလိုက်သံဃာ ၆၀ ခန့် ရှိသည်။ ထို့နောက် မျက်မှောက်ဘဝမှာပင် တရားထူးရရေး ဦးစားပေးသော ခန္ဓာညဏ်ရောက်တရား လုပ်ငန်းခွင်ကို

ဟောကြားရာ မန္တလေး၊ စစ်ကိုင်း၊ မိတ္ထီလာ၊ ကျောက်ဆည်၊ မြင်းခြံအထိ ထင်ရှားသည်။ နောက်ပိုင်းတွင် ညဝါပို့ချမှုကို တပည့်ကြီး ရှင်ပဏ္ဍိတ၊ ရှင်ဇောတိကတို့ကို လွှဲအပ်၍ ဝိပဿနာဟောကြားမှုကို ဇောက်ချ ဆောင် ရွက်သည်။ ၁၉၅၅ ခုနှစ်တွင် ညောင်လေးပင်၊ ပဲခူး တရားဟောအပြီး မိုးကုတ်မြို့ ဒေါ်အုံ၊ ဒေါ်ဖုံတို့၏ကုသိုလ် မိုးကုတ်မင်္ဂလာတိုက်ကို အလှူ ခံသည်။ ၁၉၅၆ ခုနှစ်တွင် အမရပူရ မင်္ဂလာတိုက် ပြန်လည်သီတင်း သုံး၍ အမရပူရနှင့် မိုးကုတ်ကို လှည့်လည် သီတင်းသုံး ဝိပဿနာတရား ဟောကြားသည်။

၁၉၆၂ ခုနှစ် ဇူလိုင်လ ၈ ရက် တနင်္ဂနွေနေ့ ရန်ကုန်မြို့ ကုက္ကိုင်း ရပ် ဟာမစ်တစ် သာသနာ့ရိပ်သာ၌ နိုင်ငံတော်အစိုးရ၏ အဂ္ဂမဟာ ပဏ္ဍိတဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။

သက်တော် ၆၄ သိက္ခာ ၄၄ ဝါအရ ၁၉၆၂ ခုနှစ် အောက်တိုဘာလ ၁၇ ရက် ဗုဒ္ဓဟူးနေ့ မွန်းလွဲ ၁ နာရီ မိနစ် ၂၀ တွင် အမရပူရမြို့ မင်္ဂလာတိုက် ကျောင်းဟောင်း၌ ခန္ဓာဝန်ချခဲ့ပါသည်။ ထူးခြားသည်မှာ ရုပ်ကလာပ်တော်ကို မီးရှို့ခါနီး တစ်ရက်အလို မဏ္ဍပ်တွင် တတိယအကြိမ် ပျားစွဲခြင်း၊ မီးရှို့ပူဇော်ပြီး ဓာတ်တော်များ ကြွင်းရစ်ခြင်း၊ အရိုးချိတ်ဆက် တွေ့ရခြင်းတို့ ဖြစ်သည်။





## မဟာဂန္ဓာရုံဆရာတော် ရှင်ဇနကာဘိဝံသ

(၁၉၀၀ — ၁၉၇၇)

၂၀ ရာစု မြန်မာနိုင်ငံ ပရိယတ္တိသာသနာဝင်တွင် အမရပူရ မဟာဂန္ဓာရုံဆရာတော်၊ တောင်မြို့ဆရာတော် အမည်နှစ်ရပ်ဖြင့် ထင်ရှားသည်။ ပရိယတ္တိစာပေ သင်ကြားရေးအတွက် သင်ရိုးပိဋကတ် အားလုံးနီးပါး မြန်မာပြန်ဆိုခြင်း၊ ရတနာ့ဂုဏ်ရည်, ကိုယ်ကျင့်အဘိဓမ္မာ, အနာဂတ်သာသနာရေး ကျမ်းများ အပါအဝင် ကျမ်းပေါင်း ၇၀ ကျော် ပြုစုခဲ့ခြင်းတို့ကြောင့် '၂၀ ရာစု အရှင်မဟာဗုဒ္ဓဃောသ' ဟုပင် ရည်ညွှန်းခံရသည်။ ထို့အပြင် ဗုဒ္ဓသာသနာ ပြုပြင်ပြောင်းလဲရေးအတွက် တစ်သက်တာ ဆောင်ရွက်ခဲ့ရာ သမိုင်းပညာရှင် ဒေါက်တာသန်းထွန်းက 'ထောင်စုနှစ်အတွက် မြန်မာနိုင်ငံ၏ အထူးခြားဆုံးပုဂ္ဂိုလ်' အဖြစ် သတ်မှတ်ခဲ့၏။ ရွှေကျင်ဂိုဏ်း အဓိပတိ ထရံကာဆရာကြီးနှင့် မဟာဝိသုဒ္ဓါရုံ ဆရာတော်တို့၏ မြေး၊ မြစ်ဖြစ်၍ ပရိယတ္တိစာပေကို မြောင်းမြဆရာတော်၊ အဘယာရာမဆရာတော်၊ ပခုက္ကူ မဟာဝိသုတာရာမဆရာတော် တို့ထံ သင်ယူခဲ့သည်။ ဂိုဏ်းဂဏစိတ်နည်း၍ သာသနာစိတ် ပြင်းထန်သည်။ ကိုရင်ဝတ်ဖြင့် ပထမကြီးအောင်၍ ရဟန်း ၇ ဝါအတွင်း အစိုးရပထမကျော်၊ သကျသီဟ စာချတန်းအဆင့် ၁ ဘွဲ့များ ရခဲ့သည်။ ရဟန်း ၂၂ ဝါတွင် ဝိနည်းဦးစားပေး ပရိယတ္တိစာသင်တိုက်တည်ခဲ့ရာ မဟာဂန္ဓာရုံ စာသင်တိုက်နှင့် မဟာဂန္ဓာရုံဆရာတော်၏ အမည်သည် မြန်မာနိုင်ငံ နယ်နိမိတ်ကိုကျော်၍ ကမ္ဘာအနှံ့ ပျံ့နှံ့ခဲ့ပါသည်။

ဇေကာဘိဝံသ၊ ရှင်၊ မဟာဂန္ဓာရုံဆရာတော် —

၁၉၀၀ ပြည့်နှစ် ဖေဖော်ဝါရီလ ၂၇ ရက် အင်္ဂါနေ့တွင် စစ်ကိုင်းတိုင်း ရွှေဘိုခရိုင် ဝက်လက်မြို့နယ် သရိုင်ရွာ၌ ဖွားသည်။ အဖ ဦးဇောတိ၊ အမိ ဒေါ်အုန်းလှိုင် ဖြစ်သည်။ မွေးချင်း ၄ ယောက်တွင် အကြီးဆုံး။ အမည်ရင်း မောင်ဌေးလွင် ဖြစ်သည်။ မြန်မာမင်းလက်ထက် ရာဇဂုရုဘွဲ့ ၂ တန်၊ အင်္ဂလိပ်မင်းလက်ထက် အဂ္ဂမဟာပဏ္ဍိတဘွဲ့ရ ထရံကာဆရာကြီး ဦးအုန်းညွန့် (၁၈၄၅-၁၉၂၅) နှင့် ဒုတိယ ရွှေကျင်သာသနာပိုင် မဟာဝိသုဒ္ဓါရုံဆရာတော် ရှင်ဝိသုဒ္ဓါစာရတို့၏ မြေး၊ မြစ် ဖြစ်သည်။

၅ နှစ်အရွယ်တွင် သရိုင်ရွာ ပင်းကျောင်းဘုန်းကြီး ရှင်ဇနိတကို ဥပဇ္ဈာယ်ပြု သာမဏေဖြစ်သည်။ ထို့နောက် ကျောင်းသားအဖြစ် ပင်းကျောင်းဆရာတော်ထံ မြန်မာသင်ပုန်းကြီးနှင့် ဗုဒ္ဓဘာသာအခြေခံစာများ သင်ယူသည်။ ငယ်စဉ်ကပင် စာပေဝါသနာပါ၍ အဘိုးထံမှ ဇိနတ္ထပကာသနီ၊ မဟာဝင်၊ အီနောင်၊ မြို့ပြင်ကြီး သဂြိုဟ်ကောက်၊ ဗားကရာ သဂြိုဟ်နိဿယတို့ လေ့လာဖတ်ရှု၏။ ၈ နှစ်အရွယ်တွင် အခြေခံ သင်ရိုးကုန်၍ သဒ္ဒါကြီး၊ သဂြိုဟ်၊ ပုဒ်စစ်၊ ဇာတ်ကြီးဆယ်ဘွဲ့ သင်ယူသည်။ ပင်းကျောင်းဘုန်းကြီးမှာ မန္တလေး ရွှေကျင်တိုက်မ စာချ ဓမ္မာစရိယဖြစ်၍ စာသင်စာချ စည်းကမ်းကောင်းရခဲ့သည်။ ငယ်စဉ်ကပင် ဉာဏ်ထက်မြက် လိမ္မာသည်။

၁၂ နှစ်တွင် ကျောင်းသားအဖြစ် မန္တလေးအနောက်ပြင် မဟာဝိသုဒ္ဓါရုံတိုက် ဆီးပင်ကျောင်း၌ ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။ ဆီးပင်ကျောင်း စာချ ရှင်ဉာနာဘိဝံသ (နောင် ဒသမ ရွှေကျင်သာသနာပိုင် မြောင်းမြဆရာတော်) ထံ ရူပသိဒ္ဓိ၊ ဓမ္မပဒ၊ မြန်မာကဗျာ လင်္ကာ အစီအကုံးများ သင်ယူသည်။ မန္တလေးတွင် ပလိပ်ရောဂါကျ၍ စစ်ကိုင်းတောင် မဟာဂန္ဓာရုံချောင် ခေတ္တပြောင်းရွှေ့သည်။ ထိုစဉ် ဒုတိယ မဟာဂန္ဓာရုံဆရာတော် (ချမ်းအေးဆရာတော်) ၏ အဆုံးအမ စောင့်ရှောက်မှုခံရသည်။ ပလိပ်ရောဂါရှောင်ရင်း မန္တလေး မဟာဝိသုဒ္ဓါရုံတိုက်၊ ထိုမှ စာချဆရာပြောင်းရွှေ့ရာ ရွှေဘိုမြို့ မိတ္ထီလာစာသင်တိုက်၊ မန္တလေးတစ်ဖက် ပလိပ်ရွာဂန္ဓာရုံရွှေကျင်ကျောင်း (အေးကျောင်း) ပြောင်းရွှေ့ စာပေသင်ယူခဲ့သည်။ အသက် ၁၅ နှစ်တွင် အစိုးရပထမငယ်၊ ၁၆ နှစ်တွင် ပထမလတ်တို့ကို

ကျောင်းသားအဖြစ် ဖြေဆိုအောင်မြင်သည်။ စာချ ရှင်ဉာနာဘိဝံသထံ ပထမငယ်၊ ပထမလတ်တန်း စာမေးပွဲများအပြင် ဋီကာကျော်၊ သီလက္ခန် ပါဠိတော် အဋ္ဌကထာ၊ သုတ်မဟာဝါ သုတ်ပါထေယျ၊ အဋ္ဌသာလိနီ၊ ယမိုက် ပဋ္ဌာန်းနှင့် ဆန်းလင်္ကာတို့ သင်ယူခဲ့သည်။ ပါဠိ ဂါထာ အစီအကုံး၊ မြန်မာကဗျာ လင်္ကာအရေးအဖွဲ့များပါ လေ့လာခဲ့ရသည်။

၁၉၁၆ ခု ၁၆ နှစ်တွင် ပလိပ်မြို့ အေးကျောင်းသိမ်၌ ဆရာရင်း ရှင်ဉာနာဘိဝံသကို ဥပဇ္ဈာယ်ပြု သာမဏေဖြစ်သည်။ မိဘနှစ်ပါးက ရှင်ဒါယကာခံယူသည်။ ကိုရင်ဘွဲ့ ကိုယ်တိုင်ရွေးချယ်ခွင့်ပြုရာ 'ဇနက' ဘွဲ့ကို ရွေးခဲ့သည်။ ဇနကပုဒ်၏ အဓိပ္ပာယ်မှာ ဖခင်အနက်ထွက်၍ သာသနာရေးတွင် ဒါယကာ၊ ဒါယိကာမများအပေါ် ဖခင်ကဲ့သို့ လမ်းမှန် သွန်သင်ဆုံးမနိုင်သည့်သဘောဖြင့် ယူခဲ့ခြင်းဖြစ်သည်။ သာမဏေဝတ်ဖြင့် အစိုးရပထမကြီးဖြေဆိုပြီး ဥပဇ္ဈာယ်ဆရာ၏ လမ်းညွှန်မှုဖြင့် ပခုက္ကူ မဟာ ဝိသုတာရာမတိုက် (အလယ်တိုက်) ၌ အထက်တန်းစာဝါများ သင်ယူ ခဲ့သည်။ ထိုစဉ် ပထမကြီးအောင်မြင်၍ ပခုက္ကူဆရာတော်များ၏ ဆိုဝါပေး ချီးမြှောက်ခံရသည်။ စာချ ရှင်သုန္ဒရ (နောင် ဒုတိယ မဟာဝိသုတာရာမ ဆရာတော် အဘိဓဇ မဟာရဋ္ဌဂုရုဆရာတော်) ထံ သုတ်ပါထေယျကို ဆိုဝါဖြင့် သင်ယူသည်။

၁၉၁၉ ခုနှစ် မတ်လ ၁၅ ရက်တွင် ပလိပ်မြို့ အေးကျောင်း ခဏ္ဍာ သိမ်၌ ပထမ မဟာဂန္ဓာရုံဆရာတော် ရှင်ဥတ္တရ (၁၈၅၈—၁၉၁၉) ကို ဥပဇ္ဈာယ်ပြု ရဟန်းဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ဇနက ဖြစ်သည်။ ရဟန်း ဒါယကာမှာ ဒါယိကာမ မပု၊ ဂန္ဓာရုံကျောင်းအမ ညီအစ်မ မကြည်နှင့် မညွန့်၊ မိဘနှစ်ပါးတို့ဖြစ်သည်။ ရဟန်းဖြစ်ပြီး ပခုက္ကူပြန်၍ ပရိယတ္တိစာပေ သင်ယူ၏။ ထိုသို့ အထက်တန်းစာဝါများ သင်ယူနေစဉ် ၁၉၁၉ ခု ဇွန်လ ၁၂ ရက် ကြာသပတေးနေ့တွင် အမရပူရ မဟာဂန္ဓာရုံကျောင်း ခဏ္ဍာသိမ်၌ ဒုတိယအကြိမ်။ ၁၉၂၀ ပြည့်၊ မတ်လ ၃ ရက် ဗုဒ္ဓဟူးနေ့တွင် စစ်ကိုင်း တောင်ရိုး မှန်ကျောင်းအနီး ဧရာဝတီမြစ်အတွင်း ရေသိမ်၌ တတိယအကြိမ် သိက္ခာထပ်ခဲ့သည်။ ဒုတိယအကြိမ် သိက္ခာထပ်ပြီး ၁၉၁၉ ခု ဩဂုတ်လ ၁၈ ရက် တနင်္လာနေ့တွင် ပဋိပတ္တိအကျော် စစ်ကိုင်း မဟာဂန္ဓာရုံဆရာ တော် ခန္ဓာဝန်ချခဲ့ရာ နောက်ဆုံး ဥပဇ္ဈာယ်ယူ (သဒ္ဓိဝိဟာရိ) တပည့်

ဖြစ်ခဲ့သည်။ တတိယအကြိမ် ဥပဇ္ဈာယ်ဆရာမှာ တတိယရွှေကျင်သာသနာပိုင် ဒီပဲရင်းဆရာတော် ရှင်ဉာဏဝရ (၁၈၅၂—၁၉၂၇) ဖြစ်သည်။

ပခုက္ကူ မဟာဝိသုတာရာမတိုက်ဆရာတော် အရှင်ပညာထံ အဘိဓမ္မာ အဋ္ဌကထာ တတိယအုပ်ကို ဆိုဝါ၊ စာချ အရှင်သုန္ဒရ (နောင် မဟာဝိသုတာရာမဆရာတော်) ထံ မူလဋီကာ၊ ဒီဃနိကာယ်အဋ္ဌကထာဆိုဝါ၊ စာချ အရှင်နန္ဒဝံသ (နောင် ညောင်ဦး၊ ညောင်တုန်း ဆရာတော်) ထံ သံယုတ်အဋ္ဌကထာ ဆိုဝါများဖြင့် သင်ယူ၍ ၁၉၂၂ ခု ဧပြီလ ၂၆ ရက် ရဟန်း ၃ ဝါရတွင် ပခုက္ကူစာချအဖြစ် ချီးမြှောက်ခံရသည်။ စာချတာဝန်ခန့်အပ်ချိန်မှစ၍ ဝံသာနုတရားဟော ဓမ္မကထိကလုပ်ငန်းကို ရပ်စဲခဲ့သည်။ စာချတာဝန် ၃ နှစ်ခန့် ထမ်းဆောင်ပြီး ရဟန်း ၆ ဝါရတွင် မန္တလေး သကျသီဟစာမေးပွဲဝင်ရန် မဟာဝိသုဒ္ဓါရုံတိုက် ပြန်လည်သီတင်းသုံး၏။ ၁၉၂၅ ခုတွင် သကျသီဟစာသင်တန်း စာမေးပွဲကို အဆင့် ၂၊ ၁၉၂၆ ခုတွင် အစိုးရ ပထမကျော်တန်းစာမေးပွဲကို အဆင့် ၁၊ ၁၉၂၇ ခုတွင် သကျသီဟ စာချတန်းကို အဆင့် ၁ ဖြင့် အောင်မြင်၍ စာမေးပွဲကိစ္စပြီးစီးခဲ့သည်။

၁၉၂၇ ခုတွင် ရွှေကျင်သာသနာပိုင် ဒီပဲရင်းဆရာတော်၏ အမိန့်အရ မဟာဝိသုဒ္ဓါရုံတိုက် သုဝဏ္ဏဝတီ အုတ်ကျောင်းဆရာတော် ရှင်အဂ္ဂဓမ္မအနောက်ပြင် စိန်ပန်းရပ် အဘယာရာမတိုက် ပြောင်းရွှေ့ရာ စာချအဖြစ်လိုက်ပါခဲ့သည်။ အဘယာရာမတိုက် စာချတာဝန်အပြင် အဘယာရာမဆရာတော် အရှင်အဂ္ဂဓမ္မထံမှ သက္ကတဆိုင်ရာ ဗုဒ္ဓဃောခ၊ စာဏကျနီတိကျမ်းများ သင်ယူသည်။ ၁၉၂၉ ခု ဖေဖော်ဝါရီလတွင် ၂၉ နှစ်မြောက်မွေးနေ့အဖြစ် 'သဒ္ဒါဂြိုဟ်အဖွင့်ကျမ်း' ကို စတင်ရေးသားသည်။ စာအုပ်အမည်ကို 'သဒ္ဒါဂြိုဟ်ဘာသာဋီကာ' ဟု ပေးသည်။ စာပေသင်ကြားစဉ်ဆင်းရဲပင်ပန်း ချို့တဲ့မှုကြောင့် ကျန်းမာရေးမကောင်းလှ၍ အသက်ရှည်မည်မထင်သောကြောင့် စဉ်းစားထားသမျှ အကြံဉာဏ်ကလေးများ ကျန်တန်သမျှ ကျန်ရစ်စေလိုသောသဘောဖြင့် ပြုစုရာ ၈ နှစ်ခန့်အကြာတွင် ပြီးစီးခဲ့သည်။ ထိုကျမ်းမပြီးစီးမီတွင် 'ရတနာ့ဂုဏ်ရည် (၁၉၃၂) အခြေပြုသဒ္ဒါဂြိုဟ် (၁၉၃၃) အခြေပြုသဒ္ဒါ (၁၉၃၅) တို့ ပုံနှိပ်ထုတ်ဝေသည်။

၁၉၃၇ ခုတွင် 'သဒ္ဒါဂြိုဟ်ဘာသာဋီကာ' ပုံနှိပ်ထွက်ပေါ်ခဲ့သည်။

ဤစာအုပ်ကို ညောင်တုန်း ရွှေဟင်္သာတောရ ပထမစံကျောင်းဆရာတော် ရှင်ဝါယမ (၁၈၇၃-၁၉၄၇) က 'ကျမ်းစာအုပ်က လေးနက်ခဲ့ညားသလောက် ကျမ်းပြုပုဂ္ဂိုလ်က ငယ်နေတယ်'ဟု လည်းကောင်း၊ ကျောက်စာဝန် ဦးလူဖေဝင်းက အဂ္ဂမဟာပဏ္ဍိတဘွဲ့ ပေးထိုက်အောင် ထိုက်တန်သော်လည်း ကျမ်းပြုပုဂ္ဂိုလ်မှာ ငယ်နေသေး၍ သည်းခံစောင့်ဆိုင်းပါဦး' ဟု မှတ်ချက်ပေးခံရသည်။ စာချတာဝန်အပြင် ကျမ်းပြုတာဝန်ကို ဆက်လက်ထမ်းရွက်ရာ 'ဝိထိနှင့် သုံးချက်စု ဘာသာဋီကာ (၁၉၃၈)၊ ကိုယ်ကျင့်အဘိဓမ္မာ (၁၉၃၉)၊ ပါတိမောက်ဘာသာဋီကာ (၁၉၄၀) ကျမ်းများ ထွက်ပေါ်ခဲ့၏။ ထို့ပြင် ၁၉၃၈ ခု ဇွန်လ ၈ ရက်မှ ၁၀ ရက်အထိ မန္တလေး မဟာဝိသုဒ္ဓါရုံတိုက်၌ ကျင်းပသည့် ပဉ္စမအကြိမ် ရွှေကျင်ဂိုဏ်းလုံးဆိုင်ရာ အစည်းအဝေးတွင် တစ်ဂိုဏ်းလုံး ပရိယတ္တိပညာသင်ကြားရေး တစ်ပြေးတည်းဖြစ်ရန် အကြံပြုလျှောက်ထားသည်။ ရွှေကျင်ဂိုဏ်း ပရိယတ္တိဝန်ဆောင်အဖွဲ့က တာဝန်ပေးအပ်၍ 'ရွှေကျင်နိကာယ ပရိယတ္တိ နယူပဒေသ အနုပုဗ္ဗသိက္ခာ' အမည်ရှိ သင်ရိုးညွှန်းတမ်း ရေးဆွဲပေးခဲ့သည်။

၁၉၄၁ ခု ဇူလိုင်လ၌ အဘယာရာမ ရွှေဂူတိုက်မှ အမရပူရ မဟာဂန္ဓာရုံကို တပည့်ရဟန်း ၁ ပါး၊ သာမဏေ ၂ ပါးနှင့် ပြောင်းရွှေ့သည်။ ကျမ်းစာအုပ်များ သေသပ်ကျနစွာ ပုံနှိပ်ရေး၊ ကျမ်းပြုလုပ်ငန်း အဆင်ပြေရေးအတွက် ပုံနှိပ်စက်တစ်လုံး ဝယ်ယူရာမှ ပတ်ဝန်းကျင်အများ၏ အထင်လွဲမှားမှုကြောင့် ပြောင်းရွှေ့ခဲ့ခြင်းဖြစ်၏။ ဂျပန်အဝင် စစ်ကိုင်းနယ် ဆယ်ရွာ ခေတ္တပြောင်းရွှေ့ကာ စာချ၊ ကျမ်းပြု၏။ ထို့နောက် အမရပူရ မဟာဂန္ဓာရုံ ပြန်၍ စာချကျမ်းပြုလုပ်ငန်း ဆက်လက်ဆောင်ရွက်သည်။ ၁၉၄၄ ခု၌ 'ကစ္စည်းဘာသာဋီကာ' ရေးသားသည်။

စစ်ပြီး ၁၉၄၆ ခုနှစ်တွင် စာသင်သံဃာ ၁၅ ပါးနှင့် ဝိနည်းနှင့် အညီ စံပြပရိယတ္တိစာသင်တိုက် ဖွင့်လှစ်သည်။ သာမဏေနှင့် ရဟန်းငယ်များကို ဦးစားပေးလက်ခံရာ ၁၉၄၈ ခုတွင် စာသင်သံဃာ ၅၀၊ ၁၉၄၉ ခုတွင် ၇၅ ပါး၊ ၁၉၅၂ ခုတွင် ၉၅ ပါး၊ ၁၉၅၄ ခုတွင် ၁၀၉ ပါး၊ ၁၉၆၁ ခုတွင် ၂၃၅ ပါး၊ ၁၉၇၁ ခုတွင် ၃၁၁ ပါး၊ ၁၉၇၂ တွင် ၅၁၀ ပါးထိ တိုးပွားလာသည်။ ထိုအချိန်မှစ၍ စာသင်သံဃာ ၅၀၀ ဝန်းကျင် အမြဲရှိသည်။

မဟာဂန္ဓာရုံစာသင်တိုက်ကို စိတ်ကောင်းရှိဖို့က ပထမ၊ ဝိနည်းလေးစားဖို့က ဒုတိယ၊ ကျန်းမာဖို့က တတိယ၊ သန့်ရှင်းဖို့က စတုတ္ထ၊ အဝတ်အစားတတ်ဖို့က ပဉ္စမ၊ အနေအထိုင်တတ်ဖို့က ဆဋ္ဌမ၊ အပြောအဆိုတတ်ဖို့က သတ္တမ၊ အသွားအလာတတ်ဖို့က အဋ္ဌမ၊ စည်းကမ်းလိုက်နာဖို့က နဝမ၊ စာတတ်ဖို့က ဒသမ ဟူသော ဥပဒေ ၁၀ ချက် သတ်မှတ်သည်။

အထူးသဖြင့် စာမေးပွဲ ဦးစားမပေး၊ အဖိုးတန် ရဟန်းသံဃာ ပေါ်ထွန်းရေးကို ဦးစားပေး ပြုစုပျိုးထောင်သည်။ မြောင်းမြဆရာတော်၊ ပခုက္ကူဆရာတော်များ အားပေးချီးမြှောက်မှုဖြင့် မဟာဂန္ဓာရုံကျောင်းတိုက် ဂုဏ်သတင်းသည် မြန်မာနိုင်ငံနယ်နိမိတ်ကိုကျော်၍ ကမ္ဘာသို့တိုင် ပျံ့နှံ့ခဲ့သည်။

စာသင်စာချ ကျမ်းပြု ပဓာနလုပ်ငန်းများအပြင် သာသနာရေးဆိုင်ရာ တာဝန်များ ပေးအပ်လာပါက ပညာရှိ သူတော်ကောင်းစိတ်ဓာတ်ဖြင့် ဆောင်ရွက်လေ့ရှိသည်။ ၁၉၄၈-၄၉ ခုတွင် မန္တလေး ပရိယတ္တိ သာသနာ့ဟိတအသင်းအတွက် သာမဏေ သကျသီဟစာမေးပွဲစည်းမျဉ်း၊ နိုင်ငံတော်အစိုးရအတွက် သူငယ်တန်းမှ စတုတ္ထတန်းအထိ ဗုဒ္ဓဘာသာသင်ခန်းစာ ၅ အုပ်နှင့် ဆရာကိုင် ၁ အုပ် ပြုစုပေးခဲ့သည်။ ၁၉၅၂ ခု ဆဋ္ဌသင်္ဂါယနာပွဲတွင် ဆဋ္ဌသင်္ဂါယနာဝန်ဆောင်အဖွဲ့ဝင်၊ ဆဋ္ဌသင်္ဂီတိဩဝါဒစရိယ, သံဃနာယက, ဆဋ္ဌသင်္ဂီတိ ဘာရဏ္ဍရက၊ ပါဠိဝိသောဓက၊ ဩသာနသောဓေယျ ပတ္တပါဠကအဖွဲ့ဝင်အဖြစ် ဆောင်ရွက်သည်။ ၁၉၆၀ ပြည့်နှစ်တွင် ဝိုင်အမ်ဘီအေအသင်းကြီးအတွက် မူလတန်းဘာသာရေး, ရုပ်စုံ ဗုဒ္ဓဘာသာဝင် (၁၉၅၁) ရွှေကျင်ဂိုဏ်းအတွက် ဝိနိစ္ဆယစာတမ်း၊ ၁၉၆၅ ခု မော်ဘီ သာသနာသန့်ရှင်းပြန့်ပွားရေး ဂိုဏ်းပေါင်းစုံ အစည်းအဝေးတွင် ပညာရေးမူ စနစ်စာတမ်း၊ ၁၉၆၃ ခု ဒသမအကြိမ် ရွှေကျင်ဂိုဏ်းလုံးဆိုင်ရာ အစည်းအဝေးတွင် အရှင်ဇနကာဘိဝံသ၏ သာသနာရေးလျှောက်ထားချက် စာတမ်းများ တင်သွင်းခဲ့သည်။

စစ်ပြီးနောက် ကျမ်းစာများ အဆက်မပြတ် ရေးသားခဲ့ရာ ဗြဟ္မဇာလသုတ် မြန်မာပြန် (၁၉၄၈) အနာဂတ်သာသနာရေး (၁၉၄၉) အခြေပြုမင်္ဂလသုတ် (၁၉၅၀) ဗုဒ္ဓဘာသာလက်စွဲ ၄ တွဲ (၁၉၅၁) သာမညဖလသုတ် မြန်မာပြန် (၁၉၅၁) စစ်တပ်တရားတော် (၁၉၅၁) ရုပ်ပုံရှင်ကျင့်ဝတ်

(၁၉၅၂) ရှပ်စုံဗုဒ္ဓသာသနာဝင် (၁၉၅၃) အခြေပြုသဒ္ဒါတွဲဖက် (၁၉၅၄) ပါဠိသိက္ခာနှင့် သဒ္ဒါအကျဉ်း (၁၉၅၆) ဗုဒ္ဓဝင် အမေးအဖြေ (၁၉၅၆) ရူပသိဒ္ဓိဘာသာဋီကာ ၂ တွဲ (၁၉၅၆-၅၇) ကစ္စည်းဘာသာဋီကာ ၂ တွဲ (၁၉၅၆-၅၇) ဘုရားဥပဒေတော်ကြီး (၁၉၅၇) ပါတိမောက်ဘာသာဋီကာ (၁၉၅၈) အလင်္ကာဘာသာဋီကာ (၁၉၅၉) အဘိဓမ္မတ္ထသင်္ဂြိုဟ်ပါဠိ (၁၉၅၉) ဘာသာသွေး (၁၉၅၉) ပါရာဇိကဏ်ဘာသာဋီကာ ၄ တွဲ (၁၉၆၀-၆၂) ဘေဒစိန္တာ ဘာသာဋီကာ (၁၉၆၁) ကစ္စာယနသာရ ဘာသာ ဋီကာ (၁၉၆၁) မဟာသမယသုတ်နိဿယ (၁၉၆၂) ဋီကာကျော်နိဿယ (၁၉၆၂) မူလတန်းဘာသာရေး (၁၉၆၃) ကင်္ခါဘာသာဋီကာ ၂ တွဲ (၁၉၆၃-၆၆) ဘာသာရေးလျှောက်ထားချက် (၁၉၆၃) ဘာသာရေး ပြဿနာများ (၁၉၆၄) ဂါထာပေါင်းချုပ် (၁၉၆၄) အဘိဓဇမဟာရဋ္ဌဂုရု ပခုက္ကူဆရာတော် ဦးသုန္ဒရ၏ ဩဝါဒကထာ (၁၉၆၄) မဟာဝါဘာသာ ဋီကာ ၂ တွဲ (၁၉၆၅) ပထမပြန်ညွှန်ပြချက် (၁၉၆၅) ပါစိတ်ဘာသာဋီကာ ၂ တွဲ (၁၉၆၅) အဋ္ဌသာလိနီဘာသာဋီကာ ၄ တွဲ (၁၉၆၆) ခုဒ္ဒသိက္ခာ ဘာသာဋီကာ (၁၉၇၀) သီလက္ခန်ဘာသာဋီကာ ၄ တွဲ (၁၉၇၀-၇၁) စူဠဝဂ္ဂဘာသာဋီကာ (၁၉၇၁) ပရိဝါရဘာသာဋီကာ (၁၉၇၂) သမ္မောဟ ဝိနောဒနီ ဘာသာဋီကာ ၃ တွဲ (၁၉၇၅-၇၉) နောက်ဆုံးဆယ်လမြတ်ဗုဒ္ဓ (၁၉၇၆) အဋ္ဌကထာ အခြေပြု (၁၉၇၉) ကထာသလ္လာပသိက္ခာ (၁၉၇၉) တစ်ဘဝသံသရာ (၁၉၇၉) ဗုဒ္ဓါနုဿတိဘာဝနာ (၁၉၇၉) ဓမ္မစကြာ တရားတော်နှင့် အနတ္တ လက္ခဏာသုတ်တရားတော် (၁၉၇၉) အခြေပြု ပဋ္ဌာန်းတရားတော် (၁၉၇၉) ဗုဒ္ဓဘာသာသင်ခန်းစာ (၁၉၇၉) လူ့ချမ်းသာ (၁၉၈၀) ဓာတုကထာ အဋ္ဌကထာ ဘာသာဋီကာ (၁၉၈၀) ပုဂ္ဂလပညတ္တိ အဋ္ဌကထာ ဘာသာဋီကာ (၁၉၈၀) ယမက အဋ္ဌကထာ ဘာသာဋီကာ (၁၉၈၀) ကထာဝတ္ထု အဋ္ဌကထာ ဘာသာဋီကာ ၂ တွဲ (၁၉၈၀) သုတ်မဟာဝါ ဘာသာဋီကာ ၃ တွဲ (၁၉၈၀-၈၁) ပဋ္ဌာန အဋ္ဌကထာ ဘာသာဋီကာ (၁၉၈၀) ဒုလ္လဘကထာ (၁၉၈၃) ပရိတ်ပါဠိ ပရိတ်ကြီးနိဿယနှင့် ပရိတ်တရားတော်များ (၁၉၉၄) ရှပ်စုံဗုဒ္ဓဝင် အမေးအဖြေ (၁၉၅၅) ကထာဝတ္ထု ပါဠိတော် မြန်မာပြန် (၁၉၈၀) ပရိယတ္တိ သာမဏေရ စာပြန်ပွဲစည်းမျဉ်း (၁၉၄၀) သံဃာ့ဖွဲ့စည်းအုပ်ချုပ်ပုံ

အခြေခံဥပဒေ (၁၉၆၅) တရားသုံးဖြာဆုံးမစာ ၁ (၁၉၈၀) သူတော်ကောင်းလက္ခဏာ (၁၉၈၃) သာသနာပြုဩဝါဒတရားတော်များ (၁၉၈၃) မီးဆယ့်တစ်ပါးနှင့် မရဏာဿတိ မေတ္တာတရား (၁၉၉၀) တရားသုံးဖြာဆုံးမစာ ၂ (၁၉၉၃) ရွှေကျင်နိကာယ ပရိယတ္တိ နယူပဒေသ (၁၉၃၂) အနာဂတ်သာသနာပြုပြင်ရေး ဩဝါဒတရားတော် (၁၉၈၁) သာသနာရေးလျှောက်ထားလွှာ (၂၀၀၀) ဝိုင်အမ်ဘီအေ မော်ကွန်းစာတမ်း (၂၀၀၀) အဘိဓမ္မာနှင့်စပ်၍ မှတ်ဖွယ်များ (၂၀၀၀) သိပ္ပံအမြင်နှင့် ဗုဒ္ဓအဘိဓမ္မာအဖြေများ (၁၉၇၃) တို့ ထွက်ပေါ်ခဲ့သည်။

၁၉၅၀ ပြည့်နှစ် လွတ်လပ်ရေးခေတ် ပထမဆုံးအကြိမ် ဆက်ကပ်သော အဂ္ဂမဟာပဏ္ဍိတဘွဲ့၊ ၁၉၇၅ ခု ၁၁ ကြိမ်မြောက် ရွှေကျင်ဂိုဏ်းလုံးဆိုင်ရာ အစည်းအဝေး၌ ရွှေကျင်နိကာယ ဒုတိယသာသနာပိုင် တင်မြှောက်ခံရသည်။

စစ်ပြီး မဟာဂန္ဓာရုံကျောင်းတိုက် တည်ချိန်မှစ၍ နေ့စဉ် နံနက်ခင်း ဩဝါဒပေးခြင်း၊ တစ်နေ့ စာသုံးဝါပို့ချခြင်း၊ ကျမ်းပြုခြင်း၊ ကမ္မဋ္ဌာန်းဘာဝနာပွားများခြင်းတို့ကို စွဲစွဲမြဲမြဲဆောင်ရွက်၍ ခန္ဓာဝန်ချမည့်နေ့၌ပင် နေ့လယ် ၁၂ နာရီ မိနစ် ၃၀ တွင် သုတ်ပါထေယျ ပါဠိ အဋ္ဌကထာကို နာရီဝက်ပို့ချ၏။ ပို့ချပြီး 'မသေသေးရင် မနက်ဖြန် ဆက်ပြီးပို့ချမယ်' ဟု မိန့်ကြားသည်။

သက်တော် ၇၇ နှစ် သိက္ခာတော် ၅၈ ဝါရ ၁၉၇၇ ခု ဒီဇင်ဘာလ ၂၇ ရက် အင်္ဂါနေ့ ညနေ ၄ နာရီ မိနစ် ၃၀ တွင် အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက် သီတင်းသုံးရာကျောင်းဆောင်၌ တစ်ဘဝ တစ်ခန္ဓာ ချုပ်ငြိမ်းခဲ့ပါသည်။





## စလင်းကန်လယ်ဆရာတော်
## ရှင်ဝဇီရာဝုဓ
## (၁၉၀၁ — ၁၉၈၉)

မြန်မာနိုင်ငံ ပဋိပတ္တိသာသနာဝင်တွင် သက်ရှိထင်ရှား ရှိစဉ်ကပင် ရဟန္တာဟု ထင်ရှားခဲ့သည်။ မန္တလေးမြို့ အနောက်ပြင် ဝိသုဒ္ဓါရုံတိုက် စည်ရှင်ဆရာတော် (နောင် ရွှေကျင်နိကာယ ဒုတိယသာသနာပိုင် ရှင်ကောသလ္လာဘိဝံသ) ၏ အနီးနေတပည့်အဖြစ် ရဟန်း ၃ ဝါရသည့် တိုင် ပရိယတ္တိစာပေ သင်ယူခဲ့သည်။ ထိုစဉ်ကပင် သီတင်းသုံးဖော် စာလိုက်ဖက် ရှင်သုမင်္ဂလ (နောင် ဇာလီတောင်ဆရာတော်)၊ မစိုးရိမ် တိုက်မှ ရှင်ပဏ္ဍိတ (နောင် ပဋိပတ္တိအကျော် မင်းဘူးကျောက်မဲတောင် ဆရာတော်) တို့နှင့် ရဟန်း ၅ ဝါရက တောထွက် ပဋိပတ္တိ ကျင့်ကြံအား ထုတ်ရန် ကတိကဝတ်ထားခဲ့သည်။ ရဟန်း ၄ ဝါအရတွင် ဦးလေးတော် ဥပဇ္ဈာယ်ဆရာက ကျောင်းအပ်သည်ကို ငြင်းပယ်၍ တစ်ပါးတည်း တောထွက် ကျင့်ကြံအားထုတ်သည်။ နိုင်ငံအနှံ့ တောအရပ်ရပ်တွင် ဓုတင် ၁၀ ပါး၊ ရံခါ ၁၃ ပါးဆောင်၍ ပဋိပတ္တိကျင့်ကြံအားထုတ်သည်။ စစ်ပြီး နောက် စလင်းမြို့ ကန်လယ်ကုန်း၌ သီတင်းသုံးရာမှ စလင်းကန်လယ် ဆရာတော်ဟု အမည်တွင်ခဲ့သည်။ ဇာလီတောင်ဆရာတော်က 'စလင်းက ဓာတ်တော်လိုင်း၊ ကျောက်မဲက ပြာလိုင်း၊ တို့က ပါရမီလိုင်း'လို့ မိန့်ဆို ခဲ့သည်။ ခန္ဓာဝန်ချပြီးနောက် ပုပ်ခြင်း၊ နံခြင်း မရှိ။ ပကတိ ကြည်လင်လျက်၊ ကန်မှာလည်း အချိန်အခါမဟုတ် ရေများ ပြည့်လျှံလာသည့်အပြင် အရိုး မှာ ချိတ်ဆက် ဓာတ်တော်များ ကျသည်ဟု မှတ်တမ်းတင်ရစ်ခဲ့သည်။

## ဝဇီရာဝုဓ၊ ရှင်၊ စလင်းကန်လယ်ဆရာတော် —

၁၉၀၁ ခုနှစ် ဒီဇင်ဘာလ ၄ ရက် ဗုဒ္ဓဟူးနေ့တွင် ပခုက္ကူခရိုင် ရေစကြိုမြို့ အရှေ့မြောက် ၈ မိုင်ကွာ မအူလေးရွာအဝင် အလယ်ရွာ၌ ဖွားသည်။ အဖ ဦးစံအုပ်၊ အမိ ဒေါ်ဆယ် ဖြစ်သည်။ စတုတ္ထမြောက်သားဖြစ်၍ အမည် မောင်စိန်ကဲ ဖြစ်သည်။

ငယ်စဉ်ကပင် ပဋိသန္ဓေစိတ် ထူးခြားသည်။ တဘက်စောင်ကို ဘုန်းကြီးသင်္ကန်းကဲ့သို့ ဝတ်လေ့ရှိသည်။ ပွဲလမ်းသဘင် ခေါ်မရ။ ၅ နှစ်အရွယ်တွင် မအူအလယ်ရွာကျောင်း ရှင်သောမထံ စတင် ပညာသင်သည်။ ရှင်သောမမှာ ဦးလေးတော်စပ်သည်။ ၁၀ နှစ်တွင် မိဘနှစ်ပါးက ရှင်ဒါယကာခံ၍ သာမဏေပြုပေးသည်။ ဘွဲ့ ရှင်ဝဇီရာဝုဓ ဖြစ်သည်။ ဥပဇ္ဈာယ်မှာ ရှင်သောမ ဖြစ်သည်။ သာမဏေဝတ်ဖြင့် ရွာကျောင်းမှာပင် ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။ သာမဏေ ၆ ဝါရ၌ မော်လမြိုင် တောင်ဝိုင်းကြီး ရွှေကျင်တိုက်၊ ၇ ဝါရ၌ တောင်ဝိုင်းကလေး ပဓာနိကာရုံ ရွှေကျင်တိုက်များကို ပြောင်းရွှေ့ ပညာသင်၏။ ရွှေကျင်နိကာယ မော်လမြိုင်ဝိနည်းစာပြန်ပွဲ၌ ပထမကျော် အောင်သည်။ အင်္ဂလိပ်စာကို လေ့လာသင်ယူသည်။ မျိုးချစ်စိတ်ထက်သန်၍ ၁၉၁၉ ခုနှစ် နဝမမြောက် မန္တလေးဂျီစီဘီအေကွန်ဖရင့်ကို တက်ရောက်ခဲ့သည်။

မန္တလေးမှ ဇာတိ ရေစကြိုနယ် မအူရွာ ဦးလေး ရှင်သောမထံ ပြန်၍ သီတင်းသုံးသည်။ မိဘများက လူဝတ်လဲ၍ အိမ်ထောင်ချပေးရန် စီမံသည်ကို ငြင်းပယ်သည်။ အသက် ၂၀ တွင် ရဟန်းဖြစ်သည်။ ဥပဇ္ဈာယ်ဆရာမှာ ရှင်သောမ၊ ပထမကမ္မဝါစာဆရာ အလုံဆရာတော် ရှင်တိဿ (နောင် စတုတ္ထမြောက် ရွှေကျင်သာသနာပိုင်)၊ တတိယ ကမ္မဝါစာဆရာ တတိယရွှေကျင်သာသနာပိုင် ဒီပဲရင်းဆရာတော် (ဒုတိယဝိသုဒ္ဓါရုံဆရာတော်ဟုလည်း ထင်ရှားသည်) တတိယကမ္မဝါစာဆရာမှာ ဝိဇ္ဇာလင်္ကာရဆရာတော်တို့ ဖြစ်သည်။

ရဟန်းဖြစ်ပြီး မန္တလေး အနောက်ပြင် မဟာဝိသုဒ္ဓါရုံတိုက်ပြောင်း၍ ပညာဆည်းပူးသည်။ နောင် ရွှေကျင်ဂိုဏ်း ဒုတိယဥက္ကဋ္ဌဖြစ်လာမည့် စည်ရှင်ဆရာတော် ရှင်ကောသလ္လာဘိဝံသ (၁၈၈၈-၁၉၄၉) ၏ အတွင်းနေ

တပည့်အဖြစ် နေသည်။ ထိုစဉ်က ရွှေကျင်တိုက် ပညာသင်ဖက်အချို့မှာ ရှင်အာနန္ဒာပဏ္ဍိတ (နောင် အဂ္ဂမဟာပဏ္ဍိတ ပြည် ဗာရာဏသီဆရာတော်)၊ ရှင်ပဏ္ဍိတ (နောင် ဓမ္မကထိကအကျော် အနီးစခန်းဆရာတော်)၊ ရှင်သုမင်္ဂလ (နောင် သရက်ဇာလီတောင် ဆရာတော်) တို့ ဖြစ်သည်။ ပရိယတ္တိစာပေ သင်ယူနေစဉ် အင်္ဂလိပ်စာကိုလည်း ဆက်လက်လေ့လာသည်။ ရဟန်း ၃ ဝါတွင် ပဋိပတ္တိ ကျင့်ကြံအားထုတ်ရန် စိတ်ညွတ်၍ သီတင်းသုံးဖော် ရှင်သုမင်္ဂလ၊ မစိုးရိမ်တိုက်မှ ရှင်ပဏ္ဍိတ (နောင်တွင် ပဋိပတ္တိအကျော် မင်းဘူး ကျောက်မဲတောင်ဆရာတော်) တို့နှင့် ရဟန်း ၅ ဝါတွင် တောထွက်ကျင့်ကြံအားထုတ်ရန် ကတိကဝတ် ပြုခဲ့ကြသည်။

ရဟန်း ၄ ဝါရ၍ ဥပဇ္ဈာယ်ဆရာ ပျံလွန်၏။ ပျံလွန်ပြီး ၇ ရက်မြောက်တွင် တောထွက်ခဲ့သည်။ ပထမဦးစွာ မအူရွာ မြောက်ဘက် ချင်းတွင်းမြစ်ကမ်းအနီး သပြေပင်မောင်နှမဂူ၌ ကျင့်ကြံအားထုတ်သည်။ ဤဂူသည် အန္တရာယ်များသည်။ တောကြမ်းသည်။ မိဘဆွေမျိုးများက လိုက်ပါတားမြစ်သော်လည်း တရားထူးရရန် အဓိဋ္ဌာန်ဖြင့် ဓုတင် ၁၀ ပါး ဆောက်တည်အားထုတ်သည်။ အနှောင့်အယှက် ခြောက်လှန့်မှုများ မျိုးစုံကြုံတွေ့ရသော်လည်း ဝါတွင်းသုံးလပတ်လုံး အဓိဋ္ဌာန်မပျက် ကျင့်ကြံအားထုတ်ခဲ့သည်။ ဂူအမည်ကိုလည်း 'သောတာပန်ဂူ' ဟု သမုတ်ခဲ့သည်။ ဝါကျွတ်သော် မိခင်တောင်းပန်၍ မအူရွာမြောက်ဘက် ပေါ်တော်မူကုန်းကို ပြောင်းရွှေ့ သီတင်းသုံးသည်။ ဝိပဿနာတရားကိုလည်း ပြသသည်။ လူပရိသတ် စည်ကားလာသည်နှင့်အမျှ ကျင့်ကြံအားထုတ်ရန် အနှောင့်အယှက်ဖြစ်လာရာ တစ်နှစ်ခန့်အကြာ မြင်းခြံခရိုင် နွားထိုးကြီးမြို့နယ် တလုပ်မြို့ သုသာန်ကို ပြောင်းရွှေ့သီတင်းသုံးသည်။ ထိုမှတစ်ဆင့် စကြံတောင်ဂူ၌ ဝါဆိုသည်။ ဂူမှာ ဆားပေါက်ဂူဖြစ်၍ ကိုယ်ရောင်ရောဂါ စွဲကပ်လာသည်။ ဝါကျွတ်လျှင် ဆေးဝါးကုသရန် အနောက်ဘက်ကမ်း ရှင်မတောင်ကူး၍ ကျင့်ကြံအားထုတ်သည်။

ရှင်မတောင်တွင် သီတင်းသုံးနေစဉ် ရောဂါပြုစုစောင့်ရှောက်ရန် မိခင်လိုက်လာ၏။ မိခင်က ကျောင်းဆောက်လုပ်လှူဒါန်းရာ သီတင်းသုံးသည်။ ထိုစဉ် ပလိဗေဓ တွယ်တာမှုကို သံဝေဂရကာ ညအချိန်တွင် ကျောင်းကို စွန့်ခဲ့သည်။ မြိုင်မြို့နယ် သနပ်ခါးတောများ၌ လှည့်လည်

သီတင်းသုံးသည်။ ထိုမှတစ်ဖန် စေတုတ္တရာ၊ နွားမတောင်၊ ပဒါန်း၊ ရွှေစက်တော် အထက်ခြေတော်ရာအနီး ဓုတင် ၁၀ ပါး၊ ဝါတွင်း၌ ဓုတင် ၁၃ ပါး ဆောက်တည် ကျင့်ကြံအားထုတ်သည်။ ရွှေစက်တော်တွင် ၂ ဝါဆို သီတင်းသုံးနေစဉ် ငယ်စဉ်က ကတိကဝတ်ထားခဲ့သော ရှင်သုမင်္ဂလ၊ ရှင်ပဏ္ဍိတတို့နှင့် ပြန်လည်တွေ့ဆုံသည်။ ရွှေစက်တော်မှ ကျောင်းတော်ရာ၊ စလင်း အောင်နိုင်ကုန်း၊ တောင်တောရကြီးများသို့ လှည့်လည် သီတင်းသုံးသည်။ ၁၉၃၂ ခုနှစ်တွင် ငယ်စဉ် တောမထွက်မီက စီရင်ခဲ့သော စက္ခုအလင်းသံခိပ်ကျမ်းကို ပုံနှိပ်ထုတ်ဝေသည်။ အောင်နိုင်ကုန်းမှတစ်ဖန် ပွင့်ဖြူမြို့နယ် မုန်းချောင်းကမ်းဘေး လွန်းတောင်၊ မကွေး မြသလွန်စေတီ အရှေ့ဘက်ရှိ ကုမာရချောင်း၊ ပန်းရစ်တောင်၊ ချောင်းကိုးကွေ့ဂူ စသည်တို့တွင် လှည့်လည် သီတင်းသုံးသည်။

၁၉၃၆ ခုတွင် အိန္ဒိယနိုင်ငံ မဇ္ဈိမဒေသ၊ သီရိလင်္ကာနိုင်ငံများသို့ ကြွရောက်သည်။ အိန္ဒိယမှအပြန် ဗောဓိမျိုးစေ့ ယူဆောင်၍ စလင်းကန်လယ်နှင့် ရွှေမုဋ္ဌောဘုရားတောင်ဘက်တွင် ဗောဓိပင်များ စိုက်ပျိုးသည်။ စစ်အတွင်း မင်းဘူး စက္ကိန္ဒဘုရားအနီး သီတင်းသုံးသည်။ ထိုသို့ သီတင်းသုံးနေစဉ် မဟာမိတ်လေယာဉ်များ၏ ဗုံးဒဏ်ခံရသော လူနာများကို ကယ်ဆယ်စောင့်ရှောက်ခဲ့သည်။ ဂျပန်ခေတ်အတွင်း ဇာလီတောင်ဆရာတော် ရှင်သုမင်္ဂလကို ဂျပန် ကင်ပေတိုင်က ဖမ်းဆီးခဲ့ရာ ရန်ကုန်လိုက်၍ ဗန္ဓုလဦးစိန် အကူအညီဖြင့် လွတ်မြောက်စေခဲ့သည်။

စစ်ပြီးနောက် ရွှေစက်တော်မှ စလင်းကန်လယ်ကို ပြောင်းရွှေ့သီတင်းသုံးရာ စလင်းကန်လယ်ဆရာတော်ဟု ထင်ရှား၏။ လွတ်လပ်ရေးခေတ်ဦး နိုင်ငံတော်သမ္မတ၏ ပင့်လျှောက်ချက်အရ ရန်ကုန် သမ္မတအိမ်တော်ကြွ၍ ပရိတ်တော်များ ချီးမြှင့်သည်။ ဆဋ္ဌသင်္ဂါယနာတင်ရန် လိုဏ်ဂူဆောက်လုပ်မည့်နေရာကိုလည်း ပရိတ်အရံအတားများ ချီးမြှင့်သည်။ ထိုစဉ်က ဝန်ကြီးချုပ်၏ လျှောက်ထားချက်အရ ရန်ကုန် မဟာစည်သာသနာ့ရိပ်သာ၌ တရားဟော၏။ ရန်ကုန်မြို့၌ သီတင်းသုံးရန် လျှောက်ထားသော်လည်း ငြင်းပယ်၍ စလင်းကန်လယ်၌ ပဋိပတ္တိတရား ကျင့်ကြံအားထုတ်ခဲ့သည်။

သက်တော် ၈၄ နှစ်အရွယ်တိုင် ကျန်းမာရေးကို မငဲ့ကွက်ဘဲ

နယ်ထွက် တရားအားထုတ်ခဲ့သည်။ ၁၉၈၄ ခုနှစ်တွင် ရဟန္တာဟု ထင်ရှား သော တောင်ပုလုတောရ ကမ္မဌာန်းဆရာတော် ရှင်နန္ဒိယ (၁၈၉၇—၁၉၈၆) စလင်းကို ကြွရောက်လာရာ စလင်းကန်လယ်ဆရာတော်နှင့် တွေ့ဆုံခဲ့ကြသည်။

သက်တော် ၈၈ သိက္ခာ ၆၈ ဝါရ ၁၉၈၉ ခု ဖေဖော်ဝါရီလ ၄ ရက်နေ့တွင် စလင်းမြို့ ကန်လယ်ကျောင်းတိုက်၌ ခန္ဓာဝန်ချခဲ့ပါသည်။





# မဟာစည်ဆရာတော်
## ရှင်သောဘဏ
(၁၉၀၄ — ၁၉၈၂)

ဆဋ္ဌသင်္ဂါယနာ ပုစ္ဆက အမေးပုဂ္ဂိုလ် ဆဋ္ဌသင်္ဂါယနာဝန်ဆောင်အဖွဲ့ဝင်၊ ဆဋ္ဌသင်္ဂါယနာ ဩဝါဒနသောဓက အဖွဲ့အဝင်အဖြစ် ဆောင်ရွက်ခဲ့သည်။ ဆဋ္ဌသင်္ဂါယနာနှင့်အတူ မဟာစည်ဆရာတော်၏ ပရိယတ် ပဋိပတ် ဘာသန္တရ စွယ်စုံပြည့်ဝသည့် ဂုဏ်သတင်းသည် မြန်မာနိုင်ငံ နယ်နိမိတ်ကိုလွှန်၍ ထိုင်း၊ ကမ္ဘောဒီးယား၊ သီရိလင်္ကာနိုင်ငံများမှတဆင့် ကမ္ဘာအနှံ့ ပြန့်နှံ့ခဲ့သည်။ သထုံမြို့ မင်းကွန်းဇေတဝန်ဆရာတော်၏ ပါဠိတော်လာ သတိပဋ္ဌာန်ဝိပဿနာရှုနည်းကို အခြေခံ၍ ဝမ်းဗိုက်ပိန်းဖောင်းရှုမှတ်မှုဖြင့် ကမ္မဋ္ဌာန်းပေးရာ မဟာစည်ဝိပဿနာရှုနည်းအဖြစ် ထင်ရှားခဲ့သည်။ ဗုဒ္ဓသာသနနုဂ္ဂဟအဖွဲ့ကြီး၏ ပင့်လျှောက်ချက်အရ ရန်ကုန်မြို့ သာသနာ့ရိပ်သာတွင် သီတင်းသုံး၍ ပြည်တွင်းပြည်ပ ပဋိပတ္တိသာသနာပြုခဲ့ရာ မဟာစည်ဩဝါဒခံ ကမ္မဋ္ဌာန်းရိပ်သာများ နိုင်ငံအနှံ့ ပေါ်ထွန်းလာခဲ့သည်။ ဆဋ္ဌသင်္ဂါယနာတင်ချိန်မှစ၍ ယောဂီတပည့် ဦးဖေသင်၊ မြန်အောင်ဦးတင်တို့၏ အကူအညီဖြင့် နိုင်ငံခြားသား ယောဂီများကို ဝိပဿနာတရားပြသခဲ့ရာ မဟာစည် ဝိပဿနာရှုနည်းသည် ဥရောပနှင့် အမေရိကတိုင် ပြန့်နှံ့ခဲ့သည်။ သက်တော် ၇၀ ကျော်တွင် ကမ္ဘာကို နှစ်ကြိမ်ပတ်၍ ဝိပဿနာ ကမ္မဋ္ဌာန်းပြသခဲ့ရာ ကမ္ဘာ့ဗုဒ္ဓသာသနာပြု မဟာစည်ဆရာတော်ဟု ချီးကျူးပူဇော်ခံရပါသည်။

**သောဘဏ၊ ရှင်၊ မဟာစည်ဆရာတော် —**

၁၉၀၄ ခုနှစ် ဇူလိုင်လ ၂၉ ရက် သောကြာနေ့တွင် စစ်ကိုင်းတိုင်း ရွှေဘိုမြို့နယ် ဆိပ်ခွန်ရွာ၌ ဖွားသည်။ အဖ ဦးကံ့ကော်၊ အမိ ဒေါ်အုပ် ဖြစ်သည်။ မွေးချင်း ၇ ယောက်တွင် ဒုတိယမြောက်။ အမည် မောင်သွင် ဖြစ်သည်။

၆ နှစ်အရွယ်တွင် ဆိတ်ခွန်ရွာ ပျဉ်းမနားကျောင်းဘုန်းကြီး ရှင်အာဒိစ္စထံ စတင် ပညာဆည်းပူးသည်။ ၁၂ နှစ်တွင် သာမဏေဖြစ်သည်။ ဘွဲ့ ရှင်သောဘဏ။ ဥပဇ္ဈာယ်ဆရာမှာ ရှင်အာဒိစ္စ။ ရဟန်းဒါယကာမှာ မိဘနှစ်ပါး ဖြစ်သည်။ သာမဏေဝတ်ဖြင့် ဇာတ်ကြီးဆယ်ဘွဲ့၊ သဒ္ဒါ သင်္ဂြိုဟ် ဋီကာကျော် သင်ယူသည်။ ဋီကာကျော်ကို အာဂုံရသည်။ ဝိနည်း ပါဠိတော် အဋ္ဌကထာများကိုလည်း သင်ယူခဲ့သည်။ ဂဏန်းသင်္ချာကို ကိုယ့် ဘာသာကိုယ် လေ့လာသင်ယူသည်။ သာမဏေ ၅ ဝါရတွင် ချည်ပါ မြောက်ရွာ ရွှေသိမ်တော်ကျောင်းတိုက် မြောင်းကြီးဆရာတော် ရှင်အာစရ ထံ သဒ္ဒတ္ထဘေဒစိန္တာ၊ ဦးပဥ္စင်း ရှင်စန္ဒထံ အင်္ဂလိပ်စာအခြေခံ၊ ထို့နောက် အင်ကြင်းတောတိုက် သူကြီးကျောင်း စာချ ရှင်ပရမ ထံ သမ္မောဟဝိနောဒနီ အဋ္ဌကထာ၊ မူလဋီကာများကို ရဟန်းတော်များနှင့်အတူ ဆိုဝါအဖြစ် သင်ယူခဲ့သည်။

၁၉၂၃ ခုနှစ် နိုဝင်ဘာလ ၂၆ ရက် တနင်္လာနေ့တွင် အင်ကြင်း တောတိုက်သိမ်၌ ရဟန်းဖြစ်သည်။ ဘွဲ့ ရှင်သောဘဏ။ ဥပဇ္ဈာယ်ဆရာမှာ မဟာဗိုလ်ဂိုဏ်းချုပ် ထန်းစင်ရွာ သုမေဓာတောရဆရာတော် ရှင်သုမေဓာ ဖြစ်သည်။ ရဟန်းဒါယကာမှာ ဦးလေးတော် ဦးအောင်ဘော် ဒေါ်သစ် မိသားစုဖြစ်သည်။

ရဟန်းဖြစ်ပြီး သူကြီးကျောင်းစာချ ရှင်ပရမ ထံမှာပင် ပါဠိတော် အဋ္ဌကထာ ဋီကာ ဆက်လက်သင်ယူသည်။ ပဋိပတ္တိကိုလည်း စွမ်းနိုင်သမျှ အားထုတ်ခဲ့သည်။ ၁၉၂၄ ခုနှစ် ရဟန်းပထမဝါတွင် ပထမငယ်။ ၁၉၂၆ တွင် ပထမလတ်။ ၁၉၂၇ တွင် ပထမကြီးတန်းများ အောင်မြင်၍ စာမေးပွဲ ကိစ္စ ပြီးစီးခဲ့သည်။ ရဟန်း ၄ ဝါရတွင် မန္တလေးမြို့ ခင်မကန်တိုက် ဘွားတော်ကျောင်း ပြောင်း၍ ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။

အနောက်ပြင် ချမ်းသာကြီးတိုက် စာချ ရှင်လက္ခဏ၊ ခင်မကန်တိုက်သစ် စာချ ရှင်ဣန္ဒဘိဝံသ တို့ထံ မန္တလေးစာချနည်းကို လေ့လာခဲ့သည်။ ၁၉၂၉ ခုနှစ်တွင် ဆိပ်ခွန်ဇာတိ မော်လမြိုင် တောင်ဝိုင်းကလေးဘုန်းကြီး အကူ အညီတောင်းခံ၍ တောင်ဝိုင်းကလေးကျောင်းတိုက်၌ စာပေပို့ချသည်။ စာပေပို့ချရင်း ဒီဃနိကာယ်၊ မဇ္ဈိမနိကာယ်လာ မဟာသတိပဋ္ဌာနသုတ်ကို ကြည့်ရှုရာမှ ပဋိပတ္တိလုပ်ငန်းကို စိတ်ညွတ်ခဲ့သည်။

ရဟန်း ၉ ဝါရ ၁၉၃၂ ခုနှစ် ဇန်နဝါရီလ ၂၉ ရက် သောကြာနေ့ တွင် ပဋိပတ္တိနည်းခံရန် မိတ်ဆွေ ရှင်တေဇဝန္တနှင့်အတူ တောင်ဝိုင်းကလေး ကျောင်းတိုက်မှ ထွက်ခွာခဲ့သည်။ ရှင်တေဇဝန္တမှာ သထုံ မင်းကွန်း ဇေတဝန်ဆရာတော်ထံ တိုက်ရိုက်သွား၍ ရှင်သောဘဏကမူ ဒုံဝန်း ဘူတာမှဆင်းပြီး သုသာန်ဓူတင်ဆောင် ရွှေရောင်ပြတောရ ဘုန်းကြီး ဦးအုန်းခိုင်ထံ သုသာန်ဓူတင် ၄ ည ဆောက်တည်သည်။ ထို့နောက် ကမ္မဋ္ဌာန်းဌာန ၁၀ ဌာနခန့် လှည့်လည်ဆွေးနွေးခဲ့သည်။ ၁၉၃၂ ခုနှစ် မတ်လ ၁၁ ရက် သောကြာနေ့တွင် သထုံမြို့ မင်းကွန်းဇေတဝန်ဆရာ တော်ထံ ရောက်ရှိသည်။ မင်းကွန်းဇေတဝန်ဆရာတော် ရှင်နာရဒ (၁၈၆၉—၁၉၅၅) မှာ မင်းကွန်းတောင်ရိုး အလယ်တောရဆရာတော် ရှင်မဥ္ဇူသာရ တပည့်ဖြစ်သည်။ ရှင်မဥ္ဇူသာရမှာ ရတနာပုံခေတ် ပဋိပတ္တိ အကျော် သီးလုံးဆရာတော် ရှင်စန္ဒိမာ၏ တပည့်ဖြစ်ရာ ပဋိပတ္တိဆရာ စဉ်ဆက် ထင်ရှားသည်။ မင်းကွန်းဇေတဝန်ဆရာတော်ထံ ၄ လခန့် ကျင့်ကြံအားထုတ်နေစဉ် တောင်ဝိုင်းကလေးဘုန်းကြီး မကျန်းမာ၍ ပြုစုရန် ၁၉၃၂ ခုနှစ် ဇူလိုင်လ ၁၀ ရက် တနင်္ဂနွေနေ့တွင် သထုံမှ ထွက်ခွာခဲ့သည်။ တစ်ပတ်အကြာ တောင်ဝိုင်းကလေးဘုန်းကြီး ပျံလွန်၍ ကျောင်းထိုင် အဖြစ် ပရိယတ္တိစာပေ ပို့ချခဲ့သည်။

၁၉၃၈ ခုနှစ်တွင် ဇာတိ ဆိပ်ခွန်ရွာ ခေတ္တပြန်၍ မဟာစည် ကျောင်းတိုက်၌ ဝိပဿနာ ကမ္မဋ္ဌာန်း လက်တွေ့ပြသသည်။ ၇ လခန့် တရားပြရာ ယောဂီ ၅၀ ခန့် ရှိသည်။ ထို့နောက် တောင်ဝိုင်းကလေး ပြန်၍ ပရိယတ္တိ စာပေပို့ချသည်။ ထိုစဉ် တောင်ဝိုင်းကြီးနှင့် တောင်ဝိုင်းကလေး ကြား အဘယာရာမတိုက်၌ ခေတ္တသီတင်းသုံးနေသော ရွှေကျင်နိကာယ ဒုတိယဥက္ကဋ္ဌ အဘယာရာမဆရာတော်ထံ ဘာသန္တရ နည်းခံသင်ယူသည်။

၁၉၄၁ ခုနှစ်တွင် ဒုတိယအကြိမ် ကျင်းပသော အစိုးရ ဓမ္မာစရိယ စာချတန်း စာမေးပွဲကို ကျမ်းရင်း ၃ ကျမ်း၊ ဂုဏ်ထူး ၅ ကျမ်း ပေါင်း ၈ ကျမ်းဖြင့် အောင်မြင်သည်။ "သာသနဓဇ သီရိပဝရ ဓမ္မာစရိယ" ဘွဲ့ရသည်။

၁၉၄၂ ခုနှစ်တွင် ဇာတိ ဆိပ်ခွန်ရွာပြောင်း၍ စစ်အတွင်း မဟာစည် ကျောင်းတိုက်၌ ကမ္မဋ္ဌာန်းနည်းပြအဖြစ် သီတင်းသုံးသည်။ ဝိပဿနာ ရှုနည်းကျမ်းကိုလည်း စီရင်ခဲ့သည်။ စစ်အတွင်း ပထမတွဲ ပုံနှိပ်ပြီးစီးသော်လည်း ဒုတိယတွဲမှာ ဗုံးဒဏ်ကြောင့် မီးလောင် ဆုံးရှုံးခဲ့သည်။ စစ်အတွင်း မှာပင် ကမ္မဋ္ဌာန်းနည်းပြ မဟာစည်ဆရာတော်အဖြစ် ထင်ရှားခဲ့သည်။

စစ်ပြီး ဆိပ်ခွန်ရွာ၌ ဝိပဿနာတရား ပြသနေစဉ် ကမ္မဋ္ဌာန်းဆရာ စုံစမ်းနေသော သူဌေးကြီး ဆာဦးသွင်နှင့် တွေ့ဆုံခဲ့သည်။ ရေဦး စက်ပိုင် သူဌေး ဦးဘသင်၏ စီစဉ်ပေးမှုဖြင့် ၁၉၄၇ ခုနှစ် ဩဂုတ်လ ၃ ရက်နေ့ တွင် စစ်ကိုင်းတောင် သမိဒ္ဓေါဒယချောင် သီလရှင်ဆရာမကြီး ဒေါ်မာလာရီ (၁၈၈ဝ-၁၉၈၁) ၏ ဇရပ်၌ သူဌေးကြီး ဆာဦးသွင်သည် မဟာစည်ဆရာ တော်၏ ဝိပဿနာတရားကို ငါးညတိုင်တိုင် နာကြားခွင့်ရခဲ့သည်။ ထိုနှစ် ဝါကျွတ်ချိန်တွင် မော်လမြိုင် တောင်ဝိုင်းကလေးကျောင်း ပြန်လည် သီတင်းသုံးသည်။ ဆိပ်ခွန်ရွာ မဟာစည်ကျောင်းတိုက်အတွင်း တိုက်ကျောင်း အလှူခံယူ၍ မော်လမြိုင်တောင်ဝိုင်းနှင့် တလှည့်စီ သီတင်းသုံးသည်။ မဟာစည်ကျောင်းတိုက်တွင် ကမ္မဋ္ဌာန်းတရားအားထုတ်သူများ များလာ၍ ယောဂီဟောင်း ဆရာကြံနှင့် ဆရာကြွက်ကို လက်ထောက်တရားပြအဖြစ် ခန့်အပ်သည်။ ၁၉၄၉ ခုနှစ်တွင် ရွှေဘို မြို့ထောင့်စေတီ သာသနာ့ရိပ်သာ ၌ ခေတ္တ သီတင်းသုံးနေစဉ် နိုင်ငံတော်ဝန်ကြီးချုပ် ဦးနုနှင့် ဗုဒ္ဓသာသန နုဂ္ဂဟအဖွဲ့ချုပ်၏ လျှောက်ထားချက်အရ ရန်ကုန် သာသနာ့ရိပ်သာ ပြောင်းရွှေ့ သီတင်းသုံးခဲ့သည်။ ၁၉၄၉ ခုနှစ် ဒီဇင်ဘာ ၄ ရက် တနင်္ဂနွေ နေ့တွင် ဝိပဿနာရိပ်သာ၌ ယောဂီ ၂၅ ဦးဖြင့် ဝိပဿနာကမ္မဋ္ဌာန်း စတင်ခဲ့သည်။

၁၉၅၂ ခုနှစ်တွင် ဆဋ္ဌသင်္ဂါယနာတင်ရန် ပြင်ဆင်မှုအနေဖြင့် ညောင်ရမ်းဆရာတော် ရှင်ရေဝတ (၁၈၇၄—၁၉၅၅) နှင့်အတူ ထိုင်း၊ ကမ္ဘောဒီးယား၊ ဗီယက်နမ်။ ၁၉၅၃ ခုနှစ်တွင် အိန္ဒိယနှင့် သီရိလင်္ကာ နိုင်ငံများသို့ သွားရောက်ဆွေးနွေးခဲ့သည်။ ၁၉၅၂ ခုနှစ်မှာပင် နိုင်ငံခြား

ပဋိပတ္တိသာသနာပြုရန် မဟာစည်ဆရာတော်သည် တပည့် ကမ္မဋ္ဌာန်းနည်းပြ ရှင်အာသဘ၊ ရှင်ကန္တဝံသတို့ကို ထိုင်းနိုင်ငံ။ ၁၉၅၅ ခုနှစ်တွင် တပည့် ကမ္မဋ္ဌာန်းနည်းပြ ရှင်သုဇာတ၊ ရှင်ဥတ္တရာဘိဝံသ၊ ရှင်ဇဝန တို့ကို သီရိလင်္ကာနိုင်ငံသို့ စေလွှတ်ခဲ့သည်။

၁၉၅၄ ခုနှစ် မေလ ၁၇ ရက် တနင်္လာနေ့တွင် ဆဋ္ဌသင်္ဂါယနာတင်ပွဲ စတင်ကျင်းပရာ ဆဋ္ဌသင်္ဂါယနာပုစ္ဆက အမေးပုဂ္ဂိုလ်၊ ဆဋ္ဌသင်္ဂါယနာဝန်ဆောင်အဖွဲ့ဝင်၊ ဆဋ္ဌသင်္ဂါယနာ ဩသာန သောဓက (ပါဠိတော်အုပ်ရေ ၄၀၊ အဋ္ဌကထာ ၅၁၊ ဋီကာ ၂၆ ပေါင်း ၁၁၇ အုပ် နောက်ဆုံးတည်းဖြတ်ရေး) အဖွဲ့ဝင်အဖြစ် တာဝန် ပေးအပ်ခံရသည်။ ထို့ပြင် တိပိဋက ပါဠိ-မြန်မာ အဘိဓာန် ပဋိဝိသောဓကအဖွဲ့ဝင်၊ ပိဋကတ်တော်မြန်မာပြန် စီစဉ်ရေးကော်မတီဝင် အဖြစ်လည်း တာဝန်ယူရသည်။ သင်္ဂါယနာအတွက် ဝိသုဒ္ဓိမဂ်အဋ္ဌကထာကို တစ်ပါးတည်း တာဝန်ယူတည်းဖြတ်ပေးခဲ့သည်။ အမေရိကန်နိုင်ငံသား ဗုဒ္ဓစာပေပညာရှင် ဟင်နရီ ကလာ့စ်ဝါရင် (၁၈၅၄—၁၈၉၉) ၏ ရောမအက္ခရာဖလှယ် 'ဝိသုဒ္ဓိမဂ်' ကျမ်းလာ အိန္ဒိယပညာရှင် ပါမောက္ခ ဓမ္မကောသမ္ဗီ၏ နိဒါန်းကို ပြန်လည်ချေပရန် သင်္ဂါယနာဝန်ဆောင်အဖွဲ့က တာဝန်ပေးအပ်၍ 'ဝိသုဒ္ဓိမဂ် နိဒါနကထာ'ကို ပါဠိ-မြန်မာ နှစ်ဘာသာဖြင့် ပြုစုခဲ့သည်။

၁၉၅၆ ခုနှစ်တွင် ထေရဝါဒ ဗုဒ္ဓသာသနာပြု မစ်ရှင်အဖွဲ့ဝင်အဖြစ် ဂျပန်နိုင်ငံ။ ၁၉၅၉ ခုနှစ်တွင် ပဋိပတ္တိသာသနာပြုရန် အိန္ဒိယမှတဆင့် သီရိလင်္ကာနိုင်ငံ။ ၁၉၅၉ ခုနှစ်မှာပင် အင်ဒိုနီးရှားနိုင်ငံများသို့ သာသနာပြုသွားရောက်ခဲ့သည်။ ပြည်တွင်း၌မူ သာသနာ့ရိပ်သာကို ဗဟိုပြု၍ ပဋိပတ္တိသာသနာပြုခဲ့ရာ ၁၉၄၉ မှ ၁၉၇၇ ခုနှစ်အတွင်း ရဟန်းယောဂီ ၁၆၉၆ ပါး၊ သီလရှင် ၁၈၃၄ ပါး၊ အမျိုးသားယောဂီ ၆၅၆၇ ဦး၊ အမျိုးသမီးယောဂီ ၁၇၂၀၇ စုစုပေါင်း ၃၇၃၀၄ ဦး၊ နိုင်ငံအနှံ့ တရားဌာနခွဲပေါင်း ၂၅၁ ဌာန၊ ယောဂီပေါင်း ရဟန်းလူ ၇၈၇၄၈၀ ရှိသည်။ ထိုင်း သီရိလင်္ကာ နိုင်ငံများတွင်လည်း တရားဌာနခွဲများကို တိုးပွားခဲ့သည်။ နိုင်ငံခြားသား ယောဂီများကို ယောဂီဟောင်း ဦးဖေသင်၊ မြန်အောင်ဦးတင် တို့၏ အကူအညီဖြင့် တရားပြသခဲ့ရာ မဟာစည် ပဋိပတ္တိသာသနာသည် အာရှ၊ ဥရောပနှင့် အမေရိကသို့တိုင် ပျံ့နှံ့ထင်ရှားသည်။ ထိုသို့ ဂုဏ်သတင်းထင်ရှားလာ

သည်နှင့်အမျှ ပြည်တွင်းပြည်ပမှ မဟာစည် ဝိပဿနာ ဖောင်းပိန် ရှုပွားမှုကို ဝေဖန်တိုက်ခိုက်မှုအချို့ ကြုံတွေ့ခဲ့ရသည်။ မဟာစည်ဆရာတော်ကိုယ်တိုင်ကမူ ဝေဖန်မှုများကို ဥပေက္ခာပြု လျစ်လျူရှု သည်းခံခဲ့သည်။ သို့သော် ပြည်တွင်းဝေဖန်မှုများကို ဝက်လက် မစိုးရိမ်ကျောင်းတိုက် ရှင်တိသ က "မဟာဠဝရတနာ" ကျမ်းဖြင့် တုံ့ပြန်ခဲ့သည်။ သီရိလင်္ကာနိုင်ငံက ဝေဖန်မှုကို ကမ္ဘာအေးဆရာတော် ရှင်ဉာဏုတ္တရနှင့် မြန်အောင်ဦးတင်တို့က အင်္ဂလိပ်ဘာသာ ဆောင်းပါး၊ စာအုပ်စာတမ်းများဖြင့် ချေပခဲ့သည်။

၁၉၇၉ ခုနှစ် သက်တော် ၇၅ တွင် ကမ္ဘာပတ်၍ ပဋိပတ်သာသနာ ပြုခဲ့သည်။ အမေရိကန်ပြည်ထောင်စု မက်ဆာချူးဆက်ပြည်နယ် ကမ္မဋ္ဌာန်းဌာန ဒါရိုက်တာ မစ္စတာ ရိုင်းအမ်ထရောင်းနှင့် အင်္ဂလန်နိုင်ငံ ဘာမင်ဂန်မြို့မှ မြန်မာရဟန်းတော် ဒေါက်တာရှင်ရေဝတဓမ္မ တို့၏ ဖိတ်ကြားမှုဖြင့် အဘယာရာမဆရာတော် ရှင်သီလာနန္ဒာဘိဝံသ၊ ချမ်းမြေ့ဆရာတော် ရှင်ဇနကာဘိဝံသ၊ ရှင်ကေလာသ၊ ရှင်အဂ္ဂဓမ္မ၊ ကပ္ပိယဦးမြင့်သိန်းတို့နှင့်အတူ ထိုင်း၊ ဂျပန်၊ အမေရိကန်ပြည်ထောင်စု၊ ဂရိတ်ဗြိတိန်၊ စကော့တလန်၊ ပြင်သစ်၊ ဆွစ်ဇာလန်၊ အီတလီ၊ နယ်သာလန်၊ အနောက်ဂျာမနီနိုင်ငံများသို့ သာသနာပြု သွားရောက်ခဲ့သည်။ ၁၉၈၀ ပြည့်နှစ်တွင် ဒုတိယအကြိမ် ထိုင်း၊ ပြင်သစ်၊ အင်္ဂလန်၊ သီရိလင်္ကာ၊ စင်္ကာပူနိုင်ငံ။ ၁၉၈၁ ခုနှစ်တွင် နီပေါလ်၊ အိန္ဒိယနိုင်ငံများသို့ ပဋိပတ်သာသနာပြုရန် ကြွရောက်ခဲ့သည်။

မဟာစည်ဆရာတော်သည် ထင်ရှားကျော်ကြားသော ဝိပဿနာရှုနည်း ၂ တွဲ၊ ဝိသုဒ္ဓိမဂ် မြန်မာပြန် ၄ တွဲ၊ ဝိသုဒ္ဓိမဂ် မဟာဋီကာနိဿယ ၄ တွဲ၊ မဟာသတိပဋ္ဌာနသုတ်ပါဠိတော် နိဿသ၊ ပဋိစ္စသမုပ္ပါဒ်တရားတော်ကြီး ၂ တွဲ၊ ဓမ္မစကြာတရားတော်၊ အနတ္တလက္ခဏာသုတ္တန်တရားတော် အပါအဝင် ကျမ်းပေါင်း ၈၀ ကျော် ပြုစုခဲ့သည်။ ကျမ်း ၃၀ ကျော်ကို ဦးအေးမောင်၊ ဦးကိုလေး (ဇေယျာမောင်)၊ ဦးအုန်းဖေ (တက်တိုး)၊ ဦးမင်းဆွေ (မင်းကျော်သူ)၊ ဦးထင်ဖတ် (မောင်ထင်)၊ သမဝါယမမင်းကြီး ဦးညီညီ၊ မောင်သာနိုး စသော စာရေးဆရာ ဘာသာပြန်ပညာရှင်များက အင်္ဂလိပ်ဘာသာ ပြန်ဆိုခဲ့သည်။

၁၉၅၂ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။

နိုင်ငံတော် သံဃာ့နာယက ဩဝါဒါစရိယ မဟာစည်ဆရာတော်သည် သက်တော် ၇၉ သိက္ခာ ၅၈ ဝါရ ၁၉၈၂ ခုနှစ် ဩဂုတ်လ ၁၄ ရက် စနေနေ့ မွန်းလွဲ ၁း၃၆ နာရီအချိန်တွင် ရန်ကုန်မြို့ သာသနာ့ရိပ်သာ မဟာစည်ကျောင်းတော်၌ တစ်ဘဝ နိဂုံးချုပ်ခဲ့ပါသည်။





## ညောင်တုန်း
## ရွှေဟင်္သာတောရဆရာတော်
## ရှင်ဝိမလ
(၁၉၀၅ — ၁၉၈၈)

ညောင်တုန်း ရွှေဟင်္သာတောရ ပထမစံကျောင်းဆရာတော်နှင့် ဒုတိယစံကျောင်းဆရာတော် တို့၏ အားထားရာ ရွှေကျင်နိကာယ ဂုဏ်ဆောင် ဆရာတော်တစ်ပါး ဖြစ်၏။ ပရိယတ္တိစာပေ ထက်မြက်သည်နှင့်အမျှ နူးညံ့သိမ်မွေ့၍ ရဟန်းပီသသော ရဟန်းတစ်ပါးအဖြစ် ထင်ရှားသည်။ ရဟန်းလေးဝါရတွင် ပခုက္ကူအရှေ့တိုက် ခေါ် မဟာဝိဇယာရာမ ဆရာတော် ရှင်ဇဝနထံ ပညာသင်အပ်နှံစဉ် ပထမစံကျောင်းဆရာတော်က 'တပည့်တော်များ၏ တပည့်ဖြစ်သူ ဝိမလသည် နူးညံ့သိမ်မွေ့ပါသည်။ ထက်မြက်နက်သန်သော ဉာဏ်ရည်လည်း ရှိပါသည်။ ကြီးသူများကို လေးစားတတ်၍ ခက်ထန်မှုလည်း ကင်းပါသည်။ ဒေါသနည်းပါး၍ နှစ်သက်ဖွယ်ရာ ဆိုတတ်ပါသည်။ ဝိမလသည် တပည့်တော်အား နေ့ညမဟူ အနီးကပ် လုပ်ကျွေးသူဖြစ်ပါ၏။ အများနှင့် သင့်မြတ်သူလည်း ဖြစ်ပါသည်။ နှုတ်ချိုသည်သာမကဘဲ အကျင့်သီလလည်း ကောင်းမွန်ပါ၏။ အရှင်ဘုရားက ဝိမလအား သားကဲ့သို့ စောင့်ရှောက်တော်မူပါ။ ပညာလည်း ပေးတော်မူပါ။ အဆုံးအမများလည်း နေ့စဉ် ပေးသနားတော်မူပါ' ဟု ယုံကြည်ကိုးစားစွာ အပ်နှံခဲ့သည်။ စံကျောင်းဆရာတော် ယုံကြည်ခဲ့သည့်အတိုင်း နောင်အခါ ရွှေဟင်္သာတောရ စတုတ္ထစံကျောင်းဆရာတော် အမည်ဖြင့် ရွှေကျင်နိကာယ ဒုတိယသာသနာပိုင်၊ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့က ဒုတိယဥက္ကဋ္ဌ ၁ တာဝန်များ ပေးအပ် ချီးမြှင့်ခံရပါသည်။

**ဝိမလ၊ ရှင်၊ ရွှေဟသ်ာတောရ စတုတ္ထစံကျောင်းဆရာတော် —**

၁၉၀၅ ခုနှစ် ဧပြီလ ၆ ရက် ဗုဒ္ဓဟူးနေ့တွင် ရန်ကုန်တိုင်း ကွမ်းခြံကုန်းမြို့နယ် တော်ကူးကြီးရွာ၌ ဖွားသည်။ အဖ ဦးဘိုးထုံး၊ အမိ ဒေါ်နှင်းအိ ဖြစ်သည်။ မွေးချင်းလေးယောက်တွင် အငယ်ဆုံး ဖြစ်သည်။ အမည် မောင်အုံ ဖြစ်သည်။

ငါးနှစ်အရွယ်တွင် တော်ကူးကြီးရွာ အနောက်ပိုင်း ဆရာလေး ဦးသာလွန်း၏ မူလတန်းကျောင်း၌ စတင် ပညာဆည်းပူးသည်။ ၁၀ နှစ် အရွယ် စတုတ္ထတန်းအရောက် တော်ကူးကြီးရွာ လယ်ပေါ်ကျောင်းဘုန်းကြီး ရှင်ဝိသုဒ္ဓထံ ပြောင်း၍ လောကုတ္တရာစာပေ သင်ယူသည်။ ရှင်ဝိသုဒ္ဓမှာ မြစ်ကွေ့ဆရာတော် ရှင်ကေတုမာလာ၏ တပည့်ရင်းဖြစ်၍ ရွှေကျင်စိတ် ထက်သန်သည်။ စည်းကမ်းကြီးသည်။ ၁၂ နှစ်တွင် မိဘနှစ်ပါးက ရှင်ဒါယကာခံ၍ သာမဏေဖြစ်၏။ ဘွဲ့ ရှင်ရာဇိန္ဒ။ ဥပဇ္ဈာယ်ဆရာမှာ ရှင်ဝိသုဒ္ဓ ဖြစ်သည်။ သာမဏေ တစ်ဝါရတွင် ရှင်လိင်ပြန်၍ ကျောင်းသား အဖြစ် ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။

ဆယ့်သုံးနှစ်အရွယ်၌ ဦးလေးငယ် ရှင်သိရီသီလဝံသ (၁၈၈၅—၁၉၄၆) နှင့် အတူလိုက်ပါ၍ ရန်ကုန် ကျိုက်ဝိုင်းရိုးကြီးကျောင်း၌ သာမဏေ ဖြစ်သည်။ ဘွဲ့ ရှင်ဝိမလ ဟု ပြင်ပေးသည်။ ဝမ်းကိုက်ရောဂါကြောင့် ရှင်လိင်ပြန်၍ ဦးလေး ရှင်သိရီသုမန (၁၈၈၅—၁၉၅၀) နှင့် ရှင်သိရီသီလဝံသ တို့နှင့်အတူ စစ်ကိုင်းတောင် သုမနာရာမချောင် လိုက်ပါပြီး သာမဏေ ဝတ်သည်။ သာမဏေဝတ်ဖြင့် သုမနာရာမချောင်နှင့် သုနန္ဒာရာမချောင် ဦးလေးနှစ်ပါး၊ အရှေ့မှန်ကျောင်း စာချ ရှင်ပဏ္ဍဝံထံ စာလိုက်သည်။ ၁၄ နှစ်အရွယ်တွင် ပထမပြန်စာမေးပွဲ ပထမငယ်တန်း အောင်သည်။ စာချ ရှင်ပဏ္ဍဝံသမှာ ဉာဏ်ထက်မြက်၍ တစ်နေ့ အဘိဓာန်ဂါထာ ၅၀ အလွယ်နှင့် အာဂုံရ၍ စစ်ကိုင်း မဟာဂန္ဓာရုံ ဝိနည်းစာပြန်ပွဲ ပထမကျော် အောင် သည်။ ဦးလေး ရှင်သိရီသုမနနှင့် သိရီသီလဝံသ နှစ်ပါးမှာ ပါဠိ၊ သက္ကတ၊ သီဟိုဠ်၊ အင်္ဂလိပ်ဘာသန္တရ ကျွမ်းကျင်၍ သီဟိုဠ်ပြန်ဆရာတော်များအဖြစ် ထင်ရှားသည်။ စစ်ကိုင်းတောင်တွင် ခေတ္တသီတင်းသုံးနေသော ရှင်ဉာနာ ဘိဝံသထံ ရူပသိဒ္ဓိစာဝါ သင်ယူခဲ့၏။ ရှင်ဉာနာဘိဝံသမှာ နောင်အခါ ရွှေကျင်သာသနာပိုင် မြောင်းမြဆရာတော်အဖြစ် ထင်ရှားသည်။

သာမဏေ နှစ်ဝါရတွင် ညောင်တုန်း ရွှေဟင်္သာတောရ စာသင်တိုက် ပြောင်း၍ ပရိယတ္တိစာပေ သင်ယူသည်။ ရွှေဟင်္သာတောရ ပထမစံကျောင်း ဆရာတော် ရှင်ဝါယမ (၁၈၇၄-၁၉၄၇) မှာ ဦးလေးနှစ်ပါး၏ ဆရာဖြစ်၏။ စံကျောင်းဆရာတော် သီတင်းသုံးရာ မင်းကျောင်း၌နေ၍ ပထမလတ်တန်း စာဝါများ သင်ယူသည်။ ထိုစဉ်က ရွှေဟင်္သာတောရတွင် သံဃာ ၁၀၀ ဝန်းကျင်ရှိသည်။ သာမဏေ ၂ ဝါရမှာပင် ပထမလတ်တန်း အောင်သည်။ ၃ ဝါရ ပထမကြီးတန်း ဖြေဆိုနေစဉ် ကျန်းမာရေးချို့ယွင်း၍ စာမေးပွဲ ကျရှုံးခဲ့သည်။ ထိုနှစ်မှာပင် ညောင်တုန်းမြို့ ပရိယတ္တိစာမေးပွဲ အကြီးတန်းကို တတိယအဆင့်မှ အောင်မြင်ခဲ့သည်။

၁၉၂၃ ခုနှစ် မတ်လ ၂၄ ရက် စနေနေ့တွင် ရွှေဟင်္သာတောရ ကျောင်းတိုက် ကျောင်းတော်ရာဆရာတော် ရှင်သာသန (၁၈၄၃-၁၉၂၅) ကို ဥပဇ္ဈာယ်ယူ၍ ရဟန်းဖြစ်သည်။ ဘွဲ့ ရှင်ဝိမလ ဖြစ်သည်။ ရဟန်း ဒါယကာမှာ ညောင်တုန်းမြို့ သမာဓိမြို့ဝန် ကုန်သည်ဦးဘိုးဆင့်၊ ဒေါ်လေး ဖြစ်သည်။ ရဟန်းခံပွဲကို စံကျောင်းဆရာတော်နှစ်ပါးက အထူးဝါယမ စိုက်ထုတ် စီစဉ်ခဲ့သည်။ ရဟန်းခံပွဲနှင့်ပတ်သက်၍ ကျောင်းတော်ရာ ဆရာတော်က ရဟန်းဒါယကာများအား 'မောင်ဘိုးဆင့်၊ မိလေးတို့က တို့ကို ငွေတစ်ထောင် ပေးလှူပါမယ်ဆိုတာတောင် ဒီအသက်အရွယ် ဒီကျန်းမာ ရေးနဲ့ တို့မလာဘူး။ ဒီစံကျောင်းဆရာတော်၊ တိုက်အုပ်ဆရာတော်တို့က ဒီကိုရင်ဟာ ဆရာတော်ပြုစုထားတဲ့ သာသနာကို စောင့်ရှောက်နိုင်ပါလိမ့် မယ်လို့ လျှောက်လို့သာ သာသနာတော်ကြီး အားပေးတဲ့အနေနဲ့လာတာ' ဟု မိန့်ကြားခဲ့သည်။

ရဟန်း ၁ ဝါရ ၁၉၂၄ ခုနှစ်တွင် အစိုးရ ပထမပြန် ပထမကြီးတန်း အောင်မြင်ခဲ့သည်။ ရွှေဟင်္သာတောရမှ လေးပါးအောင်မြင်ခဲ့ရာ တစ်နိုင်ငံ လုံးတွင် အောင်ချက်အကောင်းဆုံး ဖြစ်ခဲ့သည်။ ပထမကြီးအောင်ပြီး ရဟန်းပထမဝါမှာပင် 'သာသနပါလ တိုက်ကျောင်းဘုန်းကြီး' ခန့်အပ်ခံရ သည်။ သံဃာသုံးဆယ်ခန့်ကို အုပ်ချုပ်၍ စာပေပို့ချရသည်။ စံကျောင်း ဆရာတော်ထံ ဝိနည်းအဋ္ဌကထာကို ဆိုဝါ၊ တိုက်အုပ်ဆရာတော်ထံ သင်ရိုး သုတ္တန်အဋ္ဌကထာ၊ အဘိဓမ္မာ အဋ္ဌကထာများကို ဆိုဝါဖြင့် သင်ယူခဲ့သည်။

တိုက်အုပ်ဆရာတော်မှာ ပထမပြန်စာမေးပွဲကို အားပေးရာ ရှင်ဝိမလသည် ပထမကြီးတန်း စာမေးပွဲကို သုံးကြိမ်ဖြေ၍ သုံးကြိမ်လုံး အောင်မြင်ခဲ့သည်။

ရဟန်း ၂ ဝါရတွင် ရွှေဟင်္သာတောရတိုက်တည် ဥပဇ္ဈာယ်ဆရာ ကျောင်းတော်ရာဆရာတော် ပျံလွန်ခဲ့၏။ စံကျောင်းဆရာတော်၏ အမိန့်အရ 'ကျောင်းတော်ရာ ထေရုပ္ပတ္တိကထာ' ကျမ်း ရေးသားပူဇော်ခွင့်ရခဲ့သည်။ ရဟန်း ၄ ဝါရတွင် ရဟန်းဒါယကာမကြီး ဆန္ဒအရ ပခုက္ကူအရှေ့တိုက်ခေါ် မဟာဝိဇယာရာမတိုက်ဆရာတော် ရှင်ဇဝနထံ ဝိနည်းမဟာဝါ ပါဠိ၊ အဋ္ဌကထာများ သင်ယူသည်။ အလယ်တိုက်ခေါ် မဟာဝိသုတာရာမတိုက် ဆရာတော် ရှင်ပညာ ထံ သီလက္ခန်ပါဠိတော် အဋ္ဌကထာ၊ စာချ ရှင်အဂ္ဂဝံသ ထံ ဋီကာကျော် သင်ယူ၏။ ဝါကျွတ်လျှင် စံကျောင်းဆရာတော်၏ အမိန့်အရ ညောင်တုန်း ရွှေဟင်္သာတောရပြန်၍ စာပေပို့ချသည်။ ၁၉၃၁ ခုနှစ်တွင် ရဟန်းဒါယကာများ၏ ဝံသာနုတိုက် ခေါ် သာသနဝံသာရက္ခ တိုက်ကျောင်းပြောင်း၍ ကျောင်းတိုက်တာဝန်များ ခွဲဝေထမ်းဆောင်သည်။ ဦးဝန် (မင်းသုဝဏ်) မှတစ်ဆင့် ပညာတံခွန်အသင်း အဘိဓာန်ဌာန လိုအပ်သော စာပေအကူအညီများ ပေးခဲ့သည်။

၁၉၄၇ ခုတွင် ပထမစံကျောင်းဆရာတော် ပျံလွန်၍ တိုက်ကြပ် ခန့်အပ်ခံရသည်။ တိုက်ကြပ်တာဝန်အပြင် တိုက်အုပ်တာဝန်များကိုလည်း ပူးတွဲတာဝန်ယူရသည်။ တိုက်အုပ်ဆရာတော် ရှင်ဇာဂရမှာ အလွန် သဘောကောင်း၍ အေးအေးနေလေ့ရှိသည်။ ၁၉၅၁ ခုနှစ်တွင် ဒုတိယ စံကျောင်းဆရာတော် ရှင်ကလျာဏ (၁၈၈၃—၁၉၅၁) ပျံလွန်၍ တိုက်အုပ် ဆရာတော်ဖြစ်လာသည်။ ၁၉၅၁ ခုနှစ်မှ စတင်၍ ပါဠိဘာသာ ပညာရေး အဖွဲ့ နာယကအဖွဲ့ဝင်၊ အက်ဥပဒေရေးဆွဲရေးအဖွဲ့ဝင်၊ ပါဠိတက္ကသိုလ် ဗဟိုအဖွဲ့ဝင်အဖြစ် တာဝန်ပေးအပ်ခံရသည်။

၁၉၅၂ ခုတွင် အိန္ဒိယနိုင်ငံ မြန်မာသံအမတ်ကြီး ဦးကြင်၏ ပင့်ဖိတ် ချက်အရ အိန္ဒိယ ဗုဒ္ဓဂယာဘုရားဖူး ကြွခဲ့သည်။

၁၉၅၄-၅၆ ခု ဆဋ္ဌသင်္ဂါယနာတင်ပွဲတွင် ပဋိဝိသောဓကအဖွဲ့ဝင်၊ ပဋိသမ္ဘိဒါမဂ် ပါဠိတော် ဘာဏကအဖွဲ့ခေါင်းဆောင်အဖြစ် ပါဝင်ခဲ့၏။ ပဋိသမ္ဘိဒါမဂ် ပါဠိတော်ကိုလည်း တာဝန်ယူ တည်းဖြတ်ပေးခဲ့သည်။ ၁၉၆၆ ခုနှစ် မှော်ဘီ ဂိုဏ်းပေါင်းစုံအစည်းအဝေးတွင် ရွှေကျင်နိကာယကိုယ်စား

လှယ်အဖြစ် တက်ရောက်ခဲ့သည်။ ၁၉၇၅ ခုနှစ်တွင် ညောင်တုန်း ရွှေဟင်္သာတောရ စာသင်တိုက်ကြီး၏ စတုတ္ထမြောက် တိုက်ပိုင်ဆရာတော် ဖြစ်လာ၏။ ၁၉၈၀ ပြည့်နှစ် ပထမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေး ကိုယ်စားလှယ်၊ ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ ၆၆ ပါး အဖွဲ့ဝင်၊ အခြေခံ စည်းမျဉ်း ရေးဆွဲရေးအဖွဲ့ခေါင်းဆောင်၊ အဆိုစီစစ်ရေးအဖွဲ့ခေါင်းဆောင်၊ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်အဖွဲ့ ဒုတိယဥက္ကဋ္ဌ ၁ အဖြစ် တာဝန်ပေးအပ်ခံရ၏။ ၁၉၈၀ ပြည့်နှစ် တောင်ငူတွင်ကျင်းပသော ၁၂ ကြိမ်မြောက် ရွှေကျင်နိကာယ အစည်းအဝေးကြီးတွင် တွဲဖက်သာသနာပိုင် (ဥပဥက္ကဋ္ဌ လေးပါးအဖွဲ့ဝင်) အဖြစ် တင်မြှောက်ခံရသည်။

၁၈ ဝါရက 'ကခ်ါမေးခွန်းနှင့်အဖြေ ၂ တွဲ။ သြဝါဒ၊ ကဗျာ၊ လင်္ကာ၊ လေးချိုး၊ တေးထပ်၊ ရတု၊ ရှစ်လုံးဘွဲ့၊ ဂါထာဗန္ဓ အမြောက်အမြား ရေးဖွဲ့၍ အချို့ကိုစုစည်း၍ သြဝါဒရတနာ သုတပဒေသာအဖြစ် ပုံနှိပ်ထုတ်ဝေ ခဲ့သည်။

၁၉၅၇ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့၊ ၁၉၈၅ ခုနှစ်တွင် အဘိဓဇ မဟာရဋ္ဌဂုရုဘွဲ့တံဆိပ်များ ဆက်ကပ်ခံရသည်။

သက်တော် ၈၄ သိက္ခာ ၆၅ ဝါရ ၁၉၈၈ ခုနှစ် စက်တင်ဘာလ ၂၆ ရက် နံနက် ၈း၂၀ နာရီတွင် ညောင်တုန်းမြို့ ရွှေဟင်္သာတောရတိုက်၌ တစ်ဘဝ တစ်ခန္ဓာ ချုပ်ငြိမ်းခဲ့ပါသည်။





## အင်းလေး
## သာလေးတောင်ကျောင်းဆရာတော်
## ရှင်နေမိန္ဒ
(၁၉၀၆ — ၁၉၆၅)

ကိုလိုနီခေတ်ဦး မြန်မာနိုင်ငံ ပရိယတ္တိစာပေလောကတွင် ထင်ရှားလှသော မန္တလေးမြို့ ပရိယတ္တိသာသနဟိတအသင်း စာမေးပွဲ (သက္ကျသီဟ) စာသင်တန်းနှင့် စာချတန်းတို့ကို ရှမ်းပြည်နယ် သံဃာများထဲက ပထမဦးဆုံး အောင်မြင်ခဲ့သူ။ ရဟန်းပျို စာသင်သားဘဝက မန္တလေးမြို့ ဒက္ခိဏာရာမဘုရားကြီးတိုက် စာချအကျော် ဇောတိကာရုံ အုတ်ကျောင်းဆရာတော် ရှင်နာရဒ၏ လက်ရုံးတပည့်တစ်ပါးဖြစ်သည်။ ရဟန်း ၅ ဝါရတွင် သက္ကျသီဟ စာမေးပွဲအောင်သည်။ ၈ ဝါရတွင် ဇာတိရပ်ရွာ ညောင်ရွှေနယ် အင်းလေးဒေသ သာလေးတောင်ကျောင်းကို ပရိယတ္တိစာသင်တိုက်တည်ပြီး ပရိယတ္တိစာပေ ပို့ချသည်။ ၁၉၃၃ ခုနှစ်မှ ပျံလွန်သည်ထိ ၃၂ နှစ်တိုင်တိုင် ရှမ်းပြည်နယ်လုံးဆိုင်ရာ ဝိနယာဒိနုဂ္ဂဟ စာပြန်ပွဲကြီး၏ အကျိုးဆောင်အဖြစ် ဆောင်ရွက်ခဲ့သည်။ ရှမ်းပြည်နယ် အင်းတိမ်ဂိုဏ်းထောက်၊ ရှမ်းပြည်နယ် ညောင်ရွှေနယ်လေးရပ်ဆိုင်ရာ ဂိုဏ်းချုပ်ဆရာတော်အဖြစ် တင်မြှောက်ခံရ၏။ ၁၉၅၄ ခုနှစ် ဆဋ္ဌသင်္ဂါယနာတင်ပွဲတွင် ဝန်ဆောင်ဆရာတော်အဖြစ် ထမ်းဆောင်ခဲ့သည်။ အထူးသဖြင့် အင်းလေးကန်သမိုင်းဝင် တန်ခိုးကြီး ဖောင်တော်ဦးရုပ်ပွားတော်များစံရာ ဖောင်တော်ဦးကျောင်းတော်ကြီး အသစ်ပြန်လည်တည်ဆောက်ရေး တာဝန်ပေးအပ်ခံရ၍ အောင်မြင်စွာ ဆောင်ရွက်ခဲ့ပါသည်။

## နေမိန္ဒ၊ ရှင်၊ သာလေးတောင်ကျောင်းဆရာတော် —

၁၉၀၆ ခုနှစ် အောက်တိုဘာလ ၆ ရက် စနေနေ့တွင် အင်းလေးဒေသ သာလေးရွာ၌ ဖွားသည်။ အဖ ကုန်သည် ဦးဘိုလုံ၊ အမိ ဒေါ်ဝေါဖြစ်သည်။ မွေးချင်း ၈ ယောက်တွင် ပဉ္စမမြောက် ဖြစ်သည်။ အမည် မောင်သန်းတင် ဖြစ်သည်။

၇ နှစ်အရွယ်တွင် သာလေးရွာ မူလတန်းကျောင်း၌ စတင် ပညာသင်သည်။ ထို့နောက် သာလေးရွာ တောင်ကျောင်း ရှင်ကေသရ ထံ ပြောင်း၍ ပရိယတ္တိစာပေသင်ယူသည်။ ၁၄ နှစ်တွင် ရှင်ဖြစ်သည်။ သာမဏေဘွဲ့ ရှင်နေမိန္ဒ။ ဥပဇ္ဈာယ်ဆရာမှာ ရှင်ကေသရ၊ ရဟန်းဒါယကာမှာ မိဘနှစ်ပါးဖြစ်သည်။ သာမဏေဝတ်ဖြင့် ကစ္စည်းသဒ္ဒါ၊ ပုစ်စစ်၊ အဘိဓမ္မတ္ထသင်္ဂဟ (သင်္ဂြိုဟ်ကျမ်း)၊ အဘိဓာန်ကျမ်းများ သင်ယူခဲ့သည်။ ဉာဏ်ထက်မြက်၍ သင်္ဂြိုဟ်တစ်ပိုင်းကို နှစ်ရက်ဖြင့် အာဂုံရသည်။ သာမဏေ ၂ ဝါရ ၁၉၂၂ ခုနှစ် ဟဲယာရွာမ၌ ကျင်းပသော စာပြန်ပွဲ (ပထမဆင့်) အောင်မြင်သည်။ ပထမဆင့်တွင် ပါတိမောက်၊ ကစ္စည်းသဒ္ဒါ၊ ပုဒ်စစ်၊ သင်္ဂြိုဟ်ကျမ်းများ အာဂုံပြန်ဆိုရသည်။

သာမဏေ ၃ ဝါရ ၁၉၂၃ ခုနှစ် သာလေးရွာ၌ ကျင်းပသော စာပြန်ပွဲ ဒုတိယဆင့် ဋီကာကျော် အာဂုံပြန်တွင် ရဟန်း ၄ ပါးနှင့်အတူ ဝင်ရောက်ပြန်ဆိုရာ အကောင်းဆုံး ပြန်ဆိုနိုင်၍ သာမဏေကျော်အဖြစ် ထင်ရှားခဲ့သည်။ စာပြန်ပွဲပြီးနောက် ရန်အောင်ခေါ် ရနောင်မြို့ ဇေယုတောရကျောင်း ပိဋကတ်အကျော် ရှင်ခန္တိဝရ (၁၈၇၀—၁၉၄၇) ထံ ပြောင်း၍ ပိဋကတ်စာပေများ သင်ယူသည်။ ရှင်ခန္တိဝရမှာ မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးတိုက် ပင်းသာကျောင်းဆရာတော် ဖြစ်သည်။ ၂ နှစ်ခန့်အကြာ မန္တလေးမြို့ ဘုရားကြီးတိုက် ပြန်လည်သီတင်းသုံးရာ ရှင်ခန္တိဝရနှင့်အတူ လိုက်ပါခဲ့၏။ မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးတိုက် ပင်းသာကျောင်း ဆရာတော် ရှင်ခန္တိဝရနှင့် တပည့်ကြီး သာသနဇောတိကာရုံ အုတ်ကျောင်း ဆရာတော် ရှင်နာရဒ (၁၈၈၈—၁၉၆၅) ထံ သာမဏေဝတ်ဖြင့် ပိဋကတ်စာပေ ဆက်လက်သင်ယူသည်။

၁၉၂၆ ခုနှစ် မတ်လ ၁ ရက် တနင်္လာနေ့တွင် မန္တလေးမြို့ ဒက္ခိဏာ

ရာမ ဘုရားကြီးတိုက်သိမ်၌ ရဟန်းဖြစ်သည်။ ဥပဇ္ဈာယ်ဆရာမှာ ရွှေရေးဆောင်တိုက်နာယက ရှင်အာဒိစ္စရံသီ (ဦးကြည် ၁၈၅၇—၁၉၁၅) ဖြစ်သည်။ ဆရာရင်း ရှင်ခန္တိဝရ၊ ညောင်ကန်တိုက်အုပ် ရှင်ကုဏ္ဍာဘိဝံသ၊ ဇောတိကာရုံ အုတ်ကျောင်းဆရာတော် ရှင်နာရဒ တို့က ကမ္မဝါစာဆရာပြုသည်။ ရဟန်းဒါယကာမှာ အင်းလေးကန် သာလေးရွာ ဘုရားဒါယကာ သူဌေး ဦးကြုတ်၊ ဒေါ်အိမ် မိသားစုဖြစ်သည်။ ရဟန်းဘွဲ့မှာ ရှင်နေမိန္ဒ ဖြစ်သည်။

ရဟန်းဖြစ်ပြီး ပင်းသာဆရာတော်၊ ဇောတိကာရုံ အုတ်ကျောင်းဆရာတော်၊ ရွှေရေးဆောင်ဆရာတော်၊ ညောင်ကန်တိုက်အုပ်ဆရာတော်၊ မိုးကောင်းတိုက် ညောင်ရမ်းဆရာတော် ရှင်ရေဝတ၊ မစိုးရိမ် နာယကဆရာတော်၊ စံကျောင်း ရှင်စန္ဒိမာနှင့် ဘုရားကြီးတိုက် စတုတ္ထဆရာတော် ရှင်အာစရ၊ ရှင်ဇာဂရ၊ ရှင်ဝိစာရ (ဦးပခန်း)၊ ဆဋ္ဌမ သံယာ့နာယက ရှင်ဥက္ကံသမာလာ (ဦးငြိမ်း)၊ ရှင်သံဝရ၊ ရှင်နန္ဒိယ (ကဗျာနန်)၊ ဟံသာဝတီဆရာတော် ရှင်ကုဏ္ဍာသဘ၊ ရွှေဘုန်းရှိန်ဆရာတော် (ဦးကြယ်)တို့ထံ နည်းခံသင်ယူ၍ ရဟန်း ၁ ဝါရတွင် အစိုးရ ပထမပြန်စာမေးပွဲ ပထမလတ်တန်း၊ ရဟန်း ၂ ဝါရတွင် သက္ကျသီဟစာမေးပွဲ စာသင်တန်း၊ ရဟန်း ၅ ဝါရတွင် သက္ကျသီဟ စာမေးပွဲစာချတန်းကို ပထမဆင့်မှ အောင်မြင်ခဲ့သည်။ အလွန်ခက်ခဲ၍ အောင်ချက်နည်းလှသော သက္ကျသီဟစာမေးပွဲစာသင်တန်း၊ စာချတန်းများကို ရှမ်းပြည်နယ် သံဃာများထဲက ပထမဦးဆုံး အောင်မြင်ခဲ့သူအဖြစ် မှတ်တမ်းတင်ခံရသည်။

သက္ကျသီဟ စာမေးပွဲပြီးနောက် ပင်းသာဆရာတော်နှင့် အုတ်ကျောင်းဆရာတော်တို့က စာချတာဝန်ပေးအပ်၍ ပရိယတ္တိစာပေ ပြန်လည်ပို့ချသည်။ အရပ်ရပ်မှ မေးလျှောက်သော ပုစ္ဆာများ၊ ဝိနိစ္ဆယများကို ဆရာတော်နှစ်ပါးကိုယ်စား ဖြေဆိုရသည်။ ၁၉၃၄ ခုနှစ် ၈ ဝါရတွင် ရဟန်းဒါယကာများ၏ ဆန္ဒ၊ ဆရာနှစ်ပါး၏ ခွင့်ပြုချက်ဖြင့် ရှမ်းပြည်နယ်တောင်ပိုင်း အင်းလေးဒေသ သာလေးတောင်ကျောင်း၌ ပရိယတ္တိစာသင်တိုက် ဖွင့်လှစ်သည်။ ရှင်မေဓာဝီ၊ ရှင်ကဝိန္ဒတို့နှင့်အတူ တစ်နှစ်ခန့် စာသင်တိုက်ဖွင့်လှစ်ပြီး ၁၉၃၆ ခုနှစ်တွင် မန္တလေးမြို့ ဘုရားကြီးတိုက် ဆရာတော်နှစ်ပါးထံ ပြန်လည် သီတင်းသုံး စာပေပို့ချသည်။ ထိုသို့ စာပေပို့ချနေစဉ် ညောင်ရွှေ

နယ် ဝိနယာဒိနုဂ္ဂဟ အာဂုံစာပြန်ပွဲကြီး၏ အဝေးရောက် အကျိုးတော်ဆောင်အဖြစ် တာဝန်ထမ်းဆောင်ခဲ့သည်။

ဒုတိယကမ္ဘာစစ်ကြောင့် ၁၉၄၂ ခုနှစ်တွင် ဆရာတော်နှစ်ပါး၏ ခွင့်ပြုချက်ဖြင့် ရှမ်းပြည်နယ် အင်းလေးကန် သာလေးတောင်ကျောင်းပြန်၍ သီတင်းသုံးသည်။ စစ်အတွင်းမှာပင် နောက်ပါသံဃာများကို ပရိယတ္တိစာပေပို့ချသည်။ ဂျပန်ခေတ် ဂျပန်အာဏာပိုင်များ၏ ဆန္ဒအရ ညောင်ရွှေစော်ဘွားကြီး ဦးဆောင်၍ ရှမ်းပြည်နယ် သံဃာများ တစ်ဂိုဏ်းတစ်ဖွဲ့တည်းဖြစ်မြောက်ရေး၊ ဝိနည်းတရားနှင့်အညီ ကျင့်ကြံသီတင်းသုံးနိုင်ရေး လုပ်ငန်းများတွင် ပါဝင်ဆောင်ရွက်ခဲ့သည်။

ညောင်ရွှေမြို့ ရန်ကုန်ကျောင်း သာသနဝိဇ္ဇောဒယ စာသင်တိုက်တွင် ဝိနည်းမဟာဝါ ပါဠိတော်ကို ပို့ချခဲ့သည်။ ရှမ်းပြည်နယ် သံဃာများ တစ်ဖွဲ့တည်းဖြစ်မြောက်ရေး အထိမ်းအမှတ်အဖြစ် သဒ္ဓမ္မဌိတိခဏ္ဍသိမ် သမုတ်ရာတွင် ဦးဆောင်တာဝန်ယူရန် ညောင်ရွှေနယ်လေးရပ်လုံးဆိုင်ရာ ဂိုဏ်းချုပ် လင်းကင်းဆရာတော်၏ တာဝန်ပေးအပ်ခံရသည်။ သဒ္ဓမ္မဌိတိသိမ်နှင့် အခြားသိမ်ပေါင်း ၂၀ ကို တာဝန်ယူ သမုတ်ပေးခဲ့သည်။

၁၉၄၃ ခုနှစ်တွင် သာလေးတောင်ကျောင်း၌ စာချတာဝန်အဖြစ် သီတင်းသုံးနေရာစဉ် ကျောင်းထိုင် ရှင်မေဓာဝီက သာလေးတောင်ကျောင်းကို ရှင်နေမိန္ဒအား နှစ်ဦးပိုင် ဒွိသန္တက လှူဒါန်းခဲ့သည်။ ၁၉၄၄ ခုနှစ်တွင် ရှင်မေဓာဝီ သာသနာ့ဘောင်မှ လူ့ဘောင်သို့ ကူးပြောင်းသွားရာ သာလေးတောင်ကျောင်း ကျောင်းထိုင်ဆရာတော် ဖြစ်လာသည်။ သာလေးတောင်ကျောင်း၌ စာသင်သံဃာ ၄၀ ကျော်ရှိ၍ နေ့ဝါ ညဝါများကို တစ်ပါးတည်း တာဝန်ယူ ပို့ချခဲ့သည်။ စာပေပို့ချရုံမျှမက စာသင်သားများတွက် ရည်ရွယ်၍ ကစ္စာယနဓာတုမဉ္ဇူသာ နိဿယသစ်ကျမ်း၊ ဒါယကာ ဒါယိကာမများအတွက် သိင်္ဂါလောဝါဒသုတ် ဆောင်ပုဒ်လင်္ကာ အဓိပ္ပာယ်ကျမ်းတို့ ပြုစုခဲ့သည်။ ယင်းကျမ်း ၂ ကျမ်းသည် ညောင်ရွှေမြို့ ဝိနယာဒိနုဂ္ဂဟ စာပြန်ပွဲအတွက် ပြဋ္ဌာန်းခံရသည်။

၁၉၄၅ ခုနှစ် အောက်တိုဘာလ ၉ ရက် အင်္ဂါနေ့တွင် ညောင်ရွှေနယ်လေးရပ်လုံးဆိုင်ရာ သံဃရာဇာ (ဂိုဏ်းချုပ်) ရွှေဂူဆရာတော်နှင့် သာသနာ့ဒါယကာ ညောင်ရွှေစော်ဘွားကြီးတို့၏ အင်းတိမ်ဂိုဏ်းထောက်

အဖြစ် စာချွန်တော် ဆက်ကပ်ခံရသည်။ ၁၉၅၂ ခုနှစ်တွင် အင်းလေးကန် ဖောင်တော်ဦးကျောင်းတော်ကြီး အသစ်ပြန်လည်တည်ဆောက်ရေးအတွက် အဖွဲ့သဘာပတိ မိုင်းပျိုးဆရာတော်၏ တာဝန်လွှဲအပ်ခံရ၍ တာဝန်ယူ ဆောင်ရွက်ခဲ့သည်။

၁၉၅၄ ခုနှစ် ဆဋ္ဌသင်္ဂါယနာသဘင်တွင် ညောင်ရွှေမြို့ ပါဠိဝိသောဓက အဖွဲ့ဝင်အဖြစ် မိလိန္ဒပဉှာပါဠိတော် သုတ်သင်တည်းဖြတ်ရေး၊ ပဋ္ဌိဝိသော ဓက အဖွဲ့ဝင်အဖြစ် သံယုတ်ပါဠိတော် သုတ်သင်တည်းဖြတ်ရေး၊ ဆဋ္ဌ သင်္ဂါယနာ ဝန်ဆောင်ဆရာတော်အဖြစ် ထမ်းဆောင်ခဲ့သည်။ ၁၉၆၄ ခုနှစ် ညောင်ရွှေစာပြန်ပွဲ ကျင်းပနေစဉ် ဂိုဏ်းအုပ်၊ ဂိုဏ်းထောက် ဆရာတော်များ စည်းဝေး၍ သာလေးတောင်ကျောင်း ဆရာတော်အား ညောင်ရွှေနယ် လေးရပ်လုံးဆိုင်ရာ ဂိုဏ်းချုပ်ဆရာတော်အဖြစ် ဆန္ဒပြုကြသည်။ သာလေး တောင်ကျောင်းဆရာတော်က အကြောင်းအမျိုးမျိုးပြ၍ သက်တော်၊ ဝါတော် ကြီးသော မိုင်းပျိုးဂိုဏ်းထောက်ဆရာတော်အား သံဃသမ္မုတိ ဂိုဏ်းချုပ် ဆရာတော်အဖြစ် တင်မြှောက်စေခဲ့သည်။ မိုင်းပျိုးဆရာတော်မှာ သက်တော် ဝါတော်ကြီး၊ ဂိလာနပုဂ္ဂိုလ်ဖြစ်၍ ဂိုဏ်းတာဝန်များ ကိုယ်စားဆောင် ရွက်ရန် သာလေးတောင်ကျောင်းဆရာတော်အား ပြန်လည်လွှဲအပ်ရာ ဟဲယာရွာမဂိုဏ်းအုပ် ကျောင်းနီကျောင်းဆရာတော်နှင့်အတူ ပူးတွဲ ထမ်းဆောင်ခဲ့ရသည်။

၁၉၆၅ ခုနှစ်တွင် ဂိုဏ်းချုပ် မိုင်းပျိုးဆရာတော် ပျံလွန်ရာ ကျောင်းနီ ကျောင်းဆရာတော်နှင့်အတူ ဂိုဏ်းချုပ်တာဝန်ကို ပူးတွဲတာဝန်ယူခဲ့သည်။ နှစ်ပေါင်းများစွာ နေ့ဝါညဝါ စာချလာ၍ လေနာရောဂါ စွဲကပ်ခံစားနေရ သော်လည်း ဂိုဏ်းချုပ်တာဝန်၊ ဖောင်တော်ဦးကျောင်းဆောင်ကြီး အသစ် ပြန်လည်ဆောက်လုပ်ရေး တာဝန်များကို ကျေပွန်စွာ ထမ်းဆောင်ခဲ့သည်။ ဘုရားကြီးတိုက် ပင်းသာကျောင်းဆရာတော် ရှင်ခန္တိဝရနှင့် စာချအကျော် အုတ်ကျောင်းဆရာတော် ရှင်နာရဒတို့၏ တပည့်ကောင်းပီသစွာ ဂုဏ် ပကာသန၊ အကျော်အစော၊ လာဘ်လာဘကို အလေးမမူ၊ စွန့်လွှတ်မှုကို လက်ကိုင်ထား၍ ပရဟိတစိတ်ပြည့်ဝရာ ညောင်ရွှေနယ်သံဃာများ၏ ယုံကြည်လေးစားမှုခံရသည်။

သက်တော် ၆၀ သိက္ခာ ၄၀ အရ လေနာ၊ ဆီးချို၊ နှလုံးရောဂါ ဝေဒနာဖြင့် ၁၉၆၅ ခု အောက်တိုဘာလ ၃၁ ရက် စနေနေ့ည ၇း၀၀ နာရီအချိန်တွင် သာလေးတောင်ကျောင်း၌ တစ်ဘဝ တစ်ခန္ဓာ ချုပ်ငြိမ်းခဲ့ပါသည်။





## ပထမကျော် လယ်တီ ရှင်ကောဝိဒ

(၁၉၀၇ — ၁၉၄၅)

ကမ္ဘာကျော် လယ်တီဆရာတော်နှင့် လယ်တီပဏ္ဍိတ ဦးမောင်ကြီးတို့နောက် လယ်တီဂိုဏ်း၏ အထင်ရှားဆုံး၊ အတောက်ပဆုံး ကြယ်တာရာတစ်စင်းအဖြစ် သတ်မှတ်ခံရသည်။ ပိဋကတ်စာပေ မြန်မာစာပေ ဘာသန္တရစွယ်စုံထင်ရှားသည်။ ပရိယတ္တိစာပေကို မုံရွာလယ်တီတိုက်၊ အမရပူရတူးမောင်းတိုက်၊ ပခုက္ကူ မဟာဝိသုတာရာမတိုက်တို့၌ သင်ယူခဲ့သည်။ နဂိုစိတ်ရင်းကပင် ထက်မြက်သည်။ သာမဏေဝတ်ဖြင့် လယ်တီတိုက်စာချအဖြစ် ချီးမြှောက်ခံရသည်။ လေးဝါအရ အမျိုးသား ပရိယတ္တိ ပထမကျော်၊ ငါးဝါရတွင် အစိုးရပထမကျော် ရခဲ့သည်။ ကိုလိုနီခေတ် မန္တလေး ပရိယတ္တိစာပေလောက၌ ၅ ဝါရ အသက်အငယ်ဆုံး စာချ၊ စာလိုက်သံဃာ ၅၀၀ ခန့်ဖြင့် စာအလိုက်အများဆုံး စာချအဖြစ် မှတ်တမ်းတင်ခံရသည်။ ၇ ဝါအရတွင် မုံရွာ လယ်တီတိုက်၌ ပြန်လည်စာချသည်။ ပါဠိအပြောအဟော၊ မြန်မာကဗျာအဖွဲ့အနွဲ့၊ စကားပြေအရေးအသားတို့၌ လယ်တီပဏ္ဍိတ ဦးမောင်ကြီး၏ အားထားရာဖြစ်သည်။ ၁၇ နှစ်ရွယ် သာမဏေဘဝကပင် ပုပ္ပါးဦးကျော်ရင်အမည်ဖြင့် ဒဂုန်မဂ္ဂဇင်း၏ ဒုတိယအယ်ဒီတာချုပ်၊ နောက် အယ်ဒီတာချုပ်တာဝန်များကို မုံရွာ လယ်တီတိုက် စာချဘဝဖြင့်ပင် ဆောင်ရွက်ခဲ့ရာ မြန်မာစာပေလောကတွင် ဒဂုန်မဂ္ဂဇင်းကြီးနှင့်အတူ အလွန်ထင်ရှားကျော်ဇောပါသည်။

## ကောဝိဒ၊ ရှင်၊ လယ်တီ —

၁၉၀၇ ခုနှစ် ဒီဇင်ဘာ ၉ ရက် တနင်္လာနေ့တွင် မြင်းခြံခရိုင် ကျောက်ပန်းတောင်းမြို့နယ် ရသေ့တောင်ရွာ၌ ဖွားသည်။ အဖ ဦးကြာခိုင်၊ အမိ ဒေါ်အုန်းရီ ဖြစ်သည်။ မွေးချင်း ၇ ဦးတွင် အကြီးဆုံး။ အမည် မောင်ကျော်ရင် ဖြစ်သည်။

၅ နှစ်အရွယ်တွင် တည်ပင်တဲရွာ အရှေ့ကျောင်း ဦးရီးတော် ရှင်ကေသရထံ စတင် ပညာသင်ယူသည်။ ရှင်ကေသရမှာ ပဋိယတ္တိ ကျွမ်းကျင်လိမ္မာ၍ ဆင်ခေါင်းဂိုဏ်းထောက်ဖြစ်သည်။ မောင်ကျော်ရင်မှာ ဉာဏ်ပညာထက်မြက်၍ ဦးရီးတော် ပခုက္ကူမြို့ မင်္ဂလာ မဟာဝိသုတာရာမ စာချ ရှင်ဝါယမ၊ မန္တလေး တောင်ခွင်တိုက် စာချ ရှင်ဥက္ကံသမာလာ၊ ဘိုကလေးမြို့ သူဌေးကျောင်း ဓမ္မကထိက စာချ ရှင်စိတြတို့ထံ ပရိယတ္တိ စာပေ သင်ယူခဲ့သည်။ ၁၀ နှစ်အရွယ်တွင် တည်ပင်တဲရွာကျောင်း ရှင်ကေသရ ကို ဥပဇ္ဈာယ်ယူ၍ သာမဏေပြုသည်။ မိဘနှစ်ပါးက ရှင်ဒါယကာခံယူ သည်။ သာမဏေဘွဲ့ ရှင်ကောသလ္လ ဖြစ်သည်။

သာမဏေဖြစ်ပြီး မုံရွာ လယ်တီတိုက် ဦးရီးတော် ရှင်ဉာဏောဘာသ (နောင် ဒုတိယလယ်တီဆရာတော်) ထံ ရောက်သည်။ ဘွဲ့ကို ရှင်ကောဝိဒ ဟု ပြင်ပေးခံရသည်။ ၁၁ နှစ်အရွယ် သာမဏေဝတ်ဖြင့် ပထမလယ်တီ ဆရာတော်ကြီး၏ စာဝါများကို ရဟန်းတော်များနှင့် အတူလိုက်ခဲ့ရာ စာတော်ကိုရင်ကလေးအဖြစ် ထင်ရှားသည်။ လယ်တီတိုက်အုပ် ရှင်ဉာဏော ဘာသ၊ စာချ ရှင်နန္ဒဝံသ ရှင်ကုမာရ ရှင်ဇောတရ ရှင်တိလောက (နောင် သေချာတောင်ဆရာတော်) တို့ထံ ပရိယတ်စာပေများ သင်ယူသည်။ ပိဋကတ် အပြင် သက္ကတ၊ ဟင်ဒူ၊ ဘင်္ဂါလီ၊ နာဂရီ၊ သီဟိုဠ်၊ ယိုးဒယား ဘာသာ များကိုပါ လေ့လာလိုက်စားသည်။ ရန်ကုန်မြို့ ဒဂုန်မဂ္ဂဇင်း အယ်ဒီတာချုပ် လယ်တီပဏ္ဍိတ ဦးမောင်ကြီးနှင့် ဆက်သွယ်၍ ဒဂုန်မဂ္ဂဇင်းတွင် စာပေ များ ရေးသားသည်။ လယ်တီပဏ္ဍိတ ဦးမောင်ကြီး၏ လမ်းညွှန်မှုဖြင့် ပေတဝတ္ထု၊ ဝိမာနဝတ္ထုနှင့် အခြား အလိုရှိသမျှ ကူညီရေးပေးခဲ့ရာ လယ်တီ ပဏ္ဍိတ၏ စာပေထူးချွန်သော သားကိုရင်အဖြစ် ထင်ရှားခဲ့သည်။ ၁၇ နှစ်အရွယ်မှာပင် ပုပ္ပါးဦးကျော်ရင်အမည်ဖြင့် ဒဂုန်မဂ္ဂဇင်း၏ ဒုတိယ

အယ်ဒီတာချုပ်အဖြစ် တာဝန်ယူခဲ့ရသည်။ ၁၈ နှစ် သာမဏေဘဝဖြင့် လယ်တီမဟာဂဏဝါစက စာချအဖြစ် ချီးမြှောက်ခံရသည်။

၁၉၂၇ ခုနှစ် စက်တင်ဘာလ ၂၉ ရက် ကြာသပတေးနေ့တွင် မုံရွာမြို့ လယ်တီကျောင်းတိုက်သိမ်၌ ရဟန်းဖြစ်သည်။ ဥပဇ္ဈာယ်ဆရာမှာ ဒုတိယလယ်တီဆရာတော် ဦးရီးတော် ရှင်ဉာဏောဘာသ၊ ရဟန်းဒါယကာမှာ လယ်တီကျောက်စာပြတိုက် အလှူရှင်၊ ညောင်တုန်းမြို့ သမာဓိမြို့ဝန် သူဌေး ဦးကျော်သူ၊ ဒေါ်အေးမှင်တို့ ဖြစ်သည်။

ရဟန်း ပထမဝါမှာပင် အမရပူရ တူးမောင်းတိုက် အဘိဓမ္မာ ညဝါ အကျော် ရှင်နန္ဒိယထံ ပြောင်းရွှေ့ ပညာသင်သည်။ ထိုသို့သင်ယူနေစဉ် ၃ ဝါရတွင် ၁၉၂၉ ခုနှစ် အစိုးရပထမပြန် ပထမကြီးတန်းစာမေးပွဲ အောင်မြင်သည်။ ၁၉၃၀ ပြည့်နှစ်တွင် ပခုက္ကူ မဟာဝိသုတာရာမတိုက်သို့ ပြောင်း၍ ရှင်ပညာ၊ ရှင်နန္ဒဝံသတို့ထံ နိကာယ်ငါးရပ် ပိဋကတ်သုံးပုံကို ပါဠိအဋ္ဌကထာ တွဲလျက်သင်ယူသည်။ ထိုစဉ် ၁၉၃၀ ပြည့်နှစ် အမျိုးသား ပရိယတ္တိ ပထမ ကျော်ဘွဲ့၊ ၁၉၃၂ ခုနှစ်တွင် အစိုးရပထမကျော်ဘွဲ့များ ရခဲ့သည်။ ထိုစဉ်က ပထမကျော်ဘွဲ့သည် အဆင့်အမြင့်ဆုံး စာမေးပွဲများဖြစ်၍ အလွန်ထင်ရှားခဲ့သည်။ မဟာဝိသုတာရာမတိုက်အတွင်း 'ပါဠိဂဝေသီ' ပါဠိ စကားပြော အသင်း တည်ထောင်၍ ပါဠိစကားပြောကို အားပေးလှူဆော်ခဲ့သည်။

အစိုးရပထမကျော်အောင်ပြီး ၁၉၃၂ မှာပင် မန္တလေးမြို့ စကုတိုက် ပြောင်းရွှေ့ စာပေပို့ချရာ စာလိုက်သံဃာ ငါးရာခန့်ရှိ၍ အသက် အငယ်ဆုံး၊ စာလိုက်သံဃာအများဆုံး စာချအဖြစ် အလွန်ကျော်စော ခဲ့သည်။ ၁၉၃၃ ခုနှစ်တွင် မန္တလေးမြို့ ပရိယတ္တိသာသနာ့ဟိတ (သကျသီဟ) အသင်းက မူလဓမ္မာစရိယဘွဲ့နှင့် ဆွမ်းဆန်တော် ထောက်ပံ့ခဲ့သည်။ ပိဋကတ်စာပေအပြင် မြန်မာကဗျာစီကုံးနည်းကို စာဝါတစ်ဝါအဖြစ် ပို့ချရာ စကုတိုက် သဒ္ဓမ္မဇောတိကာရုံအုတ်ကျောင်းနှင့် စာလိုက်သံဃာ မမျှဖြစ်၍ အိမ်တော်ရာဘုရားအတွင်း ၁၄ ခန်းဇရပ်ကို ပြောင်းရွှေ့ ပို့ချသည်။

၁၉၃၄ ခုနှစ်တွင် ဒုတိယလယ်တီဆရာတော်၏ အမိန့်အရ မုံရွာ လယ်တီတိုက်ပြန်၍ စာပေပို့ချခြင်း၊ သာသနာ့ဝန်ထမ်းရွက်ခြင်း၊ ဂန္ထန္တရ ကျမ်းပြုခြင်းတို့ကို ဆောင်ရွက်သည်။ လယ်တီတိုက်အတွင်း 'ပါဠိဘာဇီ' ပါဠိစကားပြောအသင်း တည်ထောင်၍ ပါဠိစာပေအတွက် လှူဆော်

ခဲ့သည်။ အသင်း၏ နာယကအဖြစ် မုံရွာပြန်၍ နေထိုင်သော လယ်တီပဏ္ဍိတ ဦးမောင်ကြီး၊ အကျိုးဆောင်အဖြစ် ရှင်ဇာနေယျ (နောင်ဒဂုံဦးစန်းငွေ) က ဆောင်ရွက်သည်။ ဒဂုန်မဂ္ဂဇင်းကြီးတွင်လည်း လယ်တီဦးကောဝိဒ၊ ပုပ္ပါးဦးကျော်ရင်၊ သလ္လာဝတီတင့်အုံ၊ မန္တလေးမောင်သန်းမြကလောင်အမည်များဖြင့် စာမျိုးစုံကို မရပ်မနား ရေးသားခဲ့သည်။

၁၉၃၇ ခုနှစ်တွင် လယ်တီဆရာတော်၏ လမ်းစဉ်တစ်ရပ်ဖြစ်သော နွားသားရှောင်ကြဉ်ရေးအတွက် ဂေါသုခဒီပနီခေါ် နွားများချမ်းသာရေး၊ လွတ်လပ်ရေးစာတမ်း စာအုပ်ငယ် ရေးသား၍ နိုင်ငံအနှံ့ ဖြန့်ဝေသည်။ လယ်တီဦးကောဝိဒ၏ စာပေစွမ်းရည်နှင့်ပတ်သက်၍ မြန်မာနိုင်ငံတွင် စာရေးနိုင်ဆုံး စာပေပညာရှင်များတွင် ထိပ်တန်းကပါဝင်သည့် လယ်တီပဏ္ဍိတ ဦးမောင်ကြီးကိုယ်တိုင် "ဦးကောဝိဒဟာ အလွန် စာရေးနိုင်တယ်ကိုယ်တော်။ ကြောက်စရာ လန့်စရာကောင်းလောက်အောင် စာရေးနိုင်တယ်။ စာတွေရေးလိုက်တာ အများကြီးပဲ" ဟု ရှင်တေဇောသာရ (နောင်ဒဂုန်ဦးထွန်းမြင့်) ကို ပြောကြားခဲ့ပါသည်။ ဒဂုန်မဂ္ဂဇင်းတွင် ရေးသားခဲ့သော ကဗျာအဖွဲ့များကိုပင် စာအုပ်အဖြစ် သီးခြားထုတ်ပါက လယ်တီပဏ္ဍိတ၏ 'ကဗျာ့မဥ္ဇရီ' စာအုပ်မျိုး ၁၀ အုပ်ခန့် ရနိုင်ပါသည်။

လယ်တီဦးကောဝိဒ၏ လုံးချင်း စာပေလက်ရာများမှာ လယ်တီပဒမာလာ ၃ တွဲ၊ ဆန္ဒောဘာရတီ (ဆန်းကျမ်း)၊ ကဝိဘာရတီ ၂ တွဲ၊ ကာဗျဘာရတီ၊ ရူပသိဒ္ဓိဂဏ္ဍိ၊ မဟောသဓာဟောစာ၊ သကုဏ္ဍလာပြဇာတ်၊ သီရိဂေါပါပြဇာတ်၊ ဟိလကပြဇာတ် (သက္ကတဘာသာပြန်များ)၊ ရွှေပုပ္ပါးဋီကာ၊ ဖက်ဆစ်ဘာရတီ၊ အင်္ဂလိပ်နိုင်မော်ကွန်း၊ မိဖုရားဖွားစောဝတ္ထု (ဒဂုမန်မဂ္ဂဇင်းအခန်းဆက်) တို့ ဖြစ်သည်။

၁၉၄၂ ခုနှစ် ဂျပန်ခေတ်အဝင် မုံရွာမြို့ လယ်တီကျောင်းတိုက်မီးသင့်ရာ မုံရွာအနီး ခိုသန်းရွာ၊ စစ်ကိုင်းလေးကျွန်းမြေအုတ်ကျောင်း၊ ပုဂံမြင်းကပါ မနူဟာဘုရားကျောင်းမှတစ်ဆင့် ဇာတိတည်ပင်တဲရွာ ပြောင်းရွှေ့ခဲ့သည်။ မုံရွာမြို့ ဂျပန်တပ်များ ဝင်လာချိန်က အားတက်သရော ကြိုဆိုခဲ့သော်လည်း ဖက်ဆစ်တို့၏ ရိုင်းစိုင်းမှု၊ ရက်စက်မှုတို့ကို ကိုယ်တွေ့ကြုံတွေ့ရရာ 'ဖက်ဆစ်ဘာရတီ' ကို ရေးခဲ့ခြင်းဖြစ်သည်။ ဂျပန်ခေတ်အတွင်း ရသေ့တောင်ရွာအနီး တပည့် ရှင်စန္ဒိမာနှင့် တောရဆောက်တည်

ခြင်း၊ ရပ်ရွာဒါယကာ၊ ဒါယိကာမများကို တရားဟောပြောခြင်း၊ ရပ်ရွာအေးချမ်းသာရေး၊ လုံခြုံရေးကို စွမ်းအားရှိသရွေ့ ဦးဆောင် ဆောင်ရွက်ခဲ့ရာ လူဆိုးလူမိုက်အချို့၏ အထင်လွဲ ရန်ငြိုးထားခံရသည်။

စစ်ပြီးစ ရန်ကုန်ကြွရန် စီစဉ်နေစဉ် လောကဓံအဆိုးတရား၏ ရိုက်ပုတ်မှုဖြင့် လူဝတ်လဲခဲ့သည်။ လူဝတ်လဲပြီး လူကြီးဆွေမျိုးများ၏ သဘောတူညီ ခွင့်ပြုမှုဖြင့် ရသေ့တောင်ရွာမှ ဆွေမျိုးနီးစပ်သူ မစောတင်နှင့် အိမ်ထောင်ကျခဲ့သည်။ အိမ်ထောင်ကျပြီး ၂ လခန့်အကြာ ရန်ကုန်သွားရန် စီစဉ်နေစဉ် ၁၉၄၆ ခုနှစ် ဧပြီလ ၂၂ ရက်နေ့တွင် ဇာတိ တည်ပင်တဲရွာ၌ ဓားပြ လူဆိုးလူမိုက် ကိုကျော်ရင်၏ လက်ချက်ဖြင့် လယ်တီဦးကောဝိဒတစ်ဖြစ်လဲ ပုပ္ပါးဦးကျော်ရင်သည် ညီနှစ်ယောက်နှင့်အတူ သတ်ဖြတ်ခံရကာ ကွယ်လွန်ခဲ့ရပါသည်။





## သပြေကန်ဆရာတော်
## ရှင်ဝါသေဋ္ဌ
(၁၉၁၀ — ၁၉၉၅)

မြန်မာနိုင်ငံ ပရိယတ္တိသာသနာဝင်တွင် 'ပရိတ်ကြီးနိဿယသစ်'ဖြင့် ပညာရှင်အများ၏ လေးစားခြင်းခံရသည်။ သာမဏေ ဘဝကပင် အစိုးရ ပထမပြန်ငယ်၊ လတ်၊ ကြီး အောင်ခဲ့ခြင်း၊ ဝိနည်း ငါးကျမ်းပါဠိတော် အာဂုံပြန်ဆိုနိုင်ခြင်းတို့ကြောင့် အလွန်ကျော်ဇောခဲ့သည်။ ရဟန်းတစ်ဝါရတွင် သံယုတ်ငါးကျမ်းကို အာဂုံပြန်ဆို၍ 'သံယုတ္တဘာဏက' ဘွဲ့ ဆက်ကပ်ခံရသည်။ မန္တလေးမြို့ သက္ကျသီဟစာချ တန်း စာလိုက်နေစဉ် အဘယာရာမဆရာတော်၏ 'သဗ္ဗဒ္ဓစိန္တာဋီကာ နိဿယ' ကျမ်းဦးနိဒါန်း ရေးခွင့်ရ၍ နိဒါန်းတစ်ခုတည်းဖြင့် အဘယာရာမဆရာတော်၏ 'ဓမ္မာစရိယဘွဲ့' ချီးမြှင့်ခံရသည်။ အစိုးရဓမ္မာစရိယ စာချတန်းကို တစ်နှစ်တည်း ကျမ်းရင်းသုံးကျမ်း၊ ဂုဏ်ထူးခြောက်ကျမ်း အောင်၍ ပထမဆုံး 'သိရောမဏိ'ဘွဲ့ ဆက်ကပ်ခံရသည်။ ဆဋ္ဌသင်္ဂါယနာတွင် ကျန်းမာရေးချို့တဲ့၍ ရှေ့တန်းမှ မပါဝင်သော်လည်း ဆဋ္ဌမူကျမ်းစာများ ကျမ်းဦးနိဒါန်းကို ပါဠိဘာသာဖြင့် ရေးသားရန် တာဝန်ပေးအပ်ခံရသည်။ ပါဠိ ဂါထာဗန္ဓ အရေးအဖွဲ့တွင် မဟာစည်ဆရာတော်၊ မဟာဂန္ဓာရုံဆရာတို့ကပင် လေးစားခဲ့ရသည်။ အထူးသဖြင့် ဉာဏ်ပညာထက်မြက်၍ ပရိယတ္တိ ထိပ်တန်းဘွဲ့ထူးဂုဏ်ထူးများ ရခဲ့သော်လည်း မာန်မာနကင်းခြင်း၊ နှိမ့်ချနိုင်ခြင်း၊ အလိုနည်းခြင်း၊ အကျော်အဇော မလိုလားခြင်း၊ ဝိနည်းလေးစားခြင်းတို့ကြောင့် 'သူလိုရဟန်း' ဟု မှတ်တမ်းတင်ခံရသည်။

ဝါသေဋ္ဌာဘိဝံသ၊ ရှင်၊ သပြေကန်ဆရာတော် —

၁၉၁၀ ပြည့်နှစ် ဒီဇင်ဘာလ ၁၄ ရက် ဗုဒ္ဓဟူးနေ့တွင် ဟံသာဝတီ ခရိုင် သံလျင်မြို့နယ် ချောင်းဝရွာ၌ ဖွားသည်။ အဖ ကုန်သည် ဦးဘိုးစိန်၊ အမိ ဒေါ်အိန် ဖြစ်သည်။ ဖခင်သည် တမီလ်အနွယ်၊ မိခင်မှာ ကရင် ဖြစ်သည်။ ဖခင်သည် နောင်အခါ ရသေ့ဝတ်ဖြင့် ကျင့်ကြံအားထုတ်သည်။ မွေးချင်းညီကို သုံးယောက်တွင် အကြီးဆုံး။ အမည် မောင်လှိုင် တွင်သည်။ ညီကိုသုံးဦးလုံး သာသနာဘောင်ဝင်၍ ပရိယတ်ကျွမ်းကျင်သည်။

၅ နှစ်အရွယ်တွင် ချောင်းဝရွာဘုန်းကြီးကျောင်း၌ သာမဏေဝတ် ဖြင့် ပညာသင်ယူသည်။ ၇ နှစ်တွင် မြန်မာစာသင်ကျောင်း ပြောင်းရွှေ့ ပညာဆည်းပူးသည်။ ၉ နှစ်တွင် မိဘများ မင်္ဂလွန်းရွာပြောင်းရာ မင်္ဂလွန် ရွာကျောင်းဘုန်းတော်ကြီး ရှင်ရေဝတ ထံ ရှင်ဝတ်ဖြင့် ပညာသင်သည်။ ဘွဲ့ ရှင်ဝိမလ ဖြစ်သည်။ ရှင်ဖြစ်ပြီး မကြာမီ သပြေကန်ရွာ မဟာဓမ္မိကာ ရာမတိုက် ပြောင်းရွှေ့ပညာသင်သည်။ မဟာဓမ္မိကာရာမတိုက်ဆရာတော် သည် ရှင်ဝိမလ၏ ဘွဲ့ကို 'ရှင်ဝါသေဋ္ဌ' ဟု ပြင်ပေးသည်။ မဟာဓမ္မိကာ ရာမတိုက် အဂ္ဂမဟာပဏ္ဍိတ ပထမသပြေကန်ဆရာတော် ရှင်ဥက္ကံသ (၁၈၇၁—၁၉၃၈) သည် 'သဒ္ဒါကြီးနိဿယယစ်သစ်' ကျမ်းပြုဆရာတော် အဖြစ် ရွှေကျင်ဂိုဏ်း၌ ထင်ရှားသည်။

ရှင်ဝါသေဋ္ဌသည် ငယ်စဉ်ကပင် ဉာဏ်ပညာ အလွန်ထက်မြက် သည်။ ပဋိသန္ဓေပါ ဗီဇကောင်းမွန်သည်။ ၁၃ နှစ်အရွယ်တွင် ပထမငယ် စာမေးပွဲဝင်ရန် သဒ္ဒါ၊ သင်္ဂြိုဟ်၊ ဋီကာကျော်၊ ပုဒ်စစ်၊ ဘေဒစိန္တာ၊ ညဝါ၊ မာတိကာ၊ ဓာတုကထာကျမ်းများ သင်ယူပြီးစီးခဲ့သည်။ အသက် ၁၅ နှစ် မပြည့်၍ ပထမငယ်တန်း ဖြေဆိုခွင့်မရ။ ၁၅ နှစ်ပြည့်လျှင် ပထမငယ် စာမေးပွဲဖြေဆိုသည်။ ထို့ပြင် ပုဂံတောင် ဝိနည်းစာပြန်ပွဲ၊ ရန်ကုန် ကျောင်း တော်ရာ ဝိနည်းစာပြန်ပွဲများ၌ 'ဘိက္ခုဝိဘင်း'နှင့် 'ဘိက္ခုနီဝိဘင်း' ၂ ကျမ်း ကို အာဂုံပြန်ဆိုနိုင်ရာ 'ဥဘတောဝိဘင်္ဂဓရဘွဲ့' ဆက်ကပ်ခံရသည်။ ရဟန်း တော်များပင် ပြန်ဆိုနိုင်ခဲသော ဝိနည်း ၂ ကျမ်းကို သာမဏေဝတ်ဖြင့် ပြန်ဆိုနိုင်၍ အလွန်ကျော်ဇောခဲ့သည်။ ပထမသပြေကန်ဆရာတော် ကိုယ်တိုင် အလွန်ကျေနပ်အားရ၍ ရှင်ဝါသေဋ္ဌကို ဆွမ်းမခံရစေဘဲ ပရိယတ္တိ စာပေ ကြိုးစားအားထုတ်ရန် အခွင့်အရေးပေး ချီးမြှောက်ခဲ့သည်။

အသက် ၁၆ နှစ် ၁၉၂၆ ခုနှစ်တွင် ပထမလတ်၊ ၁၇ နှစ် ၁၉၂၇ ခုနှစ်တွင် ပထမကြီးတန်းများ အောင်မြင်ခဲ့သည်။ ၁၈ နှစ် ၁၉၂၈ ခုနှစ်တွင် ပုဂံတောင် ဝိနည်းစာပြန်ပွဲနှင့် ရန်ကုန်ကျောင်းတော်ရာစာပြန်ပွဲ၌ 'ဥဘတောဝိဘင်း' နှင့် 'မဟာဝါပါဠိတော်'။ အသက် ၁၉ နှစ် ၁၉၂၉ ခုနှစ်တွင် အဆိုပါစာပြန်ပွဲနှစ်ရပ်နှင့် သပြေကန် မဟာဓမ္မိကာရာမ ဝိနည်းစာပြန်ပွဲ၌ ဝိနည်းငါးကျမ်းလုံး ပါဠိတော်များ အာဂုံပြန်ဆိုနိုင်၍ 'ဝိနယဓရဘွဲ့' ဆက်ကပ်ခံရသည်။ ထိုအချိန်အထိ 'ဝိနည်းငါးကျမ်း' အာဂုံပြန်ဆိုနိုင်သူ မပေါ်သေး၍ သာသနာရေးလောကတွင် အလွန်ထင်ရှားခဲ့သည်။ မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံတိုက်အုပ်ဆရာတော်က ရှင်ဝါသေဋ္ဌအား သာသနာ၌ အမြဲနေရန် ကတိတောင်းပြီး ရွှေကျင်သာသနာမှတ်တမ်း၌ အတ္ထုပ္ပတ္တိနှင့်တကွ မှတ်တမ်းတင်ခဲ့သည်။

အသက် ၂၀ ပြည့်ချိန် ၁၉၃၀ ပြည့်နှစ် ဇူလိုင်လ ၃၀ ရက် ကြာသပတေးနေ့တွင် သပြေကန် မဟာဓမ္မိကာရာမတိုက်သိမ်၌ ရဟန်းဖြစ်သည်။ ဥပဇ္ဈာယ်ဆရာမှာ ပထမသပြေကန်ဆရာတော် ရှင်ဥက္ကံသ ဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ဝါသေဋ္ဌ ဖြစ်သည်။ ရဟန်း ပထမဝါ ၁၉၃၀ ပြည့်နှစ်တွင် ရန်ကုန်မြို့ စေတီယင်္ဂဏအသင်း စာပြန်ပွဲ၌ 'သံယုတ်ငါးကျမ်း' ပြန်ဆိုအောင်မြင်သည်။ 'ဝါသေဋ္ဌာဘိ သီရိပဝရ သာသနဓဇ သံယုတ္တဘာဏက' ဘွဲ့ ဆက်ကပ်ခံရသည်။ ၁၉၃၁ ခုနှစ် ရဟန်း ၁ ဝါရတွင် ရန်ကုန်ကျောင်းတော်ရာ ရွှေကျင်တိုက် ဝိနည်းစာပြန်ပွဲ၌ 'သံယုတ်ငါးကျမ်း'ကို ထပ်မံပြန်ဆို၍ 'သံယုတ္တဘာဏကဘွဲ့' ထပ်မံဆက်ကပ်ခံရသည်။ ထို့နောက် ပခုက္ကူမြို့ အရှေ့တိုက်ခေါ် မဟာဝိဇယာရာမတိုက်ဆရာတော် ရှင်ဇဝန (၁၈၇၇—၁၉၅၉) ထံ ပခုက္ကူစာသင်နည်းကို နည်းခံသည်။ ပခုက္ကူတွင် ပညာသင်ကြားနေစဉ် သာမဏေအဖြစ် ဝိနည်းငါးကျမ်း၊ ရဟန်း ပထမဝါတွင် သံယုတ်ငါးကျမ်း အာဂုံပြန်ဆိုနိုင်ခဲ့၍ မဟာဝိဇယာရာမ ဆရာတော်က ဆွမ်းမခံစေဘဲ ဂရုတစိုက် ချီးမြှောက်ခဲ့သည်။ ဆိုဝါပေးသော်လည်း ကျန်းမာရေးချို့ယွင်း၍ လိုက်ဝါဖြင့် သင်ယူခဲ့သည်။

ရဟန်း ၄ ဝါရတွင် သကျသီဟစာမေးပွဲဖြေဆိုရန် မန္တလေး အဘယာရာမရွှေဂူတိုက်ဆရာတော် ရှင်အဂ္ဂဓမ္မ (၁၈၇၉—၁၉၄၃) ထံ ပြောင်းရွှေ့နည်းခံသည်။ သကျသီဟစာသင်တန်း အောင်ပြီးနောက်

စာချတန်းအတွက် စာလိုက်နေစဉ် ၆ ဝါရ၌ အဘယာရာမဆရာတော်၏ အမိန့်အရ သဗ္ဗန္ဓစိန္တာမဏိ နိဿယ နိဒါန်းရေးသားခွင့်ရသည်။ အဘယာရာမဆရာတော်က နိဒါန်းကို အလွန်နှစ်သက်သဘောကျ၍ 'ဓမ္မာစရိယ' ဘွဲ့ထူးဖြင့် ချီးမြှောက်ခဲ့သည်။ ၈ ဝါရ ၁၉၃၈ ခုနှစ်တွင် သက္ကသီဟ စာချတန်း အောင်မြင်သည်။ ထို့နောက် အဘယာရာမဆရာတော်ထံတွင် သက္ကတဘာသာ၊ မောဂ္ဂလာန်သဒ္ဒါကျမ်းနှင့် အဋ္ဌကထာကျမ်းများ ဆက်လက်သင်ယူသည်။ တစ်ဘက်တွင်လည်း စွမ်းအားရှိသရွေ့ စာချနေစဉ် ဥပဇ္ဈာယ်ဆရာ ပထမသပြေကန်ဆရာတော် ပျံလွန်၍ ၁၉၃၉ ခုနှစ်တွင် သပြေကန် မဟာဓမ္မိကာရာမတိုက် ပြန်လည်သီတင်းသုံးသည်။

သပြေကန် မဟာဓမ္မိကာရာမတိုက်၌ စာသင်သံဃာ ၈၀ ခန့် ရှိသည်။ ထိုအချိန်က ပရိယတ္တိဆိုင်ရာ ထိပ်တန်း ဘွဲ့ထူးဂုဏ်ထူးများ ရပြီးသော ရှင်ဝါသေဋ္ဌအား မထေရ်ကြီးများက မဟာဓမ္မိကာရာမတိုက် ပဓာနနာယကဆရာတော်အဖြစ် တင်မြှောက်လိုကြသည်။ ရှင်ဝါသေဋ္ဌက ကျန်းမာရေးအကြောင်းပြ၍ အနုနာယကအဖြစ်သာ လက်ခံပြီး စွမ်းအားရှိသမျှ စာချ စာကြည့်လျက် အေးချမ်းစွာ သီတင်းသုံးသည်။ စစ်မဖြစ်မီ ၁၉၄၁ ခုနှစ်တွင် ကျင်းပသော ဒုတိယအကြိမ် အစိုးရဓမ္မာစရိယ စာချတန်း စာမေးပွဲကို တစ်နှစ်တည်း ကျမ်းရင်း ၃ ကျမ်း၊ ဂုဏ်ထူး ၆ ကျမ်း၊ ပေါင်း ၉ ကျမ်းလုံး အောင်မြင်ခဲ့ရာ 'သာသနဓဇ သိရီပဝရ ဓမ္မာစရိယ (သိရော မဏိဘွဲ့' ပထမဦးဆုံး ဆက်ကပ်ခံရသည်။

ရှင်ဝါသေဋ္ဌသည် ငယ်စဉ်ကပင် ဉာဏ်ပညာ အလွန်ထက်မြက်၍ ပါဠိတော် သို့မဟုတ် မြန်မာပြန် တစ်မျက်နှာကို နှစ်ခေါက် သုံးခေါက် ဖတ်ရုံဖြင့် အာဂုံရသည်။ အခြားသူများ၏ စာအံသံကို နားထောင်ရုံဖြင့် လွယ်လွယ်ကူကူ အာဂုံဆောင်နိုင်သည်။ ရပြီးစာကို မမေ့မလျော့ သုံးနှစ်ခန့် မှတ်နိုင်စွမ်းရှိသည်။ ပါဠိ၊ သက္ကတ စွယ်စုံရ၍ စာပေအရေးအသား ကျွမ်းကျင်သည်။ အထူးသဖြင့် ပါဠိဂါထာ အဖွဲ့အနွဲ့တွင် ထူးချွန်လှရာ ပညာရှင်များ၏ လေးစားခံရသည်။ လွတ်လပ်ရေးခေတ်ဦး ဆဋ္ဌသင်္ဂါယနာ တင်ပွဲတွင် ကျန်းမာရေးချို့တဲ့၍ ရှေ့တန်းမှ ဦးဆောင်ဦးရွက် မပါဝင်နိုင် သော်လည်း လိုအပ်ပါက တတ်စွမ်းသရွေ့ ကူညီဆောင်ရွက်ခဲ့သည်။ ဆဋ္ဌသင်္ဂါယနာဦးဆောင် မဟာစည်ဆရာတော် ရှင်သောဘဏ (၁၉၀၄—

၁၉၈၂) က "သင်္ဂါယနာတင်စဉ်အခါက အခက်အခဲတစ်စုံတစ်ရာနှင့် ရင်ဆိုင်ရသည့်အခါ သပြေကန်ဆရာတော် ဦးဝါသဌနှင့် နှီးနှောလိုက်သည့်အခါတိုင်း အဖြေပေါ်ထွက်ပြီး အခက်အခဲကို လွန်မြောက်ရသည်" ဟု မိန့်ဆိုခဲ့သည်။

ဆဋ္ဌသင်္ဂါယနာတင်ကာလတွင် သင်္ဂါယနာ အကျိုးဆောင် ဝိဇ္ဇာလင်္ကာရဆရာတော် ရှင်ဝိသုဒ္ဓ၏ တိုက်တွန်းချက်အရ 'ပရိတ်ကြီးနိဿယသစ်' ပြုစုခဲ့ရာ တစ်ကျမ်းတည်းဖြင့်ပင် ကျမ်းပြုဆရာတော်အဖြစ် ပညာရှင်အများ၏ လေးစားခံရသည်။ ပရိတ်ကြီးနှင့်ပတ်သက်၍ အပြည့်စုံဆုံး အထင်ရှားဆုံး အကောင်းဆုံး ကျမ်းတစ်စောင်အဖြစ် သတ်မှတ်ခံရသည်။ ထို့ပြင် မဟာစည်ဆရာတော်၏ 'ဝိသုဒ္ဓိမဂ်မြန်မာပြန်' ကျမ်းဦး နိဒါနကထာအတွက် အနုဂီတိဂါထာ ၇၄ ပုဒ်၊ ဆဋ္ဌသင်္ဂါယနာမူ ပိဋကတ်ကျမ်းများ၏ နိဒါနကထာတို့ကို ပါဠိဘာသာဖြင့် စီကုံးရေးသားရန် တာဝန်ပေးအပ်ခံရရာ ဤပါဠိလက်ရာများသည် ရှင်ဝါသေဌ၏ ပါဠိစာပေကျွမ်းကျင်မှုမှတ်တိုင်များဖြစ်သည်။

၁၉၇၈ ခုနှစ်တွင် ရွှေကျင်နိကာယဦးဆောင် ဆရာတော်များ၏ ဆန္ဒအရ သပြေကန် မဟာဓမ္မိကာရာမကျောင်းတိုက်မှ ရန်ကုန်မြို့ ပုဇွန်တောင် ရွှေကျင်ကျောင်းတိုက်ကို ပဓာနနာယကအဖြစ် ပြောင်းရွှေ့ တာဝန်ယူခဲ့သည်။ ထိုအချိန်မှစ၍ ရန်ကုန်တိုင်း ရွှေကျင်နိကာယ ဂိုဏ်းထောက်၊ ဂိုဏ်းချုပ်၊ ထို့နောက် တွဲဖက်သာသနာပိုင် ခန့်အပ်ခံရသည်။ ထို့ပြင် နိုင်ငံတော် သီးခြားဝိနည်းခိုရ်အဖွဲ့၄ ဥက္ကဋ္ဌ၊ နိုင်ငံတော်ဗဟိုသံဃာ့ဝန်ဆောင်၊ နိုင်ငံတော်ဩဝါဒါစရိယ၊ တိပိဋကဩဝါဒါစရိယ၊ ပိဋကတ်ဘာသာပြန်အဖွဲ့ဩဝါဒါစရိယ၊ မြန်မာစာအဖွဲ့ဩဝါဒါစရိယ၊ ရွှေတိဂုံစေတီတော်ဂေါပကအဖွဲ့ ဩဝါဒါစရိယ၊ မဂ်လာဗျူဟာအသင်းနှင့် ပိဋကတ်ဗျူဟာအသင်း ဩဝါဒါစရိယ တာဝန်အသီးသီး ထမ်းဆောင်ခဲ့သည်။ ရဟန်းရှင်လူအများ၏ တောင်းပန်လျှောက်ထားချက်အရ 'ပရိတ်ကြီးနိဿယသစ်'၊ 'ဗောဓိပွင့်ခုနစ်ပါး တရားမြတ်ရတနာ'၊ 'စေတီနှင့် ရှိသေမှု'၊ 'ဓမ္မနှင့်ဂုဏ်အဖွဲ့စုံ'၊ 'ဥပါသကာဂုဏ်ရည် နှင့် သရဏဂုံတရားတော်'၊ 'ဆဆက္ကသုတ္တန်'၊ 'နိဗ္ဗာန်ချမ်းသာ'၊ 'သပြေကန်တရားပေါင်းချုပ်' စသော ကျမ်းများ ပြုစုခဲ့သည်။

နိုင်ငံတော်က အဂ္ဂမဟာပဏ္ဍိတဘွဲ့ (၁၉၈၄)၊ အဘိဓဇ မဟာရဋ္ဌ ဂုရုဘွဲ့ (၁၉၉၃) များ ဆက်ကပ်ခဲ့သည်။

သက်တော် ၈၅ သိက္ခာ ၆၅ ဝါအရ ၁၉၉၅ ခုနှစ် ဖေဖော်ဝါရီလ ၇ ရက် တနင်္လာနေ့ နံနက် ၇း၂၅ နာရီတွင် ရန်ကုန်မြို့ မင်္ဂလာဒုံ စစ်ဆေးရုံ၌ တစ်ဘဝ တစ်ခန္ဓာ ချုပ်ငြိမ်းခဲ့ပါသည်။





# မင်းကွန်း တိပိဋကဆရာတော် ရှင်ဝိစိတ္တသာရာဘိဝံသ

(၁၉၁၁ — ၁၉၉၃)

မြန်မာနိုင်ငံသာသနာဝင်တွင် ပထမဦးဆုံး တိပိဋကရေ ဓမ္မဘဏ္ဍာ ဂါရိက မင်းကွန်းတိပိဋကဆရာတော်အဖြစ် ထင်ရှားသည်။ ဆဋ္ဌသင်္ဂါယနာ ပွဲတွင် အမေးပုစ္ဆက မဟာစည်ဆရာတော်နှင့်တွဲ၍ အဖြေဝိသဇ္ဇက အဖြစ် ဆောင်ရွက်ခဲ့ရာ သီရိလင်္ကာ ရဟန်းတော်များက "ဧဒိသော ပုဂ္ဂလော လင်္ကာဒီပေ နတ္ထိ၊ ဇမ္ဗုဒီပေ နတ္ထိ - ဤသို့သော အရှင်မျိုးသည် သီဟိုဠ် ကျွန်း၌လည်း မရှိပါ။ ဇမ္ဗူဒိပ်ကျွန်း၌လည်း မရှိပါ" ဟု ဆိုခဲ့ကြသည်။ ဖြေဆိုသမျှ ပရိယတ္တိ စာမေးပွဲများတွင် ထိပ်တန်းမှ အောင်၍ အစိုးရ ပထမကျော်၊ အစိုးရဓမ္မာစရိယ၊ သကျသီဟဓမ္မာစရိယ (ဝင္ကသကာ) ဘွဲ့များ ရရှိခဲ့သည်။ ဆဋ္ဌသင်္ဂါယနာပွဲပြီး နိုင်ငံတော်ဝန်ကြီးချုပ် ဦးနု၏ လျှောက် ထားချက်အရ မဟာဗုဒ္ဓဝင်ကျမ်းကြီးကို ဓမ္မဒါန ကုသိုလ်ဖြစ် ပြုစုခဲ့သည်။ နိုင်ငံတော် သံဃမဟာနာယကအဖွဲ့ ပေါ်ထွန်းလာပြီး အကျိုးတော် ဆောင်ချုပ် ဖြစ်လာရသည်။ တိပိဋကဋ္ဌေရတုတွင် တိပိဋကနိကာယ သာသနာပြုအဖွဲ့၊ မင်းကွန်းတောင်ရိုး မိုးမိတ်ကုန်းမြေ၊ တိပိဋက နိကာယ ကျောင်းတိုက်၊ ရန်ကုန် စကားဝါလမ်း တိပိဋကကျောင်းတိုက်များ တည်ခဲ့သည်။ ရန်ကုန်နှင့် မန္တလေး နိုင်ငံတော် ပရိယတ္တိ သာသနာ့ တက္ကသိုလ်ကြီးများ၊ မန္တလေး ဇီဝိတဒါန သာသနာ့ အထူးကုဆေးရုံကြီး ပေါ်ထွန်းရေးကို ဦးဆောင်ခဲ့ပါသည်။

**ဝိစိတ္တသာရာဘိဝံသ၊ ရှင်၊ မင်းကွန်းတိပိဋကရေဆရာတော် —**

၁၉၁၁ ခုနှစ် နိုဝင်ဘာလ ၁ ရက် ဗုဒ္ဓဟူးနေ့တွင် မန္တလေးတိုင်း မြင်းခြံမြို့နယ် ကျည်းပင်းရွာ၌ ဖွားသည်။ အဖ သူကြီး ဦးဆုံ၊ အမိ ဒေါ်ဆင် ဖြစ်သည်။ မွေးချင်း ၃ ယောက်တွင် ဒုတိယမြောက်။ အစ်မတစ်ယောက် ညီတစ်ယောက်ရှိသည်။ ဇာတာအမည် မောင်ရန်ရှင်း။ တွင်မည် မောင်ခင် ဖြစ်သည်။

၄ နှစ်အရွယ်တွင် ဖခင်ကွယ်လွန်၍ မိခင်က ဇာတိ သဲဖြူဝ အနောက်ရွာပြောင်းရာ ဖခင်ဘက် အဖိုးအဖွား ဆေးဆရာ ဆရာချယ်၊ ဒေါ်အုံ့တို့နှင့်အတူ ကျည်းပင်ရွာ၌ ကျန်ရစ်သည်။ ၅ နှစ်တွင် ကျည်းပင် ရွာကျောင်းဘုန်းကြီး ရှင်သာသနထံ စတင်ပညာသင်သည်။ ၆ နှစ်တွင် အဖိုးအဖွားက ရှင်ပြုပေးသည်။ ရှင်လိင်ပြန်ပြီး မြင်းခြံမြို့ မင်းကျောင်းတိုက် ရာဟုထောင့်ကျောင်း စာချဆရာတော် ရှင်သောဘိတ ထံ ပြောင်းရွှေ့ ပညာဆည်းပူးသည်။ ၁၀ နှစ်အရွယ်တွင် မိခင်က ရှင်ဒါယကာခံ၍ သာမဏေဖြစ်သည်။ ရှင်သောဘိတကို ဥပဇ္ဈာယ်ဆရာ ပြုသည်။ ဘွဲ့ ရှင်ဝိစိတ္တသာရ။

သာမဏေဝတ်ဖြင့် သဒ္ဒါကြီးရှစ်ဆောင်၊ သင်္ဂြိုဟ်ကိုးပိုင်း အာဂုံ ဆောင်သည်။ သာမဏေ ၂ ဝါရတွင် ဥပဇ္ဈာယ်ဆရာ၏ တိုက်တွန်းချက် အရ 'သုဝဏ္ဏသာမ ယပ်ထောင်တရားအချီး' စီကုံးသည်။ ၃ ဝါရတွင် မြင်းခြံမြို့လုံးဆိုင်ရာ သံဃသာမဂ္ဂီအသင်း စာပြန်ပွဲ၌ ကစ္စည်းသဒ္ဒါကြီး ၈ ဆောင်ပါဌ် (စာမျက်နှာ ၃၀၀ ကျော်)ကို အထောက်အမလွတ် အာဂုံ ပြန်ဆိုခဲ့သည်။ ၄ ဝါရတွင် သံဃသာမဂ္ဂီစာပြန်ပွဲ၌ အဘိဓမ္မတ္ထသင်္ဂဟ သင်္ဂြိုဟ်ကိုးပိုင်းကို အထောက်အမလွတ် အာဂုံပြန်ဆိုခဲ့သည်။ ပခုက္ကူ အလယ်တိုက် မဟာဝိသုတာရာမဆရာတော် ရှင်ပညာ (၁၈၇၈-၁၉၄၆) ၏ ချီးမွမ်းခံရသည်။ ဥပဇ္ဈာယ်ဆရာတော်က မော်ဗီဆရာသိန်း၏ ပေါရာဏ ဒီပနီ ၂ တွဲ၊ ဇိနာလင်္ကာရဋီကာ၊ ဇာတတ္ထကီ၊ သောတတ္ထကီကျမ်းများ လေ့လာစေသည်။ ဥပဇ္ဈာယ်ဆရာတော်နှင့် ငါးထပ်ဆရာတော် အရှင်မုနိန္ဒ၊ တန်ဆောင်းကြီးဆရာတော် အရှင်ဝိသုဒ္ဓတို့ထံ နေ့ဝါညဝါများ သင်ယူ၍ ပထမပြန်စာမေးပွဲဝင်ရာ သာမဏေ ၆ ဝါရတွင် ပထမငယ်၊ ၇ ဝါရတွင်

ပထမလတ် အောင်သည်။ ပထမကြီးတန်းဖြေဆိုရန် ပြင်ဆင်နေစဉ် ဥပဇ္ဈာယ်ဆရာတော် လေဖြတ်၍ စာမေးပွဲရပ်နားကာ ပြုစုစောင့်ရှောက်သည်။ ၁၉၂၉ ခု အောက်တိုဘာ ၁၈ တွင် ဥပဇ္ဈာယ်ဆရာ ပျံလွန်သည်။

ဥပဇ္ဈာယ်ဆရာ ဈာပနပြီးနောက် မင်းကျောင်းတိုက် စာချဆရာတော်များ၏ စီမံမှုဖြင့် မြင်းခြံမင်းကျောင်းအဆက်အနွယ် မင်းကွန်း ဓမ္မနာဒတိုက်ဆရာတော် အရှင်ပညာစက္က (၁၈၈၅—၁၉၃၇) ထံ ပြောင်းရွှေ့ ပညာသင်ကြားသည်။ အရှင်ပညာစက္ကမှာ မန္တလေးမြို့ စာချအကျော် ရွှေရေးဆောင်ဆရာတော် ဦးကြည်ခေါ် ရှင်အာဒိစ္စရံသီ (၁၈၅၇—၁၉၃၅) ထံ စာဝါလိုက်စဉ်ကပင် ဘွဲ့တူ ပခုက္ကူ အရှင်ပညာနှင့်အတူ စာချဆရာတော် ဦးကြည်၏ ဘယ်ညာလက်ရုံးများအဖြစ် ထင်ရှားသည်။ ပခုက္ကူ အရှင်ပညာမှာ နောင်အခါ ရေစကြိုဆရာတော် အရှင်ဂန္ဓသာရ၏ အရိုက်အရာခံ၍ ပခုက္ကူ မဟာဝိသုတာရာမဆရာတော်အဖြစ် ထင်ရှား၍ အရှင်ပညာစက္ကမှာ မင်းကွန်း ဓမ္မနာဒတိုက်တည် ပထမဆရာတော်အဖြစ် ထင်ရှားသည်။

ရှင်ဝိစိတ္တသာရမှာ သာမဏေဝတ်ဖြင့်ပင် ဓမ္မနာဒတိုက်ရောက်၍ ဓမ္မနာဒဆရာတော်နှင့် ကျောင်းတိုက်အမ သီလရှင်ဆရာကြီး ဒေါ်ဓမ္မစာရီ (၁၈၇၉—၁၉၇၁) တို့၏ အုပ်ထိန်းစောင့်ရှောက်မှုဖြင့် ပရိယတ္တိစာပေ ဆက်လက်သင်ယူသည်။ ဒေါ်ဓမ္မစာရီမှာ ပရိယတ္တိစာပေ ကျွမ်းကျင်နှံ့စပ်၍ လယ်တီဆရာတော်၊ မဟာဝိသုဒ္ဓါရုံဆရာတော်တို့၏ အသိအမှတ်ပြုခံရသည်။ သူဌေး ဦးလွန်း၏ သစ္စဝါဒီဋီကာ ရွှေတံဆိပ်ဆု (တတိယ)ရ သစ္စဝါဒီဋီကာပါဌ် ကျမ်းပြုသီလရှင်တစ်ပါးဖြစ်သည်။ ရှင်ဝိစိတ္တသာရသည် သာမဏေဝတ်ဖြင့် ဓမ္မနာဒဆရာတော်ထံ မောဂ္ဂလန်၊ ဓမ္မပဒ၊ အလင်္ကာ၊ ဆန်းတို့ကို နေ့ဝါ၊ ဘေဒစိန္တာနှင့် ကစ္စာယနသာရကို ညဝါ၊ စာချ ရှင်အဂ္ဂဝံသ ထံ ပဋ္ဌာန်းညဝါ သင်ခဲ့သည်။ စာအရေးအသားအတွက် မဃဒေဝလင်္ကာသစ်ကို လေ့လာရသည်။

၁၉၃၁ ခုနှစ် မတ်လ ၂၃ တွင် မင်းကွန်း ငွေတောင်တောရ ခဏ္ဍာသိမ်၌ ဓမ္မနာဒဆရာတော် အရှင်ပညာစက္ကကို ဥပဇ္ဈာယ်ယူ၍ ရဟန်းဖြစ်သည်။ ရဟန်းဘွဲ့ အရှင်ဝိစိတ္တသာရ။ ရဟန်းဒါယကာ ဆရာကြီး ဒေါ်ဓမ္မစာရီ၊ သူဌေး ဆာဦးသွင် ဒေါ်သိန်းမိသားစု ဖြစ်သည်။ ရဟန်းခံ

ပွဲကို ရွှေရေးဆောင်ဆရာတော် အရှင်အာဒိစ္စရံသိ (ဦးကြည်)၊ စစ်ကိုင်း တောင်ရိုး ဘုရားကြီးဆရာတော် အရှင်ဇာဂရ၊ မဟာသစ်ဝင်ချောင်ဆရာ တော် အရှင်သောမာဘိသီရိ သမ္မာသတိချောင် ဆရာတော်အရှင်လက္ခဏ၊ ပတိရူပချောင်ဆရာတော် အရှင်ဇိန၊ မန္တလေး ညောင်ကန်ဆရာတော် အရှင်ကုန္တ၊ မစိုးရိမ်ဆရာတော် အရှင်သူရိယ မထေရ်များကြွရောက်သည်။

ရဟန်း ပထမဝါမရမီ ၁၉၃၁ ခုနှစ်မှာပင် အစိုးရပထမကြီးတန်း၊ ၁၉၃၂ ခုနှစ်တွင် ပထမကြီးတန်း ဒုတိယအကြိမ်၊ ၁၉၃၃ ခုနှစ်တွင် တတိယ အကြိမ် အောင်မြင်ခဲ့သည်။ တတိယအကြိမ်တွင် ပထမကြီးတန်း ပထမ ရ၍ ပထမကျော်လက်မှတ် ဆက်လပ်ခံရသည်။ ၁၉၃၄ တွင် မန္တလေး သက္ကျသီဟစာသင်တန်း၊ ၁၉၃၅ ခုနှစ်တွင် သက္ကျသီဟစာချတန်းတို့ကို နှစ်မခြားဘဲ အောင်မြင်၍ သက္ကျသီဟဓမ္မာစရိယခေါ် ပရိယတ္တိ သာသန ဟိတ ဓမ္မာစရိယ (ဝင်္ငသကာ)ဘွဲ့ ဆက်ကပ်ခံရသည်။ သက္ကျသီဟ စာမေးပွဲသက်တမ်း ၃၂ နှစ်တွင် ပထမဆုံး နှစ်မခြားဘဲအောင်မြင်၍ ဝင်္ငသကာဘွဲ့၊ ရန်ကုန်မြို့ မြန်မာပညာရှိအသင်း၏ 'အဋ္ဌကထာပြန် အကျော် ရွှေတံဆိပ်' ဆက်ကပ်ခံရသည်။

သက်တော် ၂၄ သိက္ခာ ၄ ဝါရတွင် ထိုစဉ်က ပရိယတ္တိဆိုင်ရာ အမြင့်ဆုံးစာမေးပွဲနှစ်ရပ်လုံး ပထမဆင့်မှ အောင်မြင်ပြီးနောက် ဓမ္မနာဒ ဆရာတော်ထံ အထက်တန်း နိကာယ်ကြီးများ ဆက်လက်သင်ယူ၍ ဓမ္မ နာဒတိုက် လက်ထောက်စာချအဖြစ် စာဝါများ ပြန်လည်ပို့ချသည်။ ဥပဇ္ဈာယ် ဆရာတော်နှင့် ရဟန်းအမ ဆရာကြီး ဒေါ်ဓမ္မစာရီတို့၏ လမ်းညွှန်ဆုံးမမှု ဖြင့် ပရိယတ္တိသာသနာပြုနေစဉ် ၁၉၃၇ ခုနှစ်တွင် ဓမ္မနာဒဆရာတော် ကင်ဆာရောဂါဖြင့် ပျံလွန်ခဲ့သည်။ ဥပဇ္ဈာယ်ဆရာတော် ပျံလွန်ပြီး ရဟန်း သိက္ခာ ၇ ဝါရတွင် ဒုတိယဓမ္မနာဒ ဆရာတော်အဖြစ် တာဝန်ယူခဲ့ရသည်။ ၁၉၄၀ ပြည့်နှစ်တွင် ဓမ္မာစရိယ စာချတန်းစာမေးပွဲ စတင်ကျင်းပ၍ ဝင်ရောက်ဖြေဆိုရာ ဂုဏ်ထူးသုံးကျမ်းနှင့် ကျမ်းရင်းသုံးကျမ်း ပြီးစီးအောင် မြင်ပြီး အစိုးရဓမ္မာစရိယခေါ် သာသနဓဇ သီရိပဝရ ဓမ္မာစရိယဘွဲ့ ရရှိ သည်။ ဂျပန်ခေတ်တွင် မင်းကွန်း ဓမ္မနာဒတိုက်၌ပင် သီတင်းသုံးသည်။

၁၉၄၉ ခုနှစ် ဖေဖော်ဝါရီလ ၃ ရက် ကြာသပတေးနေ့တွင် ရန်ကုန် မြို့၌ ပထမအကြိမ် တိပိဋကဓရ ရွေးချယ်ရေး စာမေးပွဲကျင်းပရာ မင်းကွန်း

ဆရာတော်သည် ပင့်သံဃာတစ်ပါးအဖြစ် တက်ရောက်သည်။ ထိုနှစ် စာဖြေသံဃာ ၆ ပါးရှိရာ အောင်မြင်သူ မရှိခဲ့ချေ။ မင်းကွန်းဆရာတော်၏ ရဟန်းဒကာ ဆာဦးသွင်မှာ တိပိဋကဓရ ရွေးချယ်ရေးအဖွဲ့ (လူပုဂ္ဂိုလ်) ဥက္ကဋ္ဌဖြစ်၍ စာမေးပွဲနှင့် ပတ်သက်ပြီး အောင်သူမရှိရာ စိတ်မချမ်းမသာ ဖြစ်နေသည်။ မင်းကွန်းဆရာတော်က 'ရဟန်းဒါယကာများကို အနည်းဆုံး ဝိနယဓရဘွဲ့တံဆိပ်ဖြင့် ကျေးဇူးဆပ်ပါမည်။ ကျန်းမာရေးကောင်းမွန်လျှင် တိပိဋကဓရအဖြစ်ပင် ကျေးဇူးဆပ်ရန် ရည်ရွယ်ကြောင်း' ကတိပေးခဲ့သည်။ ၁၉၅၀ ပြည့်နှစ် ဒုတိယအကြိမ် တိပိဋက ရွေးချယ်ပွဲတွင် မင်းကွန်းဆရာ တော်သည် ပရိဝါပါဠိတော်၌ စိတ်တိုင်းကျ မကျေညက်သေး၍ ဝင်ရောက် ဖြေဆိုခြင်းမပြုခဲ့ချေ။ ဖြေဆိုသူ ငါးပါးအနက် ရှင်ပညာသာရတစ်ပါး သာ ဝိနည်းပါဠိတော် စာမျက်နှာ ၁၉၉၈ ကို အထောက်အမလွတ် သန့်ရှင်း ကြည်လင် ပြတ်သားစွာ ပြန်ဆိုနိုင်၍ ပထမဆုံး ဝိသိဋ္ဌဝိနယဓရဘွဲ့ ဆက်ကပ်ခံရသည်။ အရှင်ပညာသာရမှာ ပဲခူးတောထဲတွင် ပဋိပတ္တိ ကျင့်ကြံအားထုတ်နေရာ နိုင်ငံတော်ဝန်ကြီးချုပ်ဦးနု၊ သူဌေးကြီး ဆာဦးသွင်တို့၏ ဆန္ဒအရ ရဟန်းဒါယကာ ဦးပွင့်ကောင်း တောင်းပန် လျှောက်ထား၍ ဤတစ်ကြိမ်သာ တိပိဋက စာမေးပွဲဖြေဆိုပေးမည် ကတိဖြင့် ဖြေဆိုခဲ့ခြင်းဖြစ်သည်။

၁၉၅၁ ခုနှစ် တတိယအကြိမ် တိပိဋကဓရ ရွေးချယ်ပွဲတွင် မင်းကွန်း ဆရာတော် ဝင်ရောက်ပြန်ဆိုသည်။ အာဂုံပြန်ဆိုနေစဉ် ပုံနှိပ်စာမူအမှား ပုံနှိပ်မူကွဲများ တွေ့တိုင်း ကျမ်းကိုးကျမ်းကား စုံလင်စွာ ပြင်ဆင်ပေးသည်။ အာဂုံတွင် အထောက်အမ လွတ်ရုံမျှမက နှုတ်ရှင်းခြင်း, ပုဒ် ပါဠ် မကျော်ခြင်း, လျင်မြန်ခြင်း, အနက်အဓိပ္ပာယ် မိမိရရသိခြင်း, ပုဒ် ပါဠ် အက္ခရာ သုတ်သင်ပြန်ဆိုခြင်းအပြင် သတ်မှတ်ချိန်ထက် မိနစ် ၂၀ စော၍ ပြီးစီးလေ့ရှိသည်။ ရေးဖြေတွင်လည်း ကိုယ်တိုင် လက်နှိပ်စက်ရိုက်ဖြေရာ ဖျက်ရာမပါ သန့်ရှင်းသပ်ရပ်စွာ ဖြေဆိုနိုင်၍ ဂုဏ်ထူးရမှတ်ဖြင့် ဝိသိဋ္ဌ ဝိနယဓရ မဟာကောဝိဒဘွဲ့ ဆက်ကပ်ခံရသည်။ ၁၉၅၂ ခု စတုတ္ထအကြိမ် တိပိဋကဓရ ရွေးချယ်ပွဲ၌ အဘိဓမ္မာရှေ့ပိုင်း ၅ ကျမ်း၊ ၁၉၅၃ ခု ပဉ္စမအကြိမ် တိပိဋကဓရ ရွေးချယ်ပွဲ၌ အဘိဓမ္မာနောက်ပိုင်း ၂ ကျမ်း ပြန်ဆိုနှင့် ရေးဖြေတွင် ဂုဏ်ထူးရမှတ်ဖြင့် ဝိသိဋ္ဌအာဘိဓမ္မိက မဟာ

အဘိဓမ္မ ကောဝိဒဘွဲ့ ဆက်ကပ်ခံရသည်။ ၁၉၅၄ ခု ဆဋ္ဌမအကြိမ် တိပိဋကဓရ ရွေးချယ်ပွဲ၌ သင်ရိုး သုတ္တန်ပိဋကတ် ပြန်ဆိုနှင့် ရေးဖြေတွင် ဂုဏ်ထူးမှတ်ဖြင့် အောင်မြင်၍ ဝိသိဋ္ဌ ဒိဃဘာဏက မဟာဒီဃနိကာယ ကောဝိဒဘွဲ့ ဆက်ကပ်ခံရသည်။

၁၉၅၄ ခုနှစ် ဇန်နဝါရီလ ၁၉ ရက်တွင် နိုင်ငံတော်အစိုးရက တိပိဋကဓရပုဂ္ဂိုလ် ပေါ်ထွန်းခဲ့ပြီဟု ပြည်တွင်းပြည်ပ ကြေညာခဲ့၍ ဗုဒ္ဓ သာသန ဝိသိဋ္ဌ တိပိဋကဓရ မဟာတိပိဋက ကောဝိဒ ဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။

၁၉၅၄ ခုနှစ် မေလ ၁၇ ရက် တနင်္လာနေ့တွင် ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေ မဟာပါသာဏလိုဏ်ဂူတော်၌ ထေရဝါဒ ငါးနိုင်ငံမှ သံဃာတော် ၂၆၁၇ ပါး စုပေါင်း၍ ဆဋ္ဌသင်္ဂါယနာတင်ပွဲ စတင်ကျင်းပ သည်။ သင်္ဂါယနာတင်ပွဲတွင် အဂ္ဂမဟာပဏ္ဍိတ မဟာစည်ဆရာတော်က အမေးပုစ္ဆက၊ တိပိဋကဓရမဓမ္မဘဏ္ဍာဂါရိက မင်းကွန်းဓမ္မနာဒဆရာတော်က အဖြေဝိဿဇ္ဇက ဆောင်ရွက်ရာ ရဟန်းရှင်လူအပေါင်း အံ့ဩချီးမွမ်းခဲ့ရ သည်။ သီရိလင်္ကာရဟန်းတော်များက "ဧဒိသော ပုဂ္ဂလော လင်္ကာဒီပေ နတ္ထိ၊ ဇမ္ဗုဒီပေ နတ္ထိ - ဤသို့သော အရှင်မျိုးသည် သီဟိုဠ် (သီရိလင်္ကာ) ကျွန်း၌လည်း မရှိပါ၊ ဇမ္ဗူဒိပ်ကျွန်း၌လည်း မရှိပါ" ဟု ဆိုခဲ့ကြသည်။

၁၉၆၂ ခုနှစ် ဖေဖော်ဝါရီလ ၁၆ ရက် သောကြာနေ့တွင် ဆဋ္ဌသင်္ဂါ ယနာတင်ပွဲ အလုံးစုံ ပြီးစီးသည်။ ထိုစဉ်က နိုင်ငံတော်ဝန်ကြီးချုပ် ဦးနု၏ အကြိမ်ကြိမ်လျှောက်ထားချက်အရ မဟာဗုဒ္ဓဝင်ကျမ်းကြီး ၆ တွဲ ၈ အုပ်ကို ပြုစုခြင်း၊ မင်းကွန်းဓမ္မနာဒတိုက်၌ ပရိယတ္တိစာပေပို့ချခြင်း၊ နိုင်ငံအနှံ့ တရားပွဲများ ကျင်းပဟောပြောခြင်း စသည့် သာသနာပြုလုပ်ငန်းများကို ပင်ပန်းဆင်းရဲခံ၍ ဆောင်ရွက်သည်။ တိပိဋကဓရ ဋ္ဌေရတုကာလတွင် တိပိဋကနိကာယသာသနာပြုအဖွဲ့ကို ဖွဲ့စည်း၍ တိပိဋက မျိုးဆက်သစ်များ ပေါ်ထွန်းရေးအတွက် မင်းကွန်းတောင်ရိုး၊ မိုးမိတ်ကုန်းမြေ၌ တိပိဋက နိကာယကျောင်းတိုက် တည်ထောင်ကြိုးပမ်းသည်။ ရန်ကုန်မြို့ ဒဂုံမြို့နယ် စကားဝါလမ်း၌ တိပိဋကကျောင်းတော် တည်ထောင်၍ နိကာယ် သာသနာ ထွန်းကားရေးအတွက် ဦးဆောင်ဦးရွက်ပြုသည်။

၁၉၈၀ ပြည့်နှစ် ဖော်ဖော်ဝါရီလ ၁ ရက်တွင် သာသနာတော်

သန့်ရှင်းတည်တံ့ပြန့်ပွားရေး၊ ဂိုဏ်းပေါင်းစုံ သံဃဝန်ဆောင်အဖွဲ့ ဖွဲ့စည်းရာ ဝန်ဆောင်အဖွဲ့ဝင်၊ ၁၉၈၀ ပြည့်နှစ် မေလ ၂၄ မှ ၂၇ အထိ ကျင်းပသော သံဃမဟာနာယကအဖွဲ့ အကျိုးတော်ဆောင်ချုပ်အဖြစ် တာဝန်ပေးအပ်ခံရသည်။ နိုင်ငံတော် သံဃမဟာနာယကအဖွဲ့၏ တာဝန်ပေးချက်အရ ရန်ကုန်နှင့် မန္တလေးမြို့ နိုင်ငံတော် ပရိယတ္တိသာသနာ့တက္ကသိုလ် အဆောက်အအုံများ တည်ဆောက်ရေးအတွက် တာဝန်ယူခဲ့သည်။ သက်တော် ၇၀ ကျော်သော်လည်း နိုင်ငံအနှံ့ တရားပွဲများကျင်းပ၍ ဗုဒ္ဓဘာသာဝင်တိုင်း ကျောင်းအမ ကျောင်းဒါယကာဖြစ်ရေးအတွက် ပင်ပန်းဆင်းရဲခံ ဆောင်ရွက်သည်။ မန္တလေးမြို့ ဇီဝိတဒါန သာသန အထူးကုဆေးရုံတော်ကြီး တည်ဆောက်ရေးအတွက်လည်း တာဝန်ယူဆောင်ရွက်သည်။ ထို့ပြင် လူမှုရေးဆိုင်ရာ စာသင်ကျောင်း၊ ဆေးခန်း၊ စာကြည့်တိုက်၊ လမ်းတံတား အလှူများကိုလည်း စွမ်းအားရှိသရွေ့ ကြိုးပမ်းခဲ့သည်။

နိုင်ငံတော်အစိုးရက ၁၉၇၈ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့၊ ၁၉၈၉ ခုနှစ်တွင် အဘိဓဇမဟာရဋ္ဌဂုရုဘွဲ့၊ ၁၉၉၁ ခုနှစ်တွင် အဘိဓဇ အဂ္ဂမဟာသဒ္ဓမ္မဇောတိကဘွဲ့များ ဆက်ကပ်လှူဒါန်းသည်။

သက်တော် ၈၂ သိက္ခာ ၆၂ ဝါရ ၁၉၉၃ ခုနှစ် ဖေဖော်ဝါရီလ ၉ ရက် အင်္ဂါနေ့ညနေ ၄ နာရီ ၄၀ မိနစ်တွင် မင်းကွန်း ဓမ္မနာဒကျောင်းတိုက်၌ တစ်ဘဝ တစ်ခန်း ချုပ်ငြိမ်းခဲ့ပါသည်။





## တောင်တန်းသာသနာပြု ဆရာတော် ရှင်ဥတ္တမသာရ

(၁၉၁၁ — ၁၉၉၅)

မြန်မာနိုင်ငံသာသနာဝင်တွင် တောင်တန်းဒေသ၊ နယ်ခြားဒေသတို့၌ ဗုဒ္ဓသာသနာ ပြန့်ပွားရေးအတွက် တစ်သက်တာ တစိုက်မတ်မတ် ဆောင်ရွက်ကြိုးပမ်းခဲ့ရာ တောင်တန်းသာသနာပြုဆရာတော် အမည်တွင်ခဲ့သည်။ ပရိယတ္တိစာပေကို မန္တလေး၊ အမရပူရ၊ မုံရွာ၊ ပခုက္ကူ စာသင်တိုက်ကြီးများတွင် ကျမ်းပေါက် သင်ယူခဲ့သည်။ ကမ္ဘာစစ်မတိုင်မီပြီးစ တောင်တန်း ပြည်မ ခွဲခြားထားစဉ်ကပင် ထက်သန်သော စိတ်ဆန္ဒ၊ ကြီးမားသော လုံ့လ၊ ပြင်းပျသော ကရုဏာကို အခြေတည်၍ တစ်စုံတစ်ယောက်၏ ကူညီထောက်ပံ့မှုမျှမပါဘဲ ချင်းတောင်တွင် ဗုဒ္ဓသာသနာပြုနိုင်ရန် အခြေစခဲ့သည်။ လွတ်လပ်ရေးရ တောင်တန်းသာသနာပြုအဖွဲ့၏ ကူညီထောက်ပံ့မှုဖြင့် ချင်းတောင်၊ နာဂတောင်တန်း၊ အိန္ဒိယအာသံ နယ်ခြားဒေသများတွင် ဆင်းရဲဒုက္ခမျိုးစုံကို ရင်ဆိုင်၍ ဗုဒ္ဓသာသနာပြုခဲ့သည်။ တောင်တန်းသာသနာပြု အတွေ့အကြုံ၊ ဒေသန္တရဗဟုသုတ၊ တိုင်းရင်းသားတို့၏ဘဝကို ဆောင်းပါးစာအုပ်များရေး၍ တောင်တန်းသာသနာပြု အခြေအနေကို တိုင်းပြည်သို့ အသိပေးခဲ့သည်။ ထို့ပြင် ဆရာတော်၏ ဆောင်ရွက်ချက်များကို သင့်ဘဝ ဦးတင်မောင်က 'အလင်းဆောင်သူများ အတွေ့အကြုံ' စာအုပ်ဖြင့် မှတ်တမ်းတင်ခဲ့သည်။

## ဥတ္တမသာရ၊ ရှင်၊ တောင်တန်းသာသနာပြုဆရာတော် —

၁၉၁၁ ခု ဇန်နဝါရီလ ၁၅ ရက် တနင်္ဂနွေနေ့တွင် ရွှေဘိုခရိုင် ဒီပဲရင်းတောင်လက် တောင်ပို့သွေးသောက်နယ်မြေ မြေနီကုန်းခေါ် ငွေတွင်းကုန်းရွာ (စစ်ကိုင်းတိုင်း ဒီပဲရင်းမြို့နယ်) ၌ ဖွားသည်။ အဖ ဦးဖိုးညို၊ အမိ ဒေါ်သေးတာ ဖြစ်သည်။ မွေးချင်း ၈ ယောက်တွင် အငယ်ဆုံးဖြစ်သည်။ အဖိုးမှာ မင်းတုန်းမင်းလက်ထက် နန်းတွင်း သမားတော် ဦးအုန်း ဖြစ်သည်။

၆ နှစ်အရွယ်တွင် ငွေတွင်းကုန်း ရွာဦးကျောင်းဆရာတော် ရှင်ဝိလာသ (၁၈၇၀—၁၉၄၅) ထံ ပညာသင်သည်။ ၁၂ နှစ်တွင် မိဘ နှစ်ပါးက ရှင်ဒါယကာ၊ ရွာဦးကျောင်းဆရာတော်က ဥပဇ္ဈာယ်ပြု၍ သာမဏေ ဖြစ်သည်။ သာမဏေဘွဲ့ ရှင်ဥတ္တမသာရ။ သာမဏေဝတ်ပြီး ရွာဦးကျောင်းမှာပင် သဒ္ဒါနှင့် ဇာတ်တော်ကြီးများ သင်ယူသည်။ သာမဏေ တစ်ဝါရတွင် မုံရွာမြို့ ရွှေသိမ်တော်တိုက် ပထမကျော် ရှင်ကုမာရ (၁၈၈၁—၁၉၃၉) ထံ ပြောင်း၍ ပထမပြန်စာမေးပွဲစာများ သင်ယူ သည်။ ထို့နောက် မုံရွာ လယ်တီတိုက်နှင့် စစ်ကိုင်းတောင် မဟာသမယ ချောင်၌ ပရိယတ္တိစာပေများ ဆက်လက်သင်ယူသည်။ မဟာသမယ ချောင် ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်းဆရာတော် ရှင်ဉာဏိန္ဒ (၁၈၆၉—၁၄၅) ထံမှ ကမ္မဋ္ဌာန်းဘာဝနာအခြေခံများ ဆည်းပူးခဲ့သည်။

၁၉၃၁ ခု ဧပြီလ ၉ ရက် ကြာသပတေးနေ့တွင် ငွေတွင်းကုန်းရွာ ရွာဦးကျောင်းသိမ်၌ ရဟန်းဖြစ်သည်။ မိဘနှစ်ပါးက ရှင်ဒါယကာ၊ ငယ် ဆရာက ဥပဇ္ဈာယ်ပြု၍ ရဟန်းဘွဲ့ ရှင်ဥတ္တမသာရ ဖြစ်သည်။ ရဟန်း ဖြစ်ပြီး မန္တလေးမြို့ ချမ်းသာကြီးမြောက်တိုက်တွင် သီတင်းသုံး၍ ပရိယတ် စာပေ ဆက်လက်နည်းခံသည်။ မန္တလေးအနောက်ပြင် စကုတိုက်စာချ၊ ပထမကျော် ရှင်ကောဝိဒ (လယ်တီဦးကောဝိဒ) ထံ နေ့ဝါညဝါများ သင်ယူခဲ့သည်။ မန္တလေးအနောက်ပြင်၊ ချမ်းသာကြီးမြောက်တိုက် ရတနာပုံပရိယတ္တိကျောင်း သီတင်းသုံး စာပေသင်ကြားနေစဉ် နိုင်ငံ ကျော် ဝံသာနုဆရာတော် ဦးဥတ္တမ (၁၈၇၉—၁၉၃၉)နှင့်တွေ့၍ တရား နာကြားခွင့်ရခဲ့သည်။ ထိုအချိန်မှစ၍ ဗုဒ္ဓသာသနာပြုစိတ်ဓာတ်

ရင့်ကျက်ခဲ့သည်။ အမြင်ကျယ်၍ ရဲရင့်လာသည်။ ရည်မှန်းချက် ကြီးမား လာသည်။ 'သူ့လို နိုင်ငံခြားဒေသများ မလှည့်နိုင်သော်လည်း မြန်မာနိုင်ငံ တွင်းရှိ တောင်တန်းဒေသများကိုတော့ ငါ လှည့်နိုင်ရမည်။ စွန့်စားရဲ ရမည်။' ဟု ဆုံးဖြတ်ကာ တောင်တန်းသာသနာပြုမျိုးစေ့ ချခဲ့သည်။

မန္တလေးတွင် ပရိယတ္တိစာပေ သင်ကြားနေရာမှ တောင်တန်း သာသနာပြုရန် ပဏာမလေ့လာရေးခရီးအဖြစ် ၁၉၃၆ ခုတွင် ရခိုင်ရိုးမ ကို ခြေလျင်ဖြတ်၍ အိန္ဒိယဘုရားဖူး ခရီးထွက်ခဲ့သည်။ ခရီးဖော် ပခုက္ကူ မြို့ဇာတိ ရှင်နိဂြောဓနှင့်အတူ ပြည်မှ ပန်းတောင်း၊ တောင်ကုတ်၊ ကျောက်ဖြူ ခရီးဆက်သည်။ ကျောက်ဖြူမြို့နယ် ဇင်ကျွန်းရွာဆရာတော် ရှင်ပဏ္ဍိတထံ ခေတ္တနားသည်။ ရှင်ပဏ္ဍိတမှာ မန္တလေးတွင် စာသင်ဖက် ဖြစ်သည်။ ထိုစဉ် ငှက်ဖျားရောဂါ အလူးအလဲခံရ၍ ဝါကျွတ်မှ ခရီး ဆက်နိုင်ခဲ့သည်။ ကျောက်ဖြူမှ စစ်တွေ၊ စစ်တွေမှ မေယုမြစ်ရိုး တလျှောက် မောင်းတောအထိ ခြေလျင်ကြွ၍ နယ်မြေလေ့လာသည်။ မောင်းတောမှ စစ်တကောင်းကို သင်္ဘောစီး၍ စစ်တကောင်းမှ ကလ ကတ္တား၊ ဗုဒ္ဓဂါယာ၊ ဗာရာဏသီ၊ ကုသိနာရုံ၊ သာဝတ္ထိ၊ ရာဇဂြိုဟ်၊ လုမ္ဗိနီ၊ နီပေါ အထိ ဘုရားဖူးဒေသန္တရ ခရီးရောက်ခဲ့သည်။ အပြန်တွင် နီပေါမှ စစ်တကောင်း၊ စစ်တကောင်းမှ စစ်တွေ သင်္ဘောစီး၍ စစ်တွေမှ ပလက်ဝ၊ ကျောက်ဖြူ ရန်ကုန်၊ မန္တလေး ပြန်ခဲ့သည်။ ငှက်ဖျားရောဂါကြောင့် ထိုနှစ် ဇာတိ ဒီပဲရင်းနယ် ငွေတွင်းကုန်းရွာ ဥပဇ္ဈာယ်ဆရာထံ ဝါကပ် သည်။ ဝါကျွတ်လျှင် မုံရွာလယ်တီတိုက်တွင် ရူပသိဒ္ဓိပဒမာလာ သင်ရိုး နှင့် သက္ကတဘာသာ သင်သည်။ နွေရာသီတွင် ပခုက္ကူ မဟာဝိသုတာ ရာမတိုက် ပြောင်း၍ ရှင်ပညာ၊ ရှင်နန္ဒဝံသ၊ ရှင်သုန္ဒရ တို့ထံ နိကာယ် ငါးရပ် သင်သည်။ ပခုက္ကူ၌ ၄ ဝါသင်ကြားပြီး ၁၉၄၁ ခုတွင် အမရပူရ တူးမောင်းတိုက် ပြောင်း၍ ညဝါ ပဋ္ဌာန်းသင်သည်။ ၁၉၄၂ ခု ဇန်နဝါရီ ၁၅ တွင် တူးမောင်းတိုက်မှ ဇာတိ ငွေတွင်းကုန်းရွာ ငယ်ဆရာထံ ပြန်လည်သီတင်းသုံးသည်။

ဂျပန်ခေတ် ၁၉၄၂ ခု ဇွန်လ ၃၀ ရက်တွင် သထုံ၌ စာချရန် ရည်ရွယ်၍ ရန်ကုန်ဆင်းလာသည်။ စစ်တောင်းတံတားကျိုး၍ လမ်းပန်း ဆက်သွယ်ရေး ပြတ်တောက်သွားရာ ရန်ကုန်၌ သောင်တင်နေသည်။

ရန်ကုန် ကမာရွတ် ဉသြခြံ၊ ထို့နောက် ပြည်လမ်း ၆ မိုင်ခြံဝင်း သုဇန ကာရီကျောင်း၌ သီတင်းသုံးသည်။

စစ်ပြီးစ ပြည်လုံးကျွတ် ဂိုဏ်းပေါင်းစုံ မဟာသံဃအစည်းအဝေး ဆုံးဖြတ်ချက်အရ ၁၉၄၆ ခု စက်တင်ဘာ ၁၇ ရက်တွင် တောင်တန်း သာသနာပြုအဖွဲ့ စတင်ဖွဲ့စည်းသည်။ အသင်း၏ မေတ္တာရပ်ခံချက်အရ တောင်တန်းသာသနာပြုမည့် ရဟန်းငယ်များကို သင်တန်းပေးခဲ့သည်။ ထို့နောက် ချင်းတောင် သာသနာပြုခရီး ဦးဆောင်ရန် တာဝန်ပေးအပ်သည်။ သို့သော် အသင်းက ထိုနှစ် ချင်းတောင်သာသနာပြုခရီးစဉ်ကို ဖျက်သိမ်းရာ တစ်ပါးတည်း ချင်းတောင်သာသနာပြုရန် ဆုံးဖြတ်ခဲ့သည်။ ၁၉၄၇ ခု ဇန်နဝါရီလ ၂၇ ရက်နေ့တွင် အတွင်းဝန်ရုံး၌ တောင်တန်း မင်းကြီး စတီဗင်ဆင်နှင့် တွေ့ခွင့်တောင်း၍ ချင်းတောင်သာသနာပြုခွင့် အမိန့်တောင်းခံသည်။ မြူနီစီပါယ်မင်းကြီး ဦးစိုးညွန့်က စကားပြန်အဖြစ် ဆောင်ရွက်ပေးသည်။ တောင်တန်းမင်းကြီးက ခွင့်ပြုမိန့်လက်မှတ် ထုတ် မပေးသော်လည်း ချင်းတောင်တွင် ဗိုလ်တဲအားလုံး အခမဲ့သုံးနိုင်သည့် မိတ်ဆက်စာရခဲ့သည်။

၁၉၄၇ ခုနှစ်မှစ၍ ချင်းတောင် တောင်ပိုင်း၊ ချင်းတောင် မြောက်ပိုင်း နာဂတောင်တန်း၊ ခန္တီးတောင်တန်း၊ အာသံ၊ မဏိပူရ၊ စစ်တကောင်း နယ်ခြားဒေသတွင် အခက်အခဲအမျိုးမျိုး၊ ဆင်းရဲဒုက္ခ အဖုံဖုံကို အံတု၍ ဗုဒ္ဓသာသနာပြုခဲ့ရာ သက်တော် ၈၀ ကျော်သည့်တိုင် မြေပြန့်ဆင်း ဝါမဆိုတော့ချေ။ ဘဝတစ်သက်တာ တောင်တန်းပေါ်၌ သာသနာပြုခဲ့၍ တောင်တန်းသာသနာပြုဆရာတော်အဖြစ် အလွန် ထင်ရှားခဲ့သည်။ သက်တော် ၈၀ ကျော်တွင် ပြည်တွင်းတရားပွဲများစွာနှင့် ဥရောပကို ဓမ္မဒူတခရီး ကြွခဲ့ပါသည်။

ရဟန်း ၂ ဝါရကပင် စာနယ်ဇင်းများတွင် စာရေးသားခဲ့ရာ လုံးချင်းစာအုပ်အဖြစ် ချင်းရာဇဝင်၊ ချင်းဖတ်စာ၊ ရဟန်းဘဝချမ်းသာ၊ မေတ္တာစွမ်းအား၊ တောင်တန်းတရား၊ နွားမေတ္တာစာ၊ အာပတ်နှင့်တကွ စုတေလျှင်၊ အိုလိုက်ကြစို့နော်၊ အဖိုးတန်နတ်ချစ်ဂါထာများ၊ ဘဝအောင် မြင်ရေးလမ်းညွှန်၊ ပရိတ်မေတ္တာတန်ခိုးထက်သောနည်း၊ မေတ္တာခရီးသည် ကြီး၏ ကိုယ်တွေ့မှတ်တမ်း (၃ တွဲ)၊ ဘုန်းကြီးမှတ်စုခေါ် မှတ်စုပဒေသာ

(၂ တွဲ)၊ တောင်တန်းသာသနပြုခရီးကြမ်းအစ ဓမ္မဒေသနာ၊ တောင်တန်းသာသနာပြုစည်းမျဉ်းဥပဒေ၊ ချမ်းမြေ့စွာ ဘဝနေနည်း လမ်းညွှန်တရားတော်တို့ ရေးသားထုတ်ဝေခဲ့ပါသည်။

၁၉၆၆ ခု အမျိုးသားစာပေဝတ္ထုရှည် စတုတ္ထဆုရ စိန်စိန်၏ 'ရိုးမတောင်ကြီးကိုသာ ဖြိုလိုက်ချင်တော့' ဝတ္ထုမှာ ဆရာတော်၏ မှတ်တမ်းမှတ်ရာ မှတ်စုများကို အခြေခံထားသည်ဟု ဆိုကြပါသည်။

၁၉၉၂ ခုတွင် နိုင်ငံတော်အစိုးရ၏ အဘိဓဇ အဂ္ဂမဟာသဒ္ဓမ္မဇောတိက ဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။

ချင်းပြည်နယ် ဖလမ်းမြို့နယ် နယ်ခြားတောင်တန်းသာသနာပြုခန္တီးတောရကျောင်း၌ သီတင်းသုံးနေရာ သက်တော် ၈၆ သိက္ခာ ၆၆ ဝါရ ဆေးဝါးကုသမှုခံယူရန် ဖလမ်းမှ ရန်ကုန်လေယာဉ်ဖြင့် ကြွလာစဉ် ၁၉၉၅ ခု ဒီဇင်ဘာလ ၂၇ ရက် ညနေ ၆ နာရီ ၃၀ မိနစ်တွင် မန္တလေးလေဆိပ်၌ ခန္ဓာဝန်ချခဲ့ပါသည်။





## သဲအင်းဂူ ဆရာတော် ရှင်ဥက္ကဋ္ဌ

(၁၉၁၃ — ၁၉၇၃)

မြန်မာနိုင်ငံ ပဋိပတ္တိသာသနာဝင်တွင် ရဟန္တာဟု ထင်ရှားခဲ့သည်။ အသက် ၄၆ နှစ်တိုင် လူဆိုးလူမိုက် ဓားပြခေါင်းဆောင်တစ်ဦးအဖြစ် ဘဝကျင်လည်ခဲ့သည်။ ရဟန္တာဟု ထင်ရှားသော စွန်းလွန်းဆရာတော်၏ ထေရုပ္ပတ္တိကို မြင်တွေ့ရာမှ "သူတောင် ရဟန္တာဖြစ်သေးတာ၊ ငါလဲ ကျင့်ရင် ဖြစ်မှာဘဲ" ဟု အသိရခဲ့သည်။ ရန်ကုန်မြို့တွင်း အိမ်တစ်အိမ်ကို ဓားပြဝင်တိုက်ရာ အိမ်ရှင်၏ ဓားချက်ဖြင့် ဦးခေါင်းဒဏ်ရာရခဲ့သည်။ ဒဏ်ရာသက်သာလာချိန် ဝိပဿနာတရားကို စွန်းလွန်းကမ္မဋ္ဌာန်းနည်းဖြင့် ကျင့်ကြံအားထုတ်သည်။ "လူသေလျှင်သေ မသေလျှင် ကိလေသာသေ" ဟူသော အဓိဋ္ဌာန်ဖြင့် ပြင်းပြင်းထန်ထန် အားထုတ်ရာ ၂၁ လ အကြာ တရားထူးတွေ့ခဲ့သည်။ တရားတွေ့ပြီး လူဝတ်ကြောင်ကို စွန့်၍ ရဟန်းပြုသည်။ ရဟန်းပထမဝါမှာပင် "အရိယာဘုံသွား ဉာဏ်လှေကား" ကျမ်းပြု သံလျင်တောရ ဦးတိလောကဉာဏ (ပီကေ) ထံ တရားစစ်ဆေးခံသည်။ တရားစစ်ဆေးခံနေစဉ် "ရဟန္တာ" ဟု အကျော်ဒေးယျ သတင်းပြန့်ပွားကာ ၁၉၆၀ ပြည့်နှစ် ဒီဇင်ဘာလထုတ် ပြည်ထောင်စုနေ့စဉ်နှင့် မြန်မာ့အလင်း သတင်းစာများတွင် သတင်းထူးအဖြစ် ဖော်ပြခံရသည်။ ရဟန္တာဟုထင်ရှားပြီး မှော်ဘီမြို့နယ် နှောကုန်းရွာအနီး သဲအင်းနံဘေး၌ လေးတိုင်စင်ကျောင်းကလေးဖြင့် သီတင်းသုံး ကျင့်ကြံအားထုတ်ခဲ့ရာမှ သဲအင်းဂူဆရာတော်ဟု အမည်တွင်ခဲ့သည်။

## ဥက္ကဋ္ဌ၊ ရှင်၊ သဲအင်းဂူဆရာတော် —

၁၉၁၃ ခုနှစ် မတ်လ ၁၆ ရက် တနင်္ဂနွေနေ့တွင် မှော်ဘီမြို့နယ် နှောကုန်းကျေးရွာ၌ ဖွားသည်။ အဖ ဓာတ်ပိန္နဲဆရာ ဦးသော်တာ၊ အမိ ဒေါ်မယ်အုံ့ ဖြစ်သည်။ မွေးချင်း ၇ ဦးတွင် တတိယမြောက်သားဖြစ်သည်။ အမည် မောင်အောင်ထွန်း တွင်သည်။ ဖခင်ဘက်မှအဖိုးမှာ ဓာတ်ပိန္နဲ ပယောဂ ဆရာဖိုးဖြစ်သည်။

ဘုန်းကြီးကျောင်းသား သူငယ်ဘဝကပင် ကျောင်းပြေး၍ လူတေ လူမိုက် ဖြစ်ခဲ့သည်။ အသက်ငယ်ငယ်ဖြင့် နှိုးကုန်းရွာသူ မဖွားညွန့်နှင့် အိမ်ထောင်ကျသည်။ အရက်ဝိုင်း ဖဲဝိုင်း လောင်းကစားမှုမျိုးစုံဖြင့် ဓားပြ လူမိုက် ဖြစ်လာသည်။ ကလေးသုံးယောက် ဖခင်ဘဝ၊ ၁၉ နှစ်အရွယ်တွင် မှော်ဘီရဲဘက်က နာမည်ဆိုး လူမိုက် ပုဒ်မ ၁၁၀ ဖြင့် လှည်းကူးကျေးရွာ နယ်ပြောင်း ၂ နှစ် အမိန့်ချမှတ်ခံရသည်။ လှည်းကူးရွာသူကြီး ဦးဘိုးညွန့်၏ လယ်ယာလုပ်ငန်းများကို ကူညီလုပ်ကိုင်ရသည်။ ပြစ်ဒဏ်စေ့၍ အိမ် အပြန် ကျုံကလင်းရွာ ဓားပြတိုက်မှု ခေါင်းဆောင်အဖြစ် ထပ်မံအဖမ်းခံ ရသည်။ ပြစ်မှုထင်ရှား၍ ဟင်္သာတမြို့နယ် တရားရုံး၏ ထောင်ဒဏ် ၇ နှစ် ချမှတ်ခံရသည်။

ဓားပြမှုဖြင့် ဟင်္သာတ၊ ပုသိမ်၊ မုံရွာလင်၊ မန္တလေး အကျဉ်းထောင် တို့တွင် အကျဉ်းကျခံရသည်။ ဒုတိယကမ္ဘာစစ်မီးကူးလာချိန် ၁၉၄၂ နှစ်ဦး တွင် မန္တလေးထောင်မှ လွတ်မြောက်ခဲ့သည်။ ထောင်ကျနေစဉ် ဖခင် ကွယ်လွန်၍ ဇနီးဖြစ်သူမှာ ကလေးသုံးယောက်ဖြင့် အိမ်မှဆင်းသွားသည်။ ဂျပန်ခေတ်တွင် လူဆိုးလူမိုက်ဘဝဖြင့် နှောကုန်းရွာသူ မကျင်စိန်၊ ထို့နောက် စွယ်တော်ကုန်းသူ မစီ၊ ထိုမှတဖန် ရန်ကုန် ကမာရွတ်မှ မသန်းစိန်နှင့် အိမ်ထောင် ၄ ဆက် ကျခဲ့သည်။ မသန်းစိန်မှာ အင်းစိန် မင်းကွန်းဝိပဿနာ စခန်း ဝင်လေ့ရှိရာ တစ်နေ့ ရဟန္တာဟု ထင်ရှားသော စွန်းလွန်းဆရာ တော်၏ထေရုပ္ပတ္တိ ဝယ်လာသည်။ ဓားပြလူမိုက် ဦးအောင်ထွန်းမှာ ထေရုပ္ပတ္တိစာအုပ်ကိုကြည့်၍ "သူတောင် ရဟန္တာဖြစ်သေးတာ ငါလဲ ကျင့်ရင် ဖြစ်မှာဘဲ" ဟု စိတ်ကူးပေါ်လာသည်။

စိတ်ကူးပေါ်လာပြီး မကြာမီ ၁၉၅၉ ခုနှစ်အတွင်း ရန်ကုန်မြို့တွင်း

ခြံတစ်ခြံကို ဓားပြတိုက်ရာ အိမ်ရှင်၏ဓားချက်ဖြင့် ခေါင်းတွင် ဒဏ်ရာရခဲ့သည်။ ဒဏ်ရာရချိန်တွင် သံဝေဂဖြစ်ပွားခဲ့သည်။ ဒဏ်ရာသက်သာလာချိန်၌ ဇနီးနှစ်ယောက်ကို လွတ်လပ်ခွင့်ပေးပြီး ဇာတိ နှောကုန်းရွာကျောင်းလေးကျောင်းသိမ်၌ "စွန်းလွန်းနည်းဖြင့် တရား စတင်ကျင့်ကြံအားထုတ်သည်။ ကျောင်းလေးကျောင်းဘုန်းတော်ကြီးထံ ကိုးပါးသီလခံယူ၍ "လူသေလျှင်သေ မသေလျှင် ကိလေသာသေ" ဟူသော အဓိဋ္ဌာန်ဖြင့် တစ်နေ့လျှင် ၁၆ နာရီ ပြင်းပြင်းထန်ထန် အားထုတ်ခဲ့သည်။ ၆ ရက်မြောက်နေ့တွင် "အလွန်အေးချမ်းသည့် တရားအတွေ့ထူး"ကို စတင်ခံစားရသည်။ သိမ်အတွင်း ကျင့်ကြံအားထုတ်မှု ၉ ရက်စေ့လျှင် အစ်မအရင်းဒေါ်ဖွားစိန်၏ခြံဝင်း ဆေးရုံးပင်အောက်ပြောင်း၍ ၈ ပါးသီလခံယူကာ 'အာနာပါန ကမ္မဋ္ဌာန်း'ကို ဆက်လက်အားထုတ်ရာ အတိတ်နမိတ်များထင်မြင်လာသည်။ အတိတ်နမိတ်များ ထင်မြင်လာချိန်တွင် ရွာသူရွာသားများကျွဲပျောက်နွားပျောက် ရွာမှုရွာတာများ မေးမြန်းလာ၍ နှောကုန်းရွာသင်္ချိုင်း ပြောင်းရွှေ့အားထုတ်သည်။ ၁ လနှင့် ၃ ရက်အရတွင်တရားအရသာကို ဒုတိယအကြိမ် တွေ့ထိခဲ့သည်။

ထိုအချိန်တွင် ကမာရွတ်က ဇနီးသည် ဒေါ်သန်းရှိန်နှင့် ပစ္စည်းရှင်းလင်းရန် ကမာရွတ်သွားရောက်သည်။ ကမာရွတ်တွင်ရှိနေစဉ် သမ္မတဟောင်း ဒေါက်တာဘဦး၏ အိမ်ဖောက်ထွင်းမှုအတွက် ရာဇဝင်လူဆိုးတစ်ဦးအဖြစ် အင်းစိန်အကျဉ်းထောင်တွင် စစ်ဆေးခံရသည်။ အကျဉ်းထောင်၌စစ်ဆေးခံနေရစဉ် 'အာနာပါန ကမ္မဋ္ဌာန်း' ကို သတိမလွတ်စေဘဲ ရှုပွားသည်။ ၄၅ ရက်မြောက်နေ့တွင် အကျဉ်းထောင်မှ လွတ်မြောက်သည်။

၁၉၆၁ ခုနှစ် မတ်လ ၁၂ ရက်တွင် ရဟန်းပြုသည်။ ဥပဇ္ဈာယ်ဆရာမှာ မှော်ဘီမြို့နယ် နှောကုန်းရွာ ကျောင်းကြီးကျောင်းဆရာတော်ရှင်ပညိန္ဒြိယဖြစ်သည်။ ရဟန်းဒါယကာမှာ မိခင် ဒေါ်မယ်အုံ၊ ဆွေမျိုးတစ်စုနှင့် တရားကမ္မဋ္ဌာန်းပြဆရာ ဦးစုဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ဥက္ကဋ္ဌဖြစ်သည်။

ရဟန်းဖြစ်လျှင်ဖြစ်ချင်း နှောကုန်းရွာ အရှေ့ဘက် တစ်မိုင်ခန့်အကွာ သဲအင်းအမည်တွင်သော အင်းဘေးလယ်ကွင်းပြင် လေးတိုင်စင်ကျောင်းကလေး၌ သီတင်းသုံး၍ ဝိပဿနာတရား အားထုတ်သည်။

နှောကုန်းရွာတွင် လူဝတ်ကြောင်ဖြင့် ကျင့်ကြံအားထုတ်နေစဉ်ကပင် ပထမ,မဂ်၊ ဒုတိယမဂ်၊ တတိယမဂ်များ ရခဲ့ကြောင်း နောင်အခါ သဲအင်းဂူ ဆရာတော်အဖြစ် တရားဟောပြောရာ၌ ထည့်သွင်းဟောပြာခဲ့သည်။

၁၉၆၁ ခုနှစ် ဒီဇင်ဘာလ ၂၃ ရက်နေ့တွင် ရဟန်းတစ်ဝါရ ရှင်ဥက္ကဋ္ဌသည် ဒကာဦးစု ဦးဆောင်သော ဓမ္မမိတ်ဆွေ ၁၁ ဦးနှင့်အတူ သံလျင်တောရ ဆရာတော် ဦးတိလောကဉာဏ (ပီကေ) ထံ တရားစစ်ဆေး ခံရန် သွားရောက်ခဲ့သည်။ သံလျင်တောရ ဆရာတော်မှာ 'အရိယာဘုံသွား ဉာဏ်လှေကား' ကမ္မဋ္ဌာန်းကျမ်းပြုဖြစ်၍ ပရိယတ် ပဋိပတ် စွယ်စုံထင်ရှား သည်။ သံလျင်တောရတွင် ၇ ရက် တရားစစ်ဆေးခံနေစဉ် 'ရဟန္တာ'ဟု အကျော်ဒေးယျသတင်းဖြစ်ပွားကာ ဒီဇင်ဘာလ ၃၁ ရက်နေ့ထုတ် ပြည်ထောင်စုနေ့စဉ်၊ မြန်မာ့အလင်းနေ့စဉ်တို့တွင် ဖော်ပြခံရသည်။

သံလျင်တောရမှ သဲအင်းဂူ ကမ္မဋ္ဌာန်းကျောင်းပြန်ကြွပြီး တစ်နှစ် အတွင်းမှာပင် မဏ္ဍပ်များ၊ အဆောက်အအုံများ ပေါ်ထွန်းလာ၍ သဲအင်းဂူ ဆရာတော်ဟု အမည်တွင်လာသည်။ ၁၉၆၂ ခုနှစ်မှစတင်၍ ရန်ကုန်မြို့ မင်္ဂလာတောင်ညွန့် ကျားကူးဓမ္မာရုံ၊ မြို့တော်ခန်းမ၊ ရန်ကုန်တက္ကသိုလ် ဓမ္မာရုံ၊ ကမ္ဘာအေးဝိသာခါတန်ဆောင်းနှင့် ရပ်ကွက်အသီးသီးတွင် တရား ပွဲများကျင်းပ၍ ခန္ဓာကိုယ်တွေ့ ဝိပဿနာတရား ဟောပြောခဲ့သည်။ ဟောပြောရုံမျှမက တရားပွဲတွင် 'အာနာပါန ကမ္မဋ္ဌာန်း'ကို လက်တွေ့ ရှုမှတ်စေသည်။ သဲအင်းဂူတရား ဟောကွက်ရှုကွက် အမျိုးမျိုးကို ဗမာ့ခေတ် ဦးအုန်းခင်က မိုးကြိုး ကလောင်အမည်ဖြင့်လည်းကောင်း၊ ဦးဘိုက မောင်ဘို (အကာလိကော) အမည်ဖြင့်လည်းကောင်း စာအုပ်များ ရေးထုတ်ခဲ့ရာ အလွန် လူသိများလာသည်။ တစ်ဖက်တွင်လည်း အတိုက်အခံများ ပေါ်ထွက် လာသည်။ မန္တလေးမြို့ အိမ်တော်ရာဘုရားတွင် ကျင်းပသော သဲအင်းဂူ တရားပွဲ၊ ရန်ကုန် ခြောက်ထပ်ကြီးဘုရား သဲအင်းဂူတရားပွဲများတွင် ဆန့်ကျင်မှုများ တွေ့ကြုံရသည်။

သဲအင်းဂူ ကမ္မဋ္ဌာန်းသည် စွန်းလွန်းဆရာတော်၏နည်း၊ တစ်နည်း အားဖြင့် အာနာပါန ကမ္မဋ္ဌာန်းဖြစ်သည်။ မဂ်လေးပါး ဖြစ်စဉ်ကျင့်စဉ်၊ စေတီလေးပါးမြတ်တရား၊ သစ္စာလေးပါးမြတ်တရား၊ မဂ်ပေါက်ဖိုလ်ဝင်၊ သောတာပန်အမျိုးမျိုးနှင့် သဲအင်းဂူဟောကွက်ရှုကွက် အသုဘကမ္မဋ္ဌာန်း

တို့သည် ထင်ရှားသည်။ သဲအင်းဂူဆရာတော်၏ ခန္ဓာကိုယ်တွေ့ ဝိပဿနာတရားကို လူပုဂ္ဂိုလ်များသာမက ပရိယတ္တိကျွမ်းကျင်သော မှော်ဘီရွှေလှေကြီး ဆရာတော် ဦးရေဝတ၊ ဇီးကုန်းဆရာတော် ဦးအတုလနန္ဒ၊ ကျားကူးဆရာတော် ဦးစက္ကိန္ဒ၊ ထောက်ကြံ့ဆရာတော် ဦးဓမ္မရက္ခိတ၊ ရန်ကုန်သရက်တောဆရာတော် ဦးသာသနဘိဝံသ၊ ဟင်္သာတ ပခန်းဆရာတော် ဦးသြဘာသ စသော ရဟန်းတော်အများအပြား နည်းခံအားထုတ်ခဲ့သည်။

သဲအင်းဂူဆရာတော်သည် ဒုတိယဝါမှစ၍ တရားဟောထွက်ခဲ့ရာ ရခိုင်ပြည်နယ်၊ ရှမ်းပြည်နယ်၊ ကချင်ပြည်နယ်၊ တနင်္သာရီတိုင်း အပါအဝင် နိုင်ငံအနှံ့ တရားပွဲများ ကျင်းပဟောပြောခဲ့သည်။ တရားပွဲများနှင့်အတူ သဲအင်းဂူ ကမ္မဋ္ဌာန်းရိပ်သာများ နိုင်ငံအနှံ့ ပေါ်ထွန်းလာသည်။ ၁၉၇၃ ခုနှစ် ဇွန်လ သံလျင်တရားပွဲအပြီးတွင် ကျန်းမာရေးအခြေအနေအရ သုံးခွ မြို့တရားပွဲ မကျင်းပနိုင်တော့ချေ။ ဇွန်လ ၂၃ ရက်နေ့တွင် ရန်ကုန်ပြည်သူ့ ဆေးရုံကြီး၌ ဆေးကုသမှုခံယူခဲ့သည်။

သက်တော် ၆၀ ရဟန်းသိက္ခာ ၁၂ ဝါအရ ၁၉၇၃ ခုနှစ် ဇူလိုင်လ ၈ ရက်နေ့ ညနေ ၄ နာရီ ၄၅ မိနစ်တွင် ရန်ကုန် ပြည်သူ့ဆေးရုံကြီး၌ ထွက်လေဝင်လေ ချုပ်ငြိမ်း၍ ဘဝဇာတ်သိမ်းခဲ့ပါသည်။



## ကမ္ဘာ့ဗုဒ္ဓသာသနာပြု ဆရာတော် ရှင်ကေလာသ

(၁၉၁၃ — ၁၉၈၉)



မြန်မာရဟန်းတော်များထဲက ဒုတိယကမ္ဘာစစ်မတိုင်မီ ရန်ကုန်တက္ကသိုလ်တက်ရောက်၍ ပထမဆုံး ဘီအေဘွဲ့ရခဲ့သူ။ စစ်ပြီးကာလ ကလကတ္တားတက္ကသိုလ်က ပထမဆုံး မဟာဝိဇ္ဇာဘွဲ့ရခဲ့သူ မြန်မာရဟန်းတော်အဖြစ် မှတ်တမ်းတင်ခံရသည်။ လွတ်လပ်စ မြန်မာပြည်တွင် ရဟန်းတော်များ ဘာသန္တရသင်ကြားရေး၊ ကမ္ဘာသုံး အင်္ဂလိပ်ဘာသာ ကျွမ်းကျင်ရေးအတွက် 'ဗုဒ္ဓသာသနသိပ္ပံ' ကို ဦးဆောင်ဖွင့်လှစ်ခဲ့သည်။ ဗုဒ္ဓသာသနအဖွဲ့က ဦးဆောင်သော ကမ္ဘာအေး 'ဓမ္မဒူတဝိဇ္ဇာလယ' သင်တန်းကျောင်း နာယကအဖြစ်လည်း တာဝန်ယူခဲ့သည်။ ပြင်သစ်အစိုးရ ပညာတော်သင်ဆုဖြင့် ပါရီ ဆော်ဗွန်းတက္ကသိုလ်၌ ဗုဒ္ဓအဘိဓမ္မာကို သုတေသနပြုခဲ့သည်။ ပါရီတွင်ရှိနေစဉ် ရန်ကုန် ဗုဒ္ဓသာသနသိပ္ပံကို အနောက်တိုင်းတက္ကသိုလ်များကဲ့သို့ ဖြစ်လာစေရန် ယူနက်စကိုကို အကူအညီတောင်းခံခဲ့သည်။ ကြိုးပမ်းချက် အထမမြောက်မီ 'ဗုဒ္ဓသာသနသိပ္ပံ' ရပ်ဆိုင်းခဲ့ရသည်။ ထိုစဉ် ကမ္ဘာ့စာရိတ္တမြှင့်တင်ရေးအဖွဲ့နှင့် ဥရောပလိုက်ပါခဲ့ရာ ပြင်သစ်မှ ဆွစ်ဇာလန်အကူး ကားမှောက်ရာ ဦးခေါင်း ဒဏ်ရာရခဲ့သည်။ ပါရီ ဆေးရုံ၌ ၂၁ ရက်လုံးလုံး မေ့မျောခဲ့၍ အသက်ဘေးမှ လွတ်မြောက် ခဲ့သော်လည်း တဖြည်းဖြည်း မှတ်ဉာဏ်ချို့ယွင်း သတိကင်းလွတ်လာရာ ကမ္ဘာ့ဗုဒ္ဓသာသနာပြုလုပ်ငန်းများ ရပ်ဆိုင်းခဲ့ရပါသည်။

## ကေလာသ၊ ရှင်၊ မဟာဝိဇ္ဇာ

၁၉၁၃ ခုနှစ် ဒီဇင်ဘာလ ၃ ရက် တနင်္လာနေ့တွင် ထားဝယ်မြို့ ပိန္နဲတောရပ်၌ ဖွားသည်။ အဖ မူလတန်းကျောင်းအုပ် ရခိုင်တိုင်းရင်းသား ဦးဒိုင်၊ အမိ ထားဝယ်သူ ဒေါ်အေးမေခင် ဖြစ်သည်။ တစ်ဦးတည်းသော သား။ ငယ်မည် မောင်မောင် ဖြစ်သည်။

ငယ်စဉ်က ဖခင်၏ မူလတန်းကျောင်း၌ စတင်ပညာသင်သည်။ ထို့နောက် မန္တလေးမြို့ ကယ်လီဟိုက်စကူးကျောင်း၌ ၉ တန်းအထိ ပညာသင်ခဲ့သည်။ ၉ တန်းတွင် ပညာသင်ကြားနေစဉ် ၁၉၃၀ တောင်သူလယ်သမား ပုန်ကန်မှုတွင် ဆရာစံနှင့်နွယ်၍ ဖခင်ဦးဒိုင် သာယာဝတီထောင်၌ တစ်နှစ်ခန့် ဖမ်းဆီးခံရသည်။ သာယာဝတီမြို့ ရှေ့နေသခင်မြ (အာဇာနည်ခေါင်းဆောင်ကြီး)၏ ဆောင်ရွက်မှုဖြင့် ထောင်မှလွတ်မြောက်ခဲ့သည်။ ၁၉၃၃ ခုနှစ် နိုဝင်ဘာလ ၁ ရက် ဗုဒ္ဓဟူးနေ့တွင် ဖခင်နှင့်အတူ ထားဝယ် ပန္တလဲကျောင်း၌ ရဟန်းပြုသည်။ ဥပဇ္ဈာယ်ဆရာမှာ ထားဝယ် ပန္တလဲကျောင်း ဆရာတော် ရှင်ဉာဏမဥ္ဇူ ဖြစ်သည်။ ရဟန်းဒါယကာမှာ ထားဝယ်မြို့က ဦးပြား ဒေါ်အေး ဖြစ်သည်။ မိခင်ဖြစ်သူမှာ သီလရှင်ဝတ်သည်။ ရဟန်း တစ်ဝါရတွင် ဖခင်ပျံလွန်သည်။ ထို့နောက် သီရိလင်္ကာနိုင်ငံသွား၍ ပညာဆက်လက်ဆည်းပူးသည်။

၁၉၃၇ ခုနှစ်တွင် ကလကတ္တားတက္ကသိုလ်က စစ်ဆေးသော မက်ထရစ်စာမေးပွဲကို လက်တာ ၄ ခုဖြင့် အောင်မြင်သည်။ ကလကတ္တားတက္ကသိုလ်တွင် တိုင်းရင်းဘာသာ ဘင်္ဂါလီ၊ ဟင်ဒီ၊ အူရဒူဘာသာ တစ်ခုခု ယူရန် အခက်အခဲရှိ၍ မြန်မာနိုင်ငံ ပြန်လာသည်။ ၁၉၃၇ ခုနှစ်တွင် ရန်ကုန်တက္ကသိုလ်ကျောင်းအုပ်ကြီး ဦးဖေမောင်တင် (၁၈၈၈—၁၉၇၃) ခွင့်ပြုချက်ဖြင့် ဥပစာတန်း ဝိဇ္ဇာဘာသာရပ်များ သင်ယူခဲ့သည်။ ကျောင်းအုပ်ကြီးက ကျောင်းလခလွတ်နှင့် ထောက်ပံ့ငွေ တစ်လ ၅၀ ကျပ် စီစဉ်ပေးသည်။ ရန်ကုန်တက္ကသိုလ်သမိုင်းတွင် တက္ကသိုလ်ပညာကို ပထမဦးဆုံး သင်ယူသော ဗုဒ္ဓဘာသာ မြန်မာရဟန်းတော်အဖြစ် မှတ်တမ်းဝင်ခဲ့သည်။ ၁၉၄၂ ခုနှစ်တွင် ရန်ကုန်တက္ကသိုလ်မှ ဝိဇ္ဇာဘွဲ့ရသည်။

ဂျပန်ခေတ်တွင် ဂျပန်ဘာသာစကားသင်ယူ၍ ထားဝယ်မြို့

တောင်ငူကျောင်း၌ ဂျပန်ဘာသာစကားသင်တန်း ပြန်လည်ဖွင့်လှစ် ပို့ချသည်။ စစ်ပြီးနောက် အိန္ဒိယအစိုးရ၏ ပညာသင်ဆုဖြင့် အိန္ဒိယနိုင်ငံ ကလကတ္တားတက္ကသိုလ်တွင် ပညာဆက်လက်သင်ယူသည်။ ကလကတ္တား တက္ကသိုလ်မှ မဟာဝိဇ္ဇာဘွဲ့ကို ဗုဒ္ဓအဘိဓမ္မာဖြင့် ရရှိသည်။ စစ်ပြီးခေတ် ကလကတ္တားတက္ကသိုလ်မှ မဟာဝိဇ္ဇာဘွဲ့ကို မြန်မာရဟန်းတော်များထဲက ပထမဆုံး ရခဲ့ခြင်းဖြစ်သည်။ ကလကတ္တားတွင် ပညာသင်နေစဉ် ထားဝယ်မှ တပည့် ရှင်နာဂသေနနှင့် ရဟန်းတော် ၃ ပါးကို ခေါ်ယူ၍ စန္တိနိကေတန် တက္ကသိုလ်၌ ပညာသင်ယူစေသည်။ ကိုယ်တိုင်လည်း စန္တိနိကေတန်တွင် ဗုဒ္ဓဘာသာ သုတေသနကျောင်းတည်၍ သာသနာပြုရန် စီစဉ်သည်။ မြန်မာနိုင်ငံရှိ ဒါယကာ၊ ဒါယိကာမများနှင့် ဆရာတော်ကြီးများ၏ အကြံပြု တိုက်တွန်းချက်အရ မြန်မာပြည်တွင်း၌ ဓမ္မဒူတ သင်တန်းပို့ချရန် ပြန်လာခဲ့သည်။ ပထမဦးစွာ ထားဝယ်မြို့၌ သင်တန်းကျောင်းဖွင့်လှစ်ရန် စီစဉ်သည်။ အခြေအနေမပေး၍ ထားဝယ်မှ ရန်ကုန်မြို့ ပြောင်းရွှေ့ဖွင့်လှစ်ရန် ကြိုးပမ်းသည်။

၁၉၅၁ ခု မေလ ၁၂ ရက်နေ့တွင် သာသနာပြု ဘာသန္တရသင်တန်းကို ရန်ကုန်မြို့ သရက်တောကျောင်းတိုက် မင်းကျောင်းသစ်၌ စတင်ဖွင့်လှစ်သည်။ သံဃာ့ဩဝါဒါစရိယကောင်စီ အကျိုးတော်ဆောင် ဦးဝိမလက ဦးဆောင်သည်။ ၂ လခန့်အကြာ သင်တန်းကို 'ဗုဒ္ဓသာသနသိပ္ပံ' ဟု အမည်ပြောင်း၍ ရှင်ကေလာသ (မဟာဝိဇ္ဇာ) ကိုယ်တိုင်ကျောင်းအုပ် အဖြစ် တာဝန်ယူဆောင်ရွက်သည်။ ဗုဒ္ဓသာသနသိပ္ပံကို စနစ်တကျ အကောင်အထည်ဖော်နိုင်ရန် အမှုဆောင် ကော်မတီလူကြီး ၂၀ ဖြင့် ဖွဲ့စည်းခဲ့သည်။ ကော်မတီတွင် ဟသ်ာတ ဦးမြ (ဥက္ကဋ္ဌ)၊ သရေစည်သူ ဦးလှကျော် (ဒုတိယဥက္ကဋ္ဌ)၊ ကမ္ဘာအေး ဦးမောင်ကို (အကျိုးတော်ဆောင်)၊ အမှုဆောင်အဖွဲ့ဝင်အဖြစ် ချုပ်သင်းသူဌေး ဦးဘတင်၊ ရွှေပေါက်ပင် ဦးဘသိန်း၊ ရွှေတိဂုံဘဏ္ဍာတော်ထိန်း ဦးဘသော်၊ ရဲမင်းကြီး ဦးထွန်း လှအောင်၊ ပါဠိပါမောက္ခ ဦးအောင်သန်း၊ ဖီလိုဆိုဖီကထိက ဦးဖေအောင်၊ ရာဇဝင်ကထိက ဒေါ်မြစိန်၊ ယောဂီ ဦးတင်၊ အမျိုးသား ရာဘာကုမ္ပဏီ ပိုင်ရှင် ဦးချန်ဟုတ်တို့ ပါဝင်သည်။ သင်ကြားရေးအတွက် ဦးဝိမလ (နာယက)၊ ရှင်ကေလာသ (မဟာဝိဇ္ဇာ၊ ကျောင်းအုပ်)၊ ရှင်နာဂသေန

(ဒုတိယကျောင်းအုပ်)၊ ရှင်ခေမာဝံသ (အကျိုးဆောင်)၊ ရှင်ယောသိတ (ကောလင်း၊ တွဲဖက်အကျိုးတော်)၊ သံဃာ့ကထိက။ လူပုဂ္ဂိုလ် သင်ကြားရေးအနေဖြင့် ဦးစိုးလှိုင် (ဘီအေ)၊ ဦးတင်ဦး (ဘီအေ၊ ဘီအယ်လ်)၊ ဦးမြသောင်း (ဘီအေ)၊ ဦးအောင်သန်း (ဘီအေ)၊ ဆရာအေးတို့ တာဝန်ယူခဲ့သည်။ ထို့ပြင် ပညာရေးအကြံပေး၊ ဘဏ္ဍာရေးအဖွဲ့များဖြင့် စနစ်တကျ စီမံ ဆောင်ရွက်သည်။

ဗုဒ္ဓသာသနအဖွဲ့ကြီးက ကမ္ဘာအေး၌ "ဓမ္မဒူတဝိဇ္ဇာလယသင်တန်း" ဖွင့်လှစ်ရာ ရှင်ကေလာသသည် မဟာနာယကအဖြစ် တာဝန်ယူသည်။ "ဗုဒ္ဓသာသနသိပ္ပံ"ကိုလည်း ကမ္ဘာအေး တံတားလေးအနီး စွယ်စုံကျောင်းတိုက်အတွင်း ပြောင်းရွှေ့ဖွင့်လှစ်သည်။ ထိုင်း၊ ကမ္ဘောဒီးယား၊ ဗီယက်နမ် နိုင်ငံများကို သာသနာပြု သွားရောက်၍ အပြန်တွင် ထိုနိုင်ငံများမှ ရဟန်းတော်နှင့် သီလရှင်များ သင်တန်းသားအဖြစ် လိုက်ပါလာကြသည်။ ရဟန်းတော်များကို ဗုဒ္ဓသာသနသိပ္ပံတွင် နေထိုင်ခွင့်ပေး၍ သီလရှင်များကို ဒေါ်ဉာဏစာရီ၏ သီလရှင်ကျောင်းတိုက် ပို့ဆောင်သည်။ ရှင်ကေလာသ ကိုယ်တိုင် ပြင်သစ်အစိုးရ၏ ပညာသင်အထောက်အပံ့ဖြင့် ဗုဒ္ဓအဘိဓမ္မာကို ပြင်သစ်ဘာသာဖြင့်ပြုစုရန် ပါရီ ဆော်ဗွန်းတက္ကသိုလ် သွားရောက်ခဲ့သည်။ ပါရီတွင် သီတင်းသုံးနေစဉ် ဗုဒ္ဓသာသနာ့သိပ္ပံကို အပြည်ပြည်ဆိုင်ရာ တက္ကသိုလ်အဆင့်မြှင့်တင်ရန် ကြိုးပမ်းဆောင်ရွက်သည်။ ကုလသမဂ္ဂ ယူနက်စကို အထောက်အပံ့ အကူအညီများရရန် ကြိုးပမ်းဆောင်ရွက်သည်။ ထိုသို့ဆောင်ရွက်နေစဉ် ဗုဒ္ဓသာသနသိပ္ပံတွင် စွယ်စုံကျောင်းတိုက် တောထွက်ဘုန်းကြီး ဦးစန္ဒိမာနှင့် လူပုဂ္ဂိုလ်အချို့၏ နှောင့်ယှက်မှုများနှင့် ကြုံတွေ့ရသည်။ နောက်ဆုံးတွင် ဗုဒ္ဓသာသနသိပ္ပံကို ဆက်လက်ဖွင့်ရန်ပင် အခက်အခဲဖြစ်လာသည်။ နေရာအစားရှာဖွေရာ ချက်ချင်း မရ၍ ဗုဒ္ဓသာသနသိပ္ပံ ရပ်ဆိုင်းခဲ့ရသည်။

ဗုဒ္ဓသာသနသိပ္ပံ ရပ်ဆိုင်းသွားစဉ် အမ်အာရ်အေအဖွဲ့နှင့် ကမ္ဘာအရပ်ရပ် လိုက်ပါ၍ ဗုဒ္ဓသာသနာပြုလုပ်ငန်းများ လှေ့လာသည်။ ထိုသို့ လိုက်ပါစဉ် ပြင်သစ်မှ ဆွစ်ဇာလန်အကူး တောင်တက်လမ်း၌ ကားမှောက်ရာ ဦးခေါင်းတွင် ပြင်းစွာ ဒဏ်ရာရသည်။ ပါရီဆေးရုံတွင် ၂၁ ရက်လုံးလုံး မေ့မျောနေခဲ့သည်။ ဆရာဝန်များ၏ ကြိုးပမ်းမှုဖြင့် အသက်ဘေးမှ

ကင်းလွတ်ခဲ့သော်လည်း ဦးခေါင်းဒဏ်ရာကြောင့် တဖြည်းဖြည်း မှတ်ဉာဏ် ချို့ယွင်းလာသည်။ ရံဖန်ရံခါ သတိကင်းလွတ်၍ အများနှင့်ဆက်ဆံရာတွင် အဆင်မပြေတော့ချေ။ သာသနာပြု ဓမ္မဒူတလုပ်ငန်းများ ရပ်ဆိုင်းခဲ့ရသည်။

ဖွဲ့လုံ့လကြီးမား၍ သာသနာစိတ် ထက်သန်လှသော ရှင်ကေလာသ (မဟာဝိဇ္ဇာ) သည် သက်တော် ၇၆ သိက္ခာ ၅၇ ဝါအရ ရန်ကုန်မြို့ မြောက်ဥက္ကလာပ ရန်အောင်တိုက် အောင်သာဝတီတိုက်၌ ၁၉၈၉ ခုနှစ် ဒီဇင်ဘာလ ၂၉ ရက်နေ့တွင် တစ်ဘဝ ချုပ်ငြိမ်းခဲ့ရပါသည်။





# မြောင်းမြ ပဋ္ဌာနတာရုံဆရာတော် ရှင်ဉာဏိက

(၁၉၁၈ — ၁၉၉၇)

မြောင်းမြ ပဋ္ဌာနတာရုံဆရာတော်၊ အင်္ဂလန်နိုင်ငံ ဝိုလ်ဗာဟင်ပ်တန်မြို့ တိသရဏစင်တာဆရာတော် အမည်နှစ်ရပ်ဖြင့် ထင်ရှားသည်။ ဒသမ ရွှေကျင်သာသနာပိုင် မြောင်းမြဆရာတော်၏ ညာလက်ရုံးတပည့်ရင်း တစ်ပါးဖြစ်၍ သာမဏေဘဝကပင် အစိုးရပထမပြန် ငယ်၊ လတ်၊ ကြီး စာမေးပွဲနှင့် ရဟန်း ၄ ဝါရတွင် ဓမ္မာစရိယစာချတန်း အောင်ခဲ့သည်။ ပါဠိနိကာယ်ကြီးများကို ပခုက္ကူနှင့် ညောင်ဦး မဟာဝိသုတာရာမ ဆရာတော်များထံ သင်ယူ၍ အိန္ဒိယနိုင်ငံ ဗာရာဏသီ ဆန်းစခရစ် တက္ကသိုလ်၊ နယူးဒေလီတက္ကသိုလ်တို့မှ သက္ကတ ဒီပလိုမာနှင့် ဘီအေဘွဲ့ ရသည်။ ပါဠိ၊ သက္ကတ၊ ဟိန္ဒီ၊ အင်္ဂလိပ် ကျွမ်းကျင်နှံ့စပ်သည်။ မြောင်းမြ ပဋ္ဌာနတာရုံတိုက်နာယကအဖြစ် စာပေပို့ချနေစဉ် လန်ဒန်ပါဠိစာပေ အသင်း ရာပြည့်အထိမ်းအမှတ် ပါဠိ အဋ္ဌကထာ အင်္ဂလိပ်ဘာသာပြန်ဆိုရေး ကော်မတီ (၁၉၇၇) ဝင်အဖြစ် မဇ္ဈိမနိကာယ်အဋ္ဌကထာ (ပပဉ္စသူဒနီ)ကို ဘာသာပြန်ဆိုသည်။ ၁၉၈၂ ခုနှစ်တွင် လူသေလူဖြစ် ဝိနိစ္ဆယ ဝိနည်းမှုရုံး အဖြစ် ဆောင်ရွက်သည်။ ထိုနှစ်မှာပင် မဇ္ဈိမပဏ္ဏာသအဋ္ဌကထာ အင်္ဂလိပ် ဘာသာ ပြန်ဆိုရေးအတွက် အင်္ဂလန်ကို ကြွရောက်သည်။ အင်္ဂလန်တွင် အင်္ဂလိပ်ဘာသာဖြင့် ကျမ်းပြုခြင်း၊ ဓမ္မပဒ, ယမိုက် ပဋ္ဌာန်းသင်တန်းများ ဖွင့်လှစ်သင်ကြားခြင်း၊ ကမ္မဋ္ဌာန်းတရားပြသခြင်း၊ တရားဟောပြောခြင်း ဖြင့် ကမ္ဘာ့ဗုဒ္ဓသာသနာပြု ဆရာတော်အဖြစ် ထင်ရှားပါသည်။

## ဉာဏိက၊ ရှင်၊ မြောင်းမြ ပဋ္ဌောတာရုံဆရာတော် —

၁၉၁၈ ခုနှစ် စက်တင်ဘာလ ၁၈ ရက် အင်္ဂါနေ့တွင် ဧရာဝတီတိုင်း ပုသိမ်အရှေ့မြို့နယ် ဒါးကဘူတာအနီး ဘုရားကြီးကုန်းရွာ၌ ဖွားသည်။ အဖ ဦးဘိုးထင်၊ အမိ ဒေါ်စိန် ဖြစ်သည်။ မိဘများမှာ လယ်သမားမျိုးရိုး။ အမည် မောင်ဘိုးညွက် ဖြစ်သည်။

၅ နှစ်အရွယ်တွင် ဘုရားကြီးကုန်း ရွာကျောင်း၌ စတင် ပညာသင် သည်။ ၇ နှစ်တွင် မြောင်းမြမြို့နယ် ကွမ်းခြံကြီးကျေးရွာ အထက်ကျောင်း ဦးရိုးတော် ရှင်ခေမိန္ဒထံ ပြောင်းရွှေ့၍ ပရိတ်ကြီး၊ လောကနီတိ၊ ပါဠိသဒ္ဒါ၊ သင်္ဂြိုဟ်၊ မူလတန်း ဂဏန်းသင်္ချာ၊ အင်္ဂလိပ်စာများ သင်ယူသည်။ ၈ နှစ် တွင် ဦးရိုးတော် ရှင်ခေမိန္ဒကို ဥပဇ္ဈာယ်ပြု သာမဏေဖြစ်သည်။ ဘွဲ့ ရှင်ဉာဏိက။ မိဘနှစ်ပါးနှင့် ကွမ်းခြံကြီးကျေးရွာ ကျောင်းဒါယကာ ဦးထွန်းတင်၊ ဒေါ်စံတို့က ရှင်ဒါယကာခံသည်။ သာမဏေဝတ်ဖြင့် ဦးရိုးတော်ထံ သဒ္ဒါ၊ သင်္ဂဟ၊ ဇာတ်အဋ္ဌကထာများ သင်ယူသည်။ ကစ္စည်းသဒ္ဒါကြီးကို သုတ်ပြီး ရုပ်ပြီး နားလည်ခဲ့သည်။

သာမဏေ ၆ ဝါရတွင် ပုသိမ်မြို့ ဝေဠုဝန်တိုက်ဆရာတော် ရှင်နန္ဒိယ ထံ ပြောင်းရွှေ့ ပညာသင်ရာ ၁၉၃၂ ခုနှစ်တွင် အစိုးရပထမပြန် ပထမ ငယ်တန်း အောင်သည်။ ဉာဏ်ထက်မြက်ရုံမျှမက စာပေဝါသနာပါ၊ လိမ္မာ လှသော ကိုရင်အဖြစ် ထင်ရှားသည်။ ၁၉၃၃ ခုနှစ် ပထမလတ်တန်း ဖြေဆိုရာ စာမေးပွဲကျရှုံး၍ မြောင်းမြမြို့ ပဋ္ဌောတာရုံတိုက် ပြောင်းရွှေ့ ပညာသင်သည်။ မြောင်းမြဆရာတော် (နောင် ဒသမရွှေကျင်သာသနာပိုင် ရှင်ဉာနာဘိဝံသ) ထံ သင်ယူစဉ် သာမဏေဝတ်ဖြင့် ၁၉၃၅ ခုနှစ်တွင် ပထမလတ်တန်း၊ ၁၉၃၆ ခုနှစ်တွင် ပထမကြီးတန်း စာမေးပွဲများ အောင် သည်။ တစ်နိုင်ငံလုံးတွင် ပထမကြီးတန်းအောင်မြင်သူ ၃၇ ပါးသာရှိ၍ အဆင့် ၁၃ မှ အောင်မြင်သည်။ ပထမကြီးအောင်ပြီး မြောင်းမြဆရာတော်ထံ ဟိန္ဒီနှင့် အင်္ဂလိပ်ဘာသာ ဆက်လက်လေ့လာခွင့်ရသည်။

၁၉၃၇ ခုနှစ် နိုဝင်ဘာလ ၁၂ ရက် သောကြာနေ့တွင် မြောင်းမြ ဆရာတော်ကို ဥပဇ္ဈာယ်ယူ၍ ရဟန်းဖြစ်သည်။ ဘွဲ့ ရှင်ဉာဏိက။ ရဟန်း ဒါယကာမှာ ကွမ်းခြံကြီးကျေးရွာ ရှင်ဒါယကာ ဦးထွန်းတင်၊ ဒေါ်စံ

ဖြစ်သည်။ ရဟန်းဖြစ်ပြီး မြောင်းမြဆရာတော်ထံမှာပင် အဋ္ဌသာလိနီ၊ သမ္မောဟဝိနောဒနီ၊ အဘိဓမ္မာ ပါဠိတော် အဋ္ဌကထာ၊ ပါရာဇိကပါဠိတ် ပါဠိတော် အဋ္ဌကထာ၊ သုတ်မဟာဝါ အဋ္ဌကထာများကို ဆက်လက်သင်ယူသည်။ ပိဋကတ်အပြင် ပါဠိစာပေ အရေးအသား၊ အဟောအပြော စွယ်စုံကျွမ်းကျင်သည်။ အင်္ဂလိပ်စာကို ရန်ကုန်မြို့ ရှင်အာဒိစ္စဝံသ ကျောင်းတိုက်၌ ဆက်လက် ဆည်းပူးသည်။ ၁၉၄၁ ခုနှစ် အစိုးရ ဓမ္မာ စရိယစာချတန်း အောင်၍ သာသနဓဇ သီရိပဝရ ဓမ္မာစရိယဘွဲ့ရသည်။

၁၉၄၁-၄၂ တွင် မြောင်းမြဆရာတော်၏ လမ်းညွှန်မှုဖြင့် ပခုက္ကူ မဟာဝိသုတာရာမတိုက်ဆရာတော် ရှင်ပညာ (၁၈၇၈—၁၉၄၆) ထံ နိကာယ်ကြီးများ သင်ယူသည်။ အဘိဓမ္မာအရာတွင် ခက်ခဲလှသော မူလဋီကာကို ဦးစားပေးသင်ယူသည်။ ၁၉၄၂ တွင် ဒုတိယကမ္ဘာစစ် ကူးစက်လာ၍ မြောင်းမြဆရာတော်ထံပြန်၍ ဝါဆိုသည်။ ဝါကျွတ်လျှင် မြောင်းမြဆရာ တော် ခွင့်ပြုချက်ဖြင့် ညောင်တုန်းမြို့ သာသနဇောတိပါလကျောင်း ညောင်ဦးဆရာတော် ရှင်နန္ဒဝံသ (၁၈၈၂—၁၉၅၇) ထံ နိကာယ်ကြီးများ သင်ယူသည်။ ညောင်ဦးဆရာတော်မှာ ပခုက္ကူ မဟာဝိသုတာရာမ စာချ ဖြစ်၍ ပခုက္ကူ ညောင်ဦး၊ ညောင်တုန်းဆရာတော်ဟု အမည်သုံးမျိုးဖြင့် ထင်ရှားသည်။ စစ်အတွင်း ညောင်တုန်းဆရာတော်ထံ ပိဋကတ်တော်များ၊ အထူးအားဖြင့် မူလဋီကာ၊ အဋ္ဌသာလိနီ အဋ္ဌကထာများကို ဆိုဝါဖြင့် သင်ယူ၍ တစ်ဖက်တွင်လည်း ပြန်လည် စာပေပို့ချသည်။ ဟိန္ဒီနှင့် အင်္ဂလိပ် ဘာသာကိုလည်း ဆက်လက်လေ့လာသည်။ ၁၉၄၆ တွင် ညောင်တုန်း ဆရာတော် ပခုက္ကူ မဟာဝိသုတာရာမ ပြန်ကြွရာ ရှင်ဉာဏိကလည်း မြောင်းမြပဋ္ဌောတာရုံပြန်ပြီး တိုက်အုပ် ပဓာနစာချအဖြစ် တာဝန်ယူခဲ့သည်။

၁၉၄၉ ခုနှစ်တွင် မြောင်းမြဆရာတော်သည် ဂိုဏ်းတာဝန်အရ မန္တလေး မဟာဝိသုဒ္ဓါရာမတိုက်သစ် (ရွှေကျင်ဗဟိုဌာန) ပြောင်းရွှေ့ သီတင်းသုံးရာ ရှင်ဉာဏိကသည် မြောင်းမြ ပဋ္ဌောတာရုံတိုက်၏ ပဓာန နာယကအဖြစ် တာဝန်ယူခဲ့ရသည်။ ၁၉၅၂ ခုနှစ် ပဋ္ဌောတာရုံ ပါဠိ တက္ကသိုလ်ကျောင်းအုပ်အဖြစ် တာဝန်ယူ၍ စာချ ရှင်ပညာဇောတ (နောင် ပဲခူးသာသနာ့မဏ္ဍိုင်ဆရာတော်) က ကျောင်းတိုက်ကိုယ်စားလှယ် ဆောင် ရွက်ကာ မူလတန်းမှ စာချတန်းအထိ တစ်နေ့ စာဝါ ၈ ဝါ ပို့ချခဲ့သည်။

၁၉၅၈ ခုနှစ်တွင် မြောင်းမြဆရာတော် ခွင့်ပြုချက်ဖြင့် ဘာသန္တရ သင်ရန် အိန္ဒိယနိုင်ငံ သွားရောက်သည်။ ၁၉၅၈-၆၀ တွင် ဗာရာဏသီဆန်း ခရစ်တက္ကသိုလ် ၂ နှစ် ဒီပလိုမာသင်တန်း၊ ၁၉၆၀-၆၃ တွင် နယူးဒေလီ တက္ကသိုလ် ဟန်ဆရာ့(ဂ်)ကောလိပ်၌ အင်္ဂလိပ်စာပေ၊ အိန္ဒိယဒဿန၊ ရှေးဟောင်းအိန္ဒိယသမိုင်း၊ အနောက်တိုင်း ဒဿနဘာသာတွဲများဖြင့် ဝိဇ္ဇာဘွဲ့ (ဂုဏ်ထူး) ရခဲ့သည်။ ၁၉၆၃ ခုနှစ်မှစ၍ မြောင်းမြပဌာနတာရုံ တိုက် နာယကအဖြစ် ပရိယတ္တိစာပေနှင့် ဘာသန္တရ ပို့ချသည်။ ၁၉၇၅ ခုနှစ်တွင် ထားဝယ်မြို့ မူလယဉ်ငေးရိပ်သာ၌ တပည့်ဖြစ်သူ ရှင်ကဥ္စနိယ ၏ ကူညီမှုဖြင့် တစ်နေ့ နာရီ ၂၀ သုံးလခန့် ဝိပဿနာ ရှုမှတ်ခဲ့သည်။

မြောင်းမြ ပဌာနတာရုံ နာယကအဖြစ် စာပေပို့ချနေစဉ် ၁၉၇၇ ခုနှစ် ဇန်နဝါရီ ၁၆ ရက်နေ့တွင် လန်ဒန်ပါဠိစာပေအသင်း ရာပြည့်အထိမ်း အမှတ် ပါဠိ အဋ္ဌကထာ ဘာသာပြန်ဆိုရေးကော်မတီအဖွဲ့ဝင်အဖြစ် မဇ္ဈိမနိကာယ် အဋ္ဌကထာ (ပပဉ္စသူဒနီ) အင်္ဂလိပ်ဘာသာပြန်ဆိုပေးရန် တာဝန်ယူခဲ့သည်။ ကော်မတီဥက္ကဋ္ဌမှာ ကမ္ဘာ့ဗုဒ္ဓသာသနာပြု ရှင်သေဋ္ဌိလ ဖြစ်သည်။ ၁၉၈၀ ပြည့်နှစ် ပထမအကြိမ် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် ဆရာတော် အဖြစ် ရွေးချယ်ခံရပြီး ၁၉၈၂ ခုနှစ်တွင် လူသေလူဖြစ် ဝိနိစ္ဆယ ဝိနည်းမိုရ်အဖြစ် တာဝန်ပေးအပ်ခံရ၍ လူသေလူဖြစ် ဝိနိစ္ဆယကျမ်း ထွက်ပေါ်လာသည်။ လူသေလူဖြစ် ဝိနိစ္ဆယအဖွဲ့ဝင် ၅ ပါးတွင် ဘာသန္တရ ဆေဒကဖြစ်သော ရှင်ဉာဏိက သည် အဓိက ဦးဆောင်ဆုံးဖြတ်ခဲ့ရသည်။

၁၉၈၂ ခုနှစ်တွင် အင်္ဂလိပ်ဘာသာပြန်ဆိုရန် ကျန်ရှိနေသေးသော မဇ္ဈိမပဏ္ဏာသ အဋ္ဌကထာ ၃ ကျမ်း ဘာသာပြန်ဆိုရေးအတွက် အင်္ဂလန် ကြွရောက်သည်။ လန်ဒန်မြို့တွင် ခေတ္တသီတင်းသုံးနေသော ဆရာတော် ရှင်သေဋ္ဌိလ (၁၈၉၆-၁၉၉၇) ၏ လမ်းညွှန်မှုဖြင့် ရှင်ဉာဏိဿရ (သီတဂူ ဆရာတော်)နှင့်အတူ အင်္ဂလိပ်စကားပြောသင်တန်း တက်ရောက်သည်။ လန်ဒန်မြန်မာကျောင်း၊ ဘာမင်ဂန်မြို့ ဗုဒ္ဓဝိဟာရတို့တွင် အပတ်စဉ် တရား ဟောပြောခြင်း၊ ဓမ္မပဒသင်တန်း၊ အဘိဓမ္မာသင်တန်းပို့ချခြင်း၊ အိန္ဒိယ အော့ဖစ်လိုက်ဘရီနှင့် ဗြိတိသျှလိုက်ဘရီတို့တွင် စာပေကြည့်ရှုလေ့လာခြင်း၊ မန်ချက်စတာတက္ကသိုလ်နှင့် သမထစင်တာတို့၌ အဘိဓမ္မာပို့ချခြင်း၊ အထူး သဖြင့် ယမိုက်ပဋ္ဌာန်းပို့ချခြင်း၊ မဇ္ဈိမနိကာယ်ကို အင်္ဂလိပ်ဘာသာပြန်ဆို

ခြင်းတို့ ဆောင်ရွက်သည်။ နောက်ပိုင်းတွင် ဝိုလ်ဗာဟင်ပ်တန်မြို့ တိသရဏ စင်တာ၌ သီတင်းသုံး၍ ဥရောပနိုင်ငံများ၊ ဩစတြေးလျနှင့် အမေရိက သို့တိုင် လှည့်လည်၍ သာသနာပြုခဲ့သည်။ အင်္ဂလိပ်ဘာသာဖြင့် မဇ္ဈိမ ပဏ္ဏာသအဋ္ဌကထာ ဘာသာပြန်အပြင် (1) The Introduction of Buddhism into Myanmar. (2) How the Abhidhamma Teaching Contributes to the Practical Meditation. (3) A History of the Minor Pali Grammar in Myanmar. စာအုပ်သုံးအုပ် ရေးသားခဲ့သည်။ အင်္ဂလိပ်-မြန်မာ နှစ်ဘာသာဖြင့် ဒုလ္လဘသာသနာ၊ မြန်မာဘာသာဖြင့် အရှင်သေဋ္ဌိလ၏ ဘဝဖြစ်စဉ်နှင့် ဗုဒ္ဓသာသနာပြုမှတ်တမ်း (၁၉၈၃)၊ လူသေလူဖြစ် ဝိနိစ္ဆယ (၁၉၈၂) တို့ ပြုစုခဲ့သည်။

၁၉၉၁ ခုနှစ် ဇန်နဝါရီလ ၄ ရက်နေ့တွင် နိုင်ငံတော်အစိုးရ၏ အဂ္ဂမဟာပဏ္ဍိတဘွဲ့ ဆက်ကပ်ခံရသည်။

၁၉၉၇ ခုနှစ် ဇွန်လ ၈ ရက် တနင်္ဂနွေနေ့ ညနေ ၄ နာရီ ၅၉ မိနစ်တွင် အင်္ဂလန်နိုင်ငံ လန်ဒန်မြို့၌ မြောင်းမြ ပဋ္ဌာနတာရုံတိုက်၊ အင်္ဂလန် နိုင်ငံ ဝိုလ်ဗာဟင်ပ်တန်မြို့ တိသရဏစင်တာကျောင်းတိုက်၊ ဩစတြေးလျ နိုင်ငံ ပါ့သ်မြို့ တိသရဏစင်တာကျောင်းတိုက်များ၏ ဦးစီးနာယက ကမ္ဘာ့ ဗုဒ္ဓသာသနာပြုဆရာတော် ရှင်ဉာဏိကသည် တစ်ဘဝ တစ်ခန္ဓာ ချုပ်ငြိမ်း ခဲ့ပါသည်။





# ပြည် တိပိဋကဆရာတော်
# ရှင်ကောသလ္လ
(၁၉၂၇ — ၁၉၉၅)

မြန်မာနိုင်ငံသာသနာ၀င်တွင် တတိယ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ပြည်ဆရာတော်၊ ရန်ကုန် ပဥ္စနိကာယ သာသနဗိမာန်ဆရာတော် အမည်နှစ်ရပ်ဖြင့် ထင်ရှားသည်။ ဝေဠုဝန်နိကာယ၊ ပြည် ပွင့်လှသိမ်ကုန်း တတိယဆရာတော်၏ ညာလက်ရုံး တပည့်ကြီးဖြစ်သည်။ ရဟန်း ၆ ဝါရ၌ အစိုးရ ဓမ္မာစရိယစာချတန်းကို တစ်နိုင်ငံလုံး ဒုတိယအဆင့်ဖြင့် အောင်မြင်ပြီးနောက် ရန်ကုန် ခြောက်ထပ်ကြီးဘုရားကြီးတိုက်၊ ညောင်တုန်းတိုက်၊ မန္တလေးဘုရားကြီးတိုက်၊ စကုတိုက်၊ မိုးကောင်းတိုက်၊ ပခုက္ကူ မဟာဝိသုတာရာမတိုက်တို့၌ ပိဋကတ်စာပေများ ဆက်လက်သင်ယူသည်။ ပခုက္ကူ ခန်တောရပ်ရိပ်သာ ဆရာတော်ထံ ပဋိပတ္တိ သုံးလ နည်းနာခံယူပြီး မိခင်တိုက်ပြန်၍ တိုက်အုပ် တာဝန်ယူဆောင်ရွက်သည်။ ဆဋ္ဌသင်္ဂါယနာတွင် ပါဠိဝိသောဓကအဖြစ် ပါဝင်ခဲ့သည်။ ဒုတိယ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ပခုက္ကူ ရှင်နေမိန္ဒ၏ တိုက်တွန်းမှုဖြင့် တိပိဋကစာမေးပွဲ ဝင်ဖြေရာ သက်တော် ၃၆ သိက္ခာ ၁၇ ဝါရတွင် တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိကဘွဲ့ ဆက်ကပ်ခံရသည်။ သိက္ခာ ၂၈ ဝါရတွင် မစိုးရိမ်ဆရာတော်၏ တာဝန်ပေးချက်အရ နိကာယ် သာသနာပြန့်ပွားရေးအတွက် ရန်ကုန် ပဥ္စနိကာယ သာသနဗိမာန်ကျောင်းတိုက်တည်၍ သာသနာပြုခဲ့ရာ ခန္ဓာဝန်ချသည့်တိုင်ဖြစ်သည်။

ကောသလ္လ၊ ရှင်၊ ပြည် တိပိဋကဆရာတော် —

၁၉၂၇ ခုနှစ် စက်တင်ဘာလ ၅ ရက် တနင်္လာနေ့တွင် ပဲခူးတိုင်း ပြည်မြို့နယ် ဝက်ထီးကန်တိုက်နယ် ဝါးရုံဆိပ်ရွာ၌ ဖွားသည်။ အဖ ဦးဘိုးရင်၊ အမိ ဒေါ်ဒေါင်းစိန် ဖြစ်သည်။ မွေးချင်း သုံးဦးတွင် အကြီးဆုံး။ အမည်ရင်း မောင်ကျော်စိန် ဖြစ်သည်။

ဆရာဦးထွန်းကြိုင်၊ ဆရာဦးစန်းဝင်းတို့၏ မြန်မာစာသင်ကျောင်းတွင် သတ္တမတန်းအထိ ပညာသင်ခဲ့သည်။ ၁၉၄၁ ခု မတ်လ ၁၁ ရက် အင်္ဂါနေ့ အသက် ၁၃ နှစ်တွင် ဝါးရုံဆိပ်ရွာကျောင်းဆရာတော် ရှင်ကုန္ဒာစက္ကကို ဥပဇ္ဈာယ်ပြု သာမဏေဖြစ်သည်။ မိဘနှစ်ပါးက ရှင်ဒါယကာခံသည်။ သာမဏေဘွဲ့ ရှင်ကောသလ္လ ဖြစ်သည်။ သာမဏေဝတ်ဖြင့် ဥပဇ္ဈာယ် ဆရာထံ ပိဋကတ်အခြေပြုကျမ်းစာများ သင်ယူသည်။

၁၉၄၆ ခု အသက် ၁၉ နှစ်တွင် ပြည် ပွင့်လှသိမ်ကုန်းတိုက် ပြောင်းရွှေ့ ပညာသင်သည်။ ပွင့်လှသိမ်ကုန်းကျောင်းတိုက်သည် အဘိဓမ္မာအရာ တွင် အလွန်ထင်ရှားသည်။ ပထမ ပွင့်လှသိမ်ကုန်းဆရာတော် ရှင်နာရဒ (၁၈၃၂—၁၉၀၂) ဒုတိယမြို့ပြင်ကြီးဆရာတော် ရှင်စန္ဒဝံသ (၁၈၂၇—၁၉၀၁) တို့မှာ အဘိဓမ္မာအရာတွင် ထင်ရှားကျော်ဇောသည်။

၁၉၄၇ ခု မတ်လ ၆ ရက် ကြာသပတေးနေ့တွင် ပြည်မြို့ ပွင့်လှ သိမ်ကုန်းကျောင်းတိုက် ရဟန္တာသိမ်၌ ရဟန်းဖြစ်သည်။ ဝါးရုံဆိပ်ရွာကျောင်း ဒါယကာ ဦးချစ်စု ကျောင်းအမ ဒေါ်မယ်တင်တို့က ရဟန်းဒါယကာ ခံယူ သည်။ တတိယ ပွင့်လှသိမ်ကုန်းဆရာတော် ရှင်တိက္ခ (၁၈၈၃—၁၉၈၀)က ဥပဇ္ဈာယ်ဆရာပြုသည်။ ဘွဲ့ ရှင်ကောသလ္လ ဖြစ်သည်။ ရှင်တိက္ခမှာ နောင် အခါ ပဥ္စမမြောက် ဝေဠုဝန်နိကာယ အဓိပတိအဖြစ် တင်မြှောက်ခံရသည်။

ရှင်ကောသလ္လသည် ပွင့်လှသိမ်ကုန်းတိုက်၌ ပရိယတ္တိစာပေ ဆက် လက်သင်ယူရာ ၁၉၄၇ ခုတွင် အစိုးရပထမငယ်၊ ၁၉၄၈ ခုတွင် ပထမလတ်၊ ၁၉၅၀ ပြည့်နှစ်တွင် ပထမကြီးစာမေးပွဲများ အောင်မြင်သည်။ ရဟန်း ၅ ဝါရ ၁၉၅၂ ခုတွင် အစိုးရ ဓမ္မာစရိယစာချတန်းကို ကျမ်းရင်းသုံးကျမ်း၊ ဂုဏ်ထူး ခြောက်ကျမ်း အောင်မြင်၍ တစ်နိုင်ငံလုံးတွင် ဒုတိယရကာ "သာသနဓဇ သီရိပဝရ" ဓမ္မာစရိယ ဘွဲ့ရသည်။ စာမေးပွဲကိစ္စများ ပြီးဆုံး

ပြီးနောက် ပိဋကတ်ဆိုင်ရာ အထက်တန်းစာပေများကို ရန်ကုန် ခြောက်ထပ်ကြီး ဘုရားကြီးတိုက်၊ ညောင်တုန်းတိုက်၊ မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးတိုက်၊ မိုးကောင်းတိုက်၊ စကုတိုက်တို့တွင် သင်ယူ၍ ပခုက္ကူ ခန်တောရပ် ဦးဇောတိက ထံ ပဋ္ဌိပတ္တိကို ၃ လခန့် ကျင့်ကြံအားထုတ်သည်။ ထို့နောက် မိခင်တိုက် ပြည် ပွင့်လှသိမ်ကုန်းပြန်၍ တိုက်တာအုပ်ချုပ်ရေး၊ စာပေ ပို့ချရေး စာချတာဝန်များ ထမ်းဆောင်သည်။ အထူးအားဖြင့် ပွင့်လှသိမ်ကုန်းတိုက်အုပ်အဖြစ် ဥပဇ္ဈာယ်ဆရာတော်၏ တာဝန်များကို ခွဲဝေထမ်းဆောင်ရသည်။ ၁၉၅၄ ခု ဆဋ္ဌသင်္ဂါယနာပွဲသဘင်တွင် ပါဠိ ဝိသောဓေက အဖွဲ့ဝင်အဖြစ် တာဝန်ယူဆောင်ရွက်သည်။

၁၉၅၅ ခု ၇ ကြိမ်မြောက် တိပိဋကဓရ ရွေးချယ်ပွဲ၌ ဝိနယပိဋက အာဂုံနှင့် ရေးဖြေ စာမေးပွဲနှစ်ရပ်လုံး၌ ဂုဏ်ထူးများဖြင့် အောင်မြင်သော ပိဋက တစ်ပုံအောင် ပခုက္ကူ အရှင်နေမိန္ဒ၏ တိုက်တွန်းမှုဖြင့် ၁၉၅၆ ခု ၈ ကြိမ်မြောက် တိပိဋကဓရ စာမေးပွဲ ဝင်ရောက်ဖြေဆိုသည်။ စာမေးပွဲ ဖြေစဉ် မိခင်တိုက်တာ အုပ်ချုပ်ရေး၊ စာချတာဝန်မပျက် ထမ်းဆောင်လျက် တစ်နေ့ လေးနာရီ စာကျက်ချိန်ဖြင့် ၈ နှစ် ကြာခဲ့သည်။ အချို့နှစ်များတွင် စာမေးပွဲကျရှုံးခဲ့သော်လည်း ဇွဲ လုံ့လ ဝီရိယဖြင့် အားထုတ်ခဲ့ရာ ၁၉၅၅ ခု ၈ ကြိမ်မြောက် တိပိဋကဓရ ရွေးချယ်ရေး စာမေးပွဲတွင် သုတ္တန္တပိဋက သင်ရိုး ဒီဃနိကာယ် ၃ ကျမ်း အာဂုံ၌ ဝိသိဋ္ဌ (ဂုဏ်ထူး)၊ ၁၉၅၉ ခု ၁၁ ကြိမ်မြောက် စာမေးပွဲ၌ ရေးဖြေအောင်မြင်၍ "ဝိသိဋ္ဌ ဒီဃဘာဏက ဒီဃနိကာယ ကောဝိဒ"ဘွဲ့။ ၁၉၆၀ ပြည့် ၁၂ ကြိမ်မြောက်၌ ဝိနယပိဋက ဝိနည်း ၅ ကျမ်း အာဂုံနှင့် ရေးဖြေ အောင်မြင်၍ "ဝိနယဓရ ဝိနယကောဝိဒ" ဘွဲ့။ ၁၉၆၂ ခု ၁၄ ကြိမ်မြောက်၌ အဘိဓမ္မာ ၅ ကျမ်း၊ ၁၉၆၄ ခု ၁၆ ကြိမ်မြောက်၌ အဘိဓမ္မာ ၂ ကျမ်း အာဂုံနှင့် ရေးဖြေ အောင်မြင်ခဲ့၍ "အာဘိဓမ္မိက အဘိဓမ္မကောဝိဒ" ဘွဲ့များ ဆက်ကပ်ခဲ့သည်။ သက်တော် ၃၆ သိက္ခာတော် ၁၆ ဝါရတွင် တိပိဋကဓရ တိပိဋကကောဝိဒဘွဲ့ ဆက်ကပ်ခံရရာ တတိယမြောက် တိပိဋက ပြည်ဆရာတော်အဖြစ် ပူဇော်ခံရသည်။

၁၉၆၄ ခု မတ်လ ၁၅ ရက် တနင်္ဂနွေနေ့တွင် ရန်ကုန်မြို့ သာသနာ့ရိပ်သာ၌ သာသနာ့ အာဇာနည်ပုဂ္ဂိုလ်များ ဘွဲ့တံဆိပ် ဆက်ကပ်သည့်

အခမ်းအနား၌ "တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက" ဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။

၁၉၆၅ ခု မတ်လ ၁၇ ရက်တွင် မှော်ဘီမြို့၌ "သာသနာ သန့်ရှင်းပြန့်ပွားရေး အစည်းအဝေးကို တော်လှန်ရေးကောင်စီက တာဝန်ယူ ကျင်းပခဲ့ရာ ပခုက္ကူ မဟာဝိသုတာရာမတိုက် အဓိပတိ အရှင်သုန္ဒရက ဥက္ကဋ္ဌ၊ တတိယတိပိဋက ပြည်ဆရာတော်က အကျိုးဆောင်ဆရာတော်အဖြစ် ဆောင်ရွက်သည်။

တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဘွဲ့တံဆိပ် ဆက်ကပ်ခံရပြီးနောက် ပြည် ပွင့်လှသိမ်ကုန်းတိုက် ပရိယတ္တိစာချတာဝန်ခံ၊ တိုက်တာ အုပ်ချုပ်ရေးတာဝန်များကို ဆက်လက်ဆောင်ရွက်သည်။ ထိုစဉ် ဝေဠုဝန်နိကာယ တွဲဘက်အကျိုးဆောင်၊ ပွင့်လှသိမ်ကုန်း ပုညစေတီတော် တည်ဆောက်ရေးတာဝန်ခံ၊ ပြည် မြတ်စွယ်တော်ထိန်းအဖွဲ့ ဩဝါဒါစရိယ၊ နိကာယ်သာသနာတော် ထွန်းကားရေးအသင်း (၉ ဒီဇင်ဘာ ၁၉၇၃) ဩဝါဒါစရိယအဖြစ် တာဝန်ပေးအပ်ခံရသည်။

ဆဋ္ဌသင်္ဂါယနာ နာယက မစိုးရိမ်ဆရာတော် ရှင်သူရိယာဘိဝံသ (၁၈၇၉—၁၉၇၅) သည် နိကာယ်သာသနာ ထွန်းကားရေးအတွက် လှူပုံ့တော်ပတ္တမြား ဦးမောင်မောင်၊ ဒေါ်ငြိမ်းတို့၏ ရန်ကုန် ဗဟန်း တာဝါလိမ်းခြံ ယာယီစံကျောင်းတွင် သီတင်းသုံးနေစဉ် အသင်းကို အနီးကပ် ကြီးကြပ်ဩဝါဒပေးနိုင်ရန် တတိယ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ပြည်ဆရာတော်ကို ရန်ကုန် ပြောင်းရွှေ့သီတင်းသုံးရန် ပင့်လျှောက်သည်။ ၁၉၇၄ ခု နိုဝင်ဘာ ၂၇ ရက်တွင် ပြည်ပွင့်လှသိမ်ကုန်းဆရာတော် ရှင်တိက္ခ၏ ခွင့်ပြုမှုဖြင့် ရန်ကုန် တာဝါလိမ်းခြံ ယာယီစံကျောင်း၌ မစိုးရိမ်ဆရာတော်နှင့်အတူ သီတင်းသုံးရန် ရှင်ကောသလ္လ ရောက်လာသည်။ ၁၉၇၄ ခု ဒီဇင်ဘာ ၈ ရက်တွင် ပထမအကြိမ် နိကာယ် စာမေးပွဲများ စတင်ကျင်းပသည်။

၁၉၇၅ ခုနှစ်တွင် နိကာယ်သာသနာ ထွန်းကားရေး ပဓာနဒါယကာ လှူပုံ့တော်ပတ္တမြား ဦးမောင်မောင် ကွယ်လွန်သည်။ ရက်ပေါင်း ၂၀ အကြာတွင် နိကာယ်သာသနာတော် ထွန်းကားရေးအတွက် ပဓာနဦးဆောင်သူ မစိုးရိမ်ဆရာတော် တစ်ဘဝ တစ်ခန္ဓာ ချုပ်ငြိမ်းခဲ့သည်။ သို့သော် နိကာယ်သာသနာထွန်းကားရေးသည် တိပိဋကဓရ ပြည်ဆရာ

တော်၏ အနီးကပ်ကြီးကြပ်မှု၊ အသင်းအမှုဆောင်နှင့် စေတနာရှင် ဒါယကာ၊ ဒါယိကာမများ၏ ပံ့ပိုးမှုဖြင့် အရှိန်မပျက် ဆောင်ရွက်နိုင်ခဲ့သည်။

၁၉၇၇ ခု မတ်လ ၃ ရက်တွင် လှူပျံတော်ပတ္တမြား ဦးမောင်မောင် ဒေါ်ငြိမ်းမိသားစုသည် မူလရည်မှန်းချက်အတိုင်း ရန်ကုန်မြို့ ရန်ကင်း မြို့နယ် ကံဘဲ့ သစ္စာဝါဒီကုန်းမြေ၌ ပဥ္စနိကာယ သာသနာ့ဗိမာန်ကျောင်း တိုက်၏ ပဓာန နာယကအဖြစ် တိပိဋကရေ ပြည်ဆရာတော်အား တင်မြှောက်၍ နိကာယ်သာသနာတော် ထွန်းကားရေးကို ဆက်လက် ဆောင်ရွက်ပါသည်။ ကျောင်းတိုက်တည်သည့် ၁၉၇၇ ခုနှစ်တွင် သံဃာ ၃၅ ပါး၊ ၁၉၈၀ ပြည့်တွင် ၉၈ ပါး၊ ၁၉၉၀ ပြည့်တွင် ၂၅၆ ပါး၊ ၁၉၉၅ ခုတွင် ၂၉၃ ပါးအထိ တိုးပွားလာသည်။ အထူးအားဖြင့် သာမဏေငယ် များ လက်ခံ၍ ပိဋကအခြေခံသင်ပေးခြင်း၊ နိကာယ် ပိဋကတ်တော်များ ပို့ချခြင်း၊ နိကာယ်စာမေးပွဲ ဝင်ရောက်ဖြေဆိုခြင်းတို့ကို ပဓာနထား ဆောင် ရွက်သည်။

ပဥ္စနိကာယ သာသနာ့ဗိမာန်ကျောင်းတိုက် ပဓာနတာဝန်အပြင် သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေး ၆၆ ပါး ဦးဆောင်အဖွဲ့ဝင်၊ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင်၊ ရွှေတိဂုံစေတီတော် ဓမ္မသာကစ္ဆာအဖွဲ့ ဩဝါဒါစရိယ၊ ရန်ကုန်မြို့လုံးဆိုင်ရာ ပရိယတ္တိ သာသနာ့အဖွဲ့ချုပ် ဩဝါဒါ စရိယ၊ မြန်မာပြည်လုံးဆိုင်ရာ ဗုဒ္ဓသာသနအဖွဲ့ချုပ် ဩဝါဒါစရိယ၊ မစိုးရိမ် သာသနဟိတကာရီအသင်း ဩဝါဒါစရိယ၊ သီလရှင် သာသနဟိတကာရီ အသင်း ဩဝါဒါစရိယ၊ တက္ကသိုလ်များ ဗုဒ္ဓဘာသာအသင်းကြီး ဩဝါဒါ စရိယ၊ မိုးကောင်းစေတီတော် ဂေါပကအဖွဲ့ ဩဝါဒါစရိယ၊ ပိဋကတ် ဘာသာပြန် စာပေဖြန့်ချိရေးအဖွဲ့ ဩဝါဒါစရိယ၊ အမှတ် ၈ နိုင်ငံတော် သီးခြား ဝိနည်းခိုရ်အဖြစ် ဆောင်ရွက်ခဲ့သည်။

ရေးသားပြုစုခဲ့သော ကျမ်းဂန်များမှာ ပွင့်လှသိမ်ကုန်း ထေရုပ္ပတ္တိ၊ ပွင့်လှသိမ်ကုန်း အဘိဓမ္မတ္ထ သရူပမာလာ၊ အနုဂါရိယဂုဏ်တော်နှင့် အဂါရိယရှုဖွယ်ကျမ်း၊ အခြေခံသာသနာရေးကျမ်း၊ အင်္ဂုတ္တရ နိကာယ် မြန်မာကျမ်းစာ၊ ဒီဃနိကာယ် မြန်မာကျမ်းစာတို့ဖြစ်သည်။

၁၉၈၉ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။

၁၉၈၉ ခုနှင့် ၁၉၉၀ ပြည့်နှစ်များတွင် ကျောက်ကပ်ရောဂါနှင့် မျက်စေ့ကုသရန် အင်္ဂလန်နိုင်ငံ၊ လန်ဒန်သို့ နှစ်ကြိမ် သွားရောက်ခဲ့သည်။

သက်တော် ၆၉ သိက္ခာတော် ၄၉ ဝါရ ၁၉၉၅ ခု နိုဝင်ဘာ ၁၆ ရက် ကြာသပတေးနေ့ နံနက် ၁း၄၅ နာရီတွင် ရန်ကုန် ပဋ္ဌနိကာယ သာသနာ့ဗိမာန်ကျောင်းတိုက်၌ တစ်ဘဝ တစ်ခန္ဓာ ချုပ်ငြိမ်းခဲ့ပါသည်။





**အဘယာရာမဆရာတော်**
**ရှင်သီလာနန္ဒ**
(၁၉၂၇ — ၂၀၀၅)

၂၀ ရာစု မြန်မာနိုင်ငံ သာသနာ၀င်တွင် ပိဋကတ်နှင့် ဘာသန္တရ တို့၌ နိုင်ငံတကာ ပညာရှင်အဆင့်မီ ဆရာတော်အဖြစ် သတ်မှတ်ခံရ သည်။ ပိဋကတ်တော်ဆိုင်ရာ ပါဠိ အဋ္ဌကထာ ဋီကာတို့၏ ပုဒ်၊ ပါဌ် ရှင်းလင်းသန့်စင်ရာတွင် ပထမ အဘယာရာမဆရာတော်၏ ခြေရာကို လိုက်နိုင်သည့် တတိယ အဘယာရာမဆရာတော်။ အမေရိကန်ပြည်ထောင်စု ကာလီဖိုးနီးယားပြည်နယ်၊ ဟတ်မွန်ဘေးမြို့ ဓမ္မာနန္ဒဝိဟာရဆရာတော်။ မဟာစည် သာသနာ့ရိပ်သာ၏ ပြည်တွင်းပြည်ပ ဩဝါဒစရိယ ဆရာ တော်။ ရန်ကုန်မြို့ အပြည်ပြည်ဆိုင်ရာ ထေရဝါဒ ဗုဒ္ဓသာသနာပြု တက္ကသိုလ် ပါမောက္ခချုပ်ဆရာတော်အဖြစ် ထင်ရှားသည်။ ရဟန်း ၆ ဝါရစ ဆဋ္ဌသင်္ဂါယနာ တင်စဉ်ကပင် ပါဠိတော် မြန်မာမူများကို သီရိလင်္ကာ၊ ထိုင်း၊ ကမ္ဘောဒီးယား၊ လာအို၊ ရောမအက္ခရာ မူအမျိုးမျိုးနှင့် တိုက်ဆိုင် စစ်ဆေးရေးနှင့် ပါဠိတော် အဋ္ဌကထာ ဋီကာ နောက်ဆုံးအဆင့် တည်းဖြတ်ရေးတာဝန်များကို မဟာစည်ဆရာတော်နှင့်အတူ ဆောင်ရွက် ခဲ့ရသည်။ အာရှ၊ ဥရောပ၊ အမေရိက ဓမ္မဒူတခရီးများနှင့် အပြည်ပြည် ဆိုင်ရာ ဗုဒ္ဓဘာသာညီလာခံများ တက်ရောက်ခဲ့သည်။ ၁၉၇၉ ခုနှစ်မှစ၍ အမေရိကန်ပြည်ထောင်စုတွင် သီတင်းသုံးပြီး ကနေဒါ၊ မက္ကဆီကို၊ ဂျပန်၊ မလေးရှား၊ စင်္ကာပူနိုင်ငံများ လှည့်လည် သာသနာပြုခဲ့ရာ ကမ္ဘာ့ ဗုဒ္ဓသာသနာပြုဆရာတော်အဖြစ် ထင်ရှားပါသည်။

## သီလာနန္ဒာဘိဝံသ၊ ရှင်၊ ဒေါက်တာ —

၁၉၂၇ ခုနှစ် ဒီဇင်ဘာလ ၁၆ ရက် သောကြာနေ့တွင် မန္တလေးမြို့၌ ဖွားသည်။ အဖ မြန်မာ ဗိသုကာပညာရှင် ဝဏ္ဏကျော်ထင် ဆရာဆိုင်၊ အမိ ဒေါ်မုန်း ဖြစ်သည်။ မွေးချင်း ၈ ယောက်တွင် ဆဋ္ဌမမြောက်။ အမည် မောင်ဘဝင်း ဖြစ်သည်။ ဖခင်ဘက်မှ အဖိုး ဗိသုကာဆရာခင်မှာ စလင်း သူကောင်းမျိုးရိုးဖြစ်သည်။

မန္တလေး တရုတ်တန်း ဗဟိုတိုင်းရင်းအလွတ်ပညာသင်ကျောင်း၌ စတင်ပညာသင်သည်။ ၇ နှစ်တွင် ကယ်လီဟိုက်စကူးကျောင်း ပြောင်း၍ ၈ တန်းအောင်သည်အထိ သင်ယူသည်။ ၇ တန်းတွင် စကောလားရှစ် ပညာသင်ဆုရသည်။ ၁၉၄၂ တွင် မိဘများနှင့်အတူ စစ်ကိုင်းတောင် သစ်ဆိမ့်ချောင်၌ စစ်ပြေးခိုလှုံသည်။

ဂျပန်ခေတ် ၁၉၄၃ မေ ၁၄ ဗုဒ္ဓဟူးနေ့တွင် စစ်ကိုင်းတောင် မဟာဝိဇ္ဇောဒယချောင် နိုင်ငံကျော် ဓမ္မကထိက ဝိဇ္ဇောဒယဆရာတော် ရှင်ပညာဝန္တကို ဥပဇ္ဈာယ်ပြု၍ သာမဏေဖြစ်သည်။ မိဘနှစ်ပါးက ရှင်ဒါယကာခံသည်။ သာမဏေဘွဲ့ ရှင်သီလာနန္ဒဖြစ်သည်။ ဥပဇ္ဈာယ်ဆရာတော်နှင့် စာချ ရှင်ပုညဝန္တ၊ ရွှေဟသ်ာချောင် ရှင်ဝါစက၊ မင်းလှချောင် ရှင်နိပုဏ၊ ဟိတောဒယချောင် ရှင်နန္ဒိယ၊ မြတောင်ချောင် ရှင်ဓမ္မာလောက၊ နံ့သာချောင် ရှင်အာလောက တို့ထံ ပရိယတ်အခြေခံနှင့် သက္ကတဘာသာ၊ ဝိနည်းပါဠိတော် ၅ ကျမ်း၊ သင်ရိုးအဘိဓမ္မာ ညဝါကျမ်းများ၊ ဋီကာကျော်၊ မောဂ္ဂလာန်သဒ္ဒါကျမ်းကို သာမဏေဝတ်ဖြင့် သင်ယူခဲ့သည်။

၁၉၄၇ ခုနှစ် ဇူလိုင်လ ၂ ရက် ဗုဒ္ဓဟူးနေ့တွင် မဟာဝိဇ္ဇောဒယဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ဧရာဝတီမြစ်တွင်း ရေသိမ်၌ ရဟန်းဖြစ်သည်။ ဘွဲ့ ရှင်သီလာနန္ဒ ဖြစ်သည်။ မိဘနှစ်ပါးက ရဟန်းဒါယကာခံသည်။ ရဟန်း ၂ ဝါရသည်တိုင် စစ်ကိုင်းတောင်ရိုး၌ ဆက်လက်ပညာသင်သည်။ ရဟန်းပထမဝါတွင် ပထမပြန်စာမေးပွဲ ပထမလတ်တန်း၌ တစ်ပြည်လုံး ပထမ။ ရဟန်းဒုတိယဝါတွင် ပထမကြီးတန်း တစ်ပြည်လုံး ဒုတိယရသည်။

ပထမကြီးတန်းအောင်ပြီး မန္တလေးမြို့ ဒက္ခိဏာရာမဘုရားကြီးတိုက် ဒေါနခြံအုတ်ကျောင်း မင်းကျောင်းဆရာတော်ထံ ပြောင်းရွှေ့သီတင်းသုံး၍ ဘုရားကြီးတိုက်စာချ ဇောတိကာရုံအုတ်ကျောင်းဆရာတော် ရှင်နာရဒ၊

ပေတောကျောင်း ရှင်သီလာဝံသ၊ ရှင်အရိယာဝံသ၊ ရှင်ဥက္ကံသ၊ ရှင်ဥဂ္ဂံသ (ဆရာတော်ဦးကြွယ်)၊ ကျစ္စာဆရာတော် ရွှေမျက်မှန် ဦးဝိဇယ၊ မစိုးရိမ် ဆရာတော် ရှင်သူရိယတို့ထံ ပါဠိ အဋ္ဌကထာ ဋီကာများ ဆက်လက် သင်ယူသည်။ ရဟန်း ၄ ဝါရ ၁၉၅၀ တွင် ဓမ္မာစရိယတန်းကို ပါဠိဘာသာ ဖြင့် ဖြေဆိုအောင်မြင်၍ အစိုးရဓမ္မာစရိယဘွဲ့။ ၁၉၅၁ တွင် မန္တလေး ပရိယတ္တိသာသနဟိတအသင်း သကျသီဟစာသင်တန်း စာမေးပွဲ ပထမဆင့်။ ၁၉၅၃ တွင် သကျသီဟ စာချတန်း အောင်မြင်၍ သကျသီဟဓမ္မာစရိယ အဘိဝံသဘွဲ့များ ရရှိခဲ့သည်။ ၁၉၅၂ သကျသီဟ စာချတန်းကို နှစ်မခြားဘဲ ပထမဆင့်မှ အောင်မြင်ပြီး 'ဝဋံသကာ'ဘွဲ့ ရမည်ဟု မန္တလေး လေးပြင် လေးရပ် ရဟန်းရှင်လူအများနှင့် စာချဆရာတော်များက မျှော်လင့်ခဲ့သည်။ ထို့ပြင် စာသင်သားဘဝကပင် မောဂ္ဂလန်သဒ္ဒါကျမ်းကို မွှေနှောက် ခြောက်ခြားနိုင်စွမ်းရှိ၍ ဉာဏ်ပညာ ထက်မြက်ထင်ရှားသည်။ သို့သော် သီလက္ခန် အဋ္ဌကထာတွင် ပုစ္ဆာနှစ်ပုဒ် အာဘော်လွဲ၍ စာမေးပွဲ ကျရှုံး ခဲ့သည်။ ထိုနှစ် 'ဝဋံသကာ' ဘွဲ့ကို ရဟန်းပျိုဥက္ကဋ္ဌ ဦးဇောတိက၏ ထီးလင်းတိုက်က ရှင်သုမန (နောင် နည်းသစ် အင်္ဂလိပ်သဒ္ဒါ၊ မြန်မာ သဒ္ဒါကျမ်းပြု၊ ကမ္ဘာအေး စာပြင်မှူးချုပ် ဦးသောင်လွင်) ရရှိခဲ့သည်။

ရဟန်း ၆ ဝါရ ၁၉၅၄ ခု ဧပြီတွင် ဆဋ္ဌသင်္ဂါယနာအတွက် ဘုရားကြီး တိုက်က ဇာတက ပါဠိကျောက်စာမူနှင့် ဇာတကပါဠိရေးကျမ်းစာမူများ တိုက်ဆိုင်စစ်ဆေးရာ ပါဝင်ခဲ့သည်။ ၁၉၅၄ ခု မေတွင် ရန်ကုန် မဟာစည် သာသနာ့ရိပ်သာ ဆဋ္ဌသင်္ဂါယနာအကြို အစည်းအဝေးက မြန်မာမူပါဠိ တော်နှင့် ထိုင်း၊ ကမ္ဘောဒီးယား၊ လာအို၊ သီရိလင်္ကာ၊ ရောမအက္ခရာမူများ တိုက်ဆိုင်စစ်ဆေးရေး (ဩသာနသောဓေယျ ပတ္တပါဠကအဖွဲ့) ဥပဥက္ကဋ္ဌ၊ မဟာစည်ဆရာတော် ဦးဆောင်သော ပါရာဇိကဏ် ပါဠိတော် နောက်ဆုံး တည်းဖြတ် သုတ်သင်သည့်အဖွဲ့ ဥပဥက္ကဋ္ဌ အဖြစ် တာဝန်ပေးအပ် ခံရသည်။

၁၉၅၄ ဧပြီ ၁၇ တွင် ဆဋ္ဌသင်္ဂါယနာ ပထမ သန္နိပါတ ဖွင့်ပွဲ ကျင်းပ၍ ဝိနည်းပါဠိတော်များကို ဩသာန သောဓေယျပတ္တပါဠကအဖွဲ့ဝင် ဥပဥက္ကဋ္ဌအဖြစ် တာဝန်ယူဆောင်ရွက်ခဲ့သည်။ ထိုစဉ် ဩသာနသော ဓေယပတ္တပါဠက အဖွဲ့ဝင် သီရိလင်္ကာဆရာတော် ရှင်အာနန္ဒာ မေတ္တေယျ

(ဆဋ္ဌသင်္ဂါယနာ တတိယသန္နိပါတ ဥက္ကဋ္ဌ)ထံ သက္ကတ ထပ်မံသင်ယူသည်။ သီရိလင်္ကာဆရာတော်၏ တိုက်တွန်းမှုဖြင့် ဝိနည်းငါးကျမ်း သင်္ဂါယနာတင်နေစဉ် ၁၉၅၄ ခုနှစ်မှာပင် ဆရာတော်နှင့်အတူ သီရိလင်္ကာလိုက်ပါ၍ ဘာသန္တရဆိုင်ရာ အင်္ဂလိပ်စာနှင့် သက္ကတကို ဆက်လက်လေ့လာသင်ယူသည်။ လန်ဒန်မက်ထရစ် (ဂျီစီအီး၊ အေလယ်ဘယ်) စာမေးပွဲကို ပါဠိ၊ သက္ကတ ဂုဏ်ထူးတို့ဖြင့် အောင်သည်။ ထို့ပြင် သီရိလင်္ကာနိုင်ငံ ဗုဒ္ဓဇယန္တိ ပွဲတော်အပြီး ၁၉၅၆ ဇူလိုင် ပထမပတ်တွင် အာနန္ဒာမေတ္တေယျ ဦးဆောင်သော သီရိလင်္ကာအစိုးရ ဓမ္မဒူတဝိဇ္ဇာလယ အဖွဲ့ဝင်အဖြစ် အမရပူရနိကာယဝင် ရှင်ပညာသီရိ၊ ရှင်သောမ၊ ရှင်ခေမိန္ဒတို့နှင့်အတူ ဂျာမနီနိုင်ငံ သာသနာပြု သွားရောက်သည်။ ဂျာမနီနိုင်ငံ၊ ဟမ်းဘတ်မြို့တွင် သိမ်သမုတ်ရန်နှင့် ဂျာမန်အမျိုးသား ၅ ဦးအား သာမဏေပြု၊ ရဟန်းခံပေးရန် တာဝန်ပေးအပ်ခံရသည်။ ၁၉၅၇ ခုနှစ်တွင် မြန်မာနိုင်ငံ ဗုဒ္ဓသာသနကောင်စီ၏ လျှောက်ထားချက်အရ မြန်မာပြည် ပြန်ကြွခဲ့သည်။

၁၉၅၇ ခု ဖေဖော်ဝါရီ ၁၈ မှ ၂၀ ရက်ထိ နဝမအကြိမ် ရွှေကျင်နိကာယ ပဲခူးကြခတ်ဝိုင်း အစည်းအဝေး အလုပ်အမှုဆောင်အဖွဲ့ အကျိုးတော်ဆောင်အဖြစ် ဆောင်ရွက်သည်။ ရွှေကျင်နိကာယ ဂိုဏ်းလုံးဝန်ဆောင်အဖွဲ့ဝင် ဖြစ်လာသည်။

၁၉၅၇ မှ ၁၉၆၀ တိုင် ကမ္ဘာအေးတွင် သီတင်းသုံး၍ ကမ္ဘာအေးကုန်းမြေ ဇမ္ဗူဒီပကျောင်းဆောင် ဂျပန်ဓမ္မဒူတ သာသနာပြုကျောင်းဒုတိယကျောင်းအုပ်တာဝန်ယူနေစဉ် တိပိဋက ပါဠိ-မြန်မာ အဘိဓာန်ဦးဆောင်ပြုစုတည်းဖြတ်ရေး။ ဆဋ္ဌသင်္ဂါယနာ အဋ္ဌကထာ ဋီကာ နောက်ဆုံးတည်းဖြတ်သုတ်သင်ရေး အဖွဲ့ဝင်အဖြစ် ဆက်လက်ဆောင်ရွက်သည်။ ၁၉၅၈ တွင် ဆဋ္ဌသင်္ဂါယနာ ဝန်ဆောင်သံဃာ့အဖွဲ့ အကျိုးတော်ဆောင် ရှင်ဝိသုဒ္ဓါဘိဝံသ ဦးဆောင်၍ မြသိန်းတန်ဆရာတော် ရှင်သောဘနနှင့်အတူ ထိုင်း၊ မလေးရှား၊ စင်္ကာပူ၊ လာအို၊ ကမ္ဘောဒီးယား၊ ဗီယက်နမ်၊ ဂျပန် သာသနာရေးခရီး။ ၁၉၅၉ ခုနှစ်တွင် အနီးစခန်းဆရာတော်ဦးဆောင်၍ ပုဇွန်တောင် ရွှေကျင်ကျောင်း သစ်ဆရာတော် ရှင်ကောသလ္လ၊ ကပ္ပိယ ဦးဘကလေး (ရန်ကုန်တက္ကသိုလ် ပါဠိကထိက) တို့နှင့်အတူ

အမေရိကန်၊ အင်္ဂလန်၊ ပြင်သစ်၊ ဂျာမနီ သာသနာပြုခရီး။ ၁၉၆၀ တွင် ကမ္ဘာ့ဗုဒ္ဓသာသနာပြုဆရာတော် ရှင်သေဋ္ဌိလ ဦးဆောင်၍ တရားဝန်ကြီး ဦးချန်ထွန်း၊ ဒေါ်ခင်သိန်းတို့နှင့်အတူ ဂျာမနီ၊ ဆွီဒင်၊ ဒိန်းမတ်၊ ပြင်သစ်၊ အင်္ဂလန် သာသနာပြုခရီးများ သွားရောက်ခဲ့သည်။

၁၉၆၀ ပြည့်နှစ်တွင် ဥပဇ္ဈာယ်ဆရာ စစ်ကိုင်း မဟာဝိဇ္ဇောဒယ ဆရာတော် ပျံလွန်၍ မဟာဝိဇ္ဇောဒယချောင် နာယကအဖြစ် ပြောင်းရွှေ့ သီတင်းသုံးသည်။ အတိသုဒ္ဓါရုံ ပါဠိတက္ကသိုလ် ကထိကအဖြစ် စာပေပို့ချ သည်။ ၁၉၆၉ ခုနှစ်တွင် မန္တလေးမြို့ အဘယာရာမ ရွှေဂူကျောင်းတိုက် ဒုတိယနာယက စာချအဖြစ် ပြောင်းရွှေ့၍ ပါဠိတော် အဋ္ဌကထာ ဋီကာနှင့် ဘာသန္တရဆိုင်ရာ သက္ကတ၊ ပြကတ၊ အင်္ဂလိပ်ဘာသာများ သင်ကြားပို့ချ သည်။ မန္တလေးတက္ကသိုလ်၊ အရှေ့တိုင်းဌာနတွင် ပြင်ပစာစစ်အဖြစ် ကူညီဆောင်ရွက်သည်။ ၁၉၇၈ တွင် တိုကျိုနှင့် ကျိုတို ကမ္ဘာ့ဗုဒ္ဓဘာသာ ညီလာခံသို့ တက်ရောက်သည်။

၁၉၇၉ ခုနှစ် မဟာစည်ဆရာတော်၏ အမေရိကန် ဗုဒ္ဓဘာသာပြု ခရီးတွင် လိုက်ပါခဲ့သည်။ မဟာစည်ဆရာတော်၏ တိုက်တွန်းမှုဖြင့် အမေရိကန်ပြည်ထောင်စု ဆန်ဖရန်စစ္စကိုမြို့တွင် ရှင်ကေလာသနှင့်အတူ ပြည်ပသာသနာပြုရန် ကျန်ရစ်ခဲ့သည်။ ၁၉၇၉ တွင် ဆန်ဖရန်စစ္စကို၌ ယာယီ သီတင်းသုံး၍ ထေရဝါဒ ဗုဒ္ဓဘာသာအသင်းကို ဦးဆောင်တည် ထောင်သည်။ ၁၉၈၁ တွင် ဒေးလီးစီးတီး၊ ၁၉၉၆ တွင် ဟတ်မွန်ဘေးမြို့ ဓမ္မာနန္ဒဝိဟာရကျောင်းတိုက်တည်၍ ပျံလွန်သည့် ၂၀၀၅ ခုနှစ်တိုင် ပဋိပတ္တိ တရားစခန်းများ တည်ထောင်ဖွင့်လှစ်ခြင်း၊ ဝိပဿနာသင်တန်း၊ အဘိဓမ္မာသင်တန်း၊ ဝိသုဒ္ဓိမဂ်သင်တန်း၊ ဓမ္မပဒသင်တန်း၊ သတိပဋ္ဌာန် သင်တန်း၊ ပါဠိသင်တန်း၊ ပရိတ်သင်တန်း၊ ဗုဒ္ဓယဉ်ကျေးမှုသင်တန်းများ အမေရိကန် ပြည်တွင်းပြည်ပ (ကနေဒါ၊ မက္ကဆီကို၊ ဂျမေကာ၊ စင်္ကာပူ၊ မလေးရှား) ဖွင့်လှစ်သင်ကြားပို့ချသည်။ အမေရိကန်ပြည်ထောင်စုကို ဗဟို ပြု၍ ခေတ်မီကွန်ပျူတာ၊ အင်တာနက်များ အကူအညီဖြင့် ပရိယတ် ပဋိပတ် သာသနာပြုလုပ်ငန်းများ အောင်မြင်စွာ ဆောင်ရွက်ခဲ့သည်။ ပြည်ပတွင် သာသနာပြုနေစဉ် မန္တလေး အဘယာရာမ ရွှေဂူတိုက်၏ ပဓာနနာယက။ ၁၉၉၆ တွင် ရန်ကုန် မဟာစည်သာသနာ့ရိပ်သာ ဩဝါဒါ

စရိယ။ ၁၉၉၈ တွင် ရန်ကုန် အပြည်ပြည်ဆိုင်ရာ ထေရဝါဒ ဗုဒ္ဓသာသနာပြု တက္ကသိုလ် ပါမောက္ခချုပ်။ ၁၉၉၉ တွင် ပြည်ပသာသနာပြု ရွှေကျင် နိကာယ သံဃနာယက ခန့်အပ်ခံရသည်။

ပြုစုခဲ့သော ကျမ်းဂန်များမှာ တိပိဋက ပါဠိမြန်မာအဘိဓာန် အတွဲ ၁ နှင့် ၂၊ တရားဦး၊ ဘုရားကြီးတိုက်ဆရာတော် ဦးနာရဒ၏ ထေရုပ္ပတ္တိ အကျဉ်း၊ သိမ်သင်တန်း၊ သဒ္ဒနီတိ ဓာတုမာလာကို ပါဏိနီယဓာတုပါဌနှင့် တိုက်ဆိုင်လေ့လာခြင်း၊ မဟာစည်ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ (အကျဉ်း၊ ပထမပိုင်း)၊ မြန်မာဗိသုကာပညာရှင် ဆရာဆိုင်၊ ရူပသိဒ္ဓိ ဋီကာ နိဿယသစ်၊ ဌာန် ကရိုဏ်း ပယတ်အဖွင့်ကျမ်း၊ ဝါကျာဝယ ဝဏ္ဏနာကျမ်း၊ ဋီကာကျော်နိဒါန ကထာပါဌ်၊ အဘိဓာန်ဋီကာ နိဒါနကထာပါဌ်၊ သဒ္ဒနီတိဒါန ကထာပါဌ်၊ ပါဏိနီယ ဓာတုပါဌ လမ်းညွှန်၊ မဓ္ဈသိဒ္ဓန္တကောမုဒီနိဿယ (သက္ကတသဒ္ဒါ)၊ ပြာကရိတ်သဒ္ဒါကျဉ်း၊ ပါကတပ္ပကာသ (ပြာကရိတ်သဒ္ဒါ)၊ နဝရိတ်ကျမ်း၊ ကာဗျာဒါသ (သက္ကတနိဿယ)၊ သုတဗောဓ (သက္ကတနိဿယ)၊ တက္ကသင်္ဂဟ (သက္ကတ မြန်မာပြန်)၊ ဝိဒဂ္ဂမုခမဏ္ဍန နိဿယ၊ အဘိဓမ္မာ သင်တန်း ပို့ချချက်များ (၅တွဲ)၊ ဒုလ္လဘ ရဟန်းပြုခြင်း။ အင်္ဂလိပ်ဘာသာ ဖြင့် The Four Foundations of Mindfulness ; An Introduction to the Law of Kamma ; Thoughts for the Occasion (Some Sayings of Lord Buddha on Death) ; An Introduction to the Dectrine of Anatta (No Soul) ; On Clear Comprehension ; Paritta Pali and Protective Suttas ; Meditation Instruction ; The Benefit of Walking Meditation ; The Man Who Called Himself Tathagata ; The Fundamentals of Buddhism ; Silavanta Sutta ; A Discourse on Setting on Motion the Wheel of Dhamma ; etc ဖြစ်သည်။

နိုင်ငံတော်က အဂ္ဂမဟာပဏ္ဍိတဘွဲ့ (၁၉၉၃)၊ အဂ္ဂမဟာသဒ္ဓမ္မ ဇောတိကဘွဲ့ (၁၉၉၉)၊ ရန်ကုန်တက္ကသိုလ်မှ ဂုဏ်ထူးဆောင်ပါရဂူ (ဒေါက်တာ) ဘွဲ့၊ အဘိဓဇ အဂ္ဂမဟာသဒ္ဓမ္မဇောတိကဘွဲ့ (၂၀၀၅) များ ဆက်ကပ်ခံရသည်။ ၂၀၀၄ ဒီဇင်ဘာတွင် ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေ၌ ကျင်းပသည့် ကမ္ဘာ့ဗုဒ္ဓဘာသာညီလာခံတွင် မိန့်ခွန်းဟောပြောခဲ့သည်။

သက်တော် ၇၉ သိက္ခာ ၅၉ ဝါရ ၂၀၀၅ ခုနှစ် ဩဂုတ်လ ၁၃ ရက် စနေနေ့တွင် အမေရိကန်ပြည်ထောင်စု ကာလီဖိုးနီးယားပြည်နယ် ရက်ဝုဒ်စီးတီး ကိုင်ဇာဆေးရုံ၌ တစ်ဘဝတစ်ခန်း ချုပ်ငြိမ်းခဲ့ပါသည်။



## ပခုက္ကူ တိပိဋကဆရာတော်
## ရှင်နေမိန္ဒ
(၁၉၂၈ — ၁၉၉၁)

မြန်မာနိုင်ငံ သာသနာဝင်တွင် ဒုတိယ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ပခုက္ကူ တိပိဋကဆရာတော် အမည်ဖြင့် ထင်ရှားသည်။ သာမဏေဘဝ ကပင် ပခုက္ကူ မဟာဝိသုတာရာမဆရာတော်များ ချီးမြှောက်မှုဖြင့် နိကာယ်ငါးရပ်ကို ကျမ်းပေါက်သင်ယူခဲ့ရာ ရဟန်း ၄ ဝါရတွင် အစိုးရ ပထမပြန် ငယ်၊ လတ်၊ ကြီးနှင့် ဓမ္မာစရိယ စာချတန်းအောင်ပြီး သာသနဓဇ သီရိပဝရ ဓမ္မာစရိယ သိရောမဏိဘွဲ့ ဆက်ကပ်ခံရသည်။ ရဟန်း ၅ ဝါရတွင် ပခုက္ကူ မဟာဝိသုတာရာမ စာချ၊ ဆဋ္ဌသင်္ဂါယနာ ပဋိဝိသောဓက တာဝန်ပေးအပ်ခံရသည်။ ရဟန်း ၈ ဝါရ ၁၉၅၅ ခုနှစ် ၇ ကြိမ်မြောက် တိပိဋကဓရ ရွေးချယ်ပွဲ၌ ဝိနယပိဋက အာဂုံနှင့်ရေးဖြေတွင် ဂုဏ်ထူး ၂ ဆင့်ဖြင့် ဝိသိဋ္ဌ ဝိနယဓရ၊ မဟာဝိနယ ကောဝိဒဘွဲ့။ ၁၉၅၆ ခုနှစ် ၈ ကြိမ်မြောက်နှင့် ၁၉၅၇ ခုနှစ် ၉ ကြိမ်မြောက် ရွေးချယ်ပွဲ သုတ္တန္တ ပိဋကသင်ရိုး ဒီဃနိကာယ် ၃ ကျမ်း အာဂုံ၌ ဂုဏ်ထူး၊ ရေးဖြေ၌ ရိုးရိုး အောင်မြင်၍ ဝိသိဋ္ဌဒီဃဘာဏက၊ ဒီဃနိကာယ ကောဝိဒဘွဲ့။ ၁၉၅၈ ခုနှစ် ၁၀ ကြိမ်မြောက်နှင့် ၁၉၆၀ ပြည့်နှစ် ၁၂ ကြိမ်မြောက် ရွေးချယ်ပွဲ တွင် အဘိဓမ္မာ ၇ ကျမ်း အာဂုံ၌ ဂုဏ်ထူး၊ ရေးဖြေ၌ ရိုးရိုးအောင်၍ ဝိသိဋ္ဌ အာဘိဓမ္မိက၊ အဘိဓမ္မကောဝိဒဘွဲ့များ ဆက်ကပ်ခံရကာ သက်တော် ၃၃ သိက္ခာ ၁၃ ဝါရတွင် တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော်အဖြစ် ပူဇော်ခံရပါသည်။

## နေမိန္ဒ၊ ရှင်၊ ပခုက္ကူ တိပိဋကဆရာတော် —

၁၉၂၈ ခုနှစ် ဇန်နဝါရီလ ၁၄ ရက် စနေနေ့တွင် ပခုက္ကူခရိုင် မြိုင်မြို့နယ် ဘင်းကန်အုပ်စု ဝွေးပင်ကွင်းရွာ၌ ဖွားသည်။ အဖ ဦးဘိုတစ် အမိ ဒေါ်ထွားတုတ် ဖြစ်သည်။ အမည် မောင်ထွန်းရှိန် ဖြစ်သည်။

၆ နှစ်အရွယ်တွင် ဝွေးပင်ကွင်းရွာ ပေတောကျောင်းဆရာတော် ရှင်နာရဒထံ စတင်ပညာသင်သည်။ ၁၀ နှစ်အရွယ်တွင် မိဘနှစ်ပါးက ရှင်ဒါယကာခံ၍ သာမဏေဖြစ်သည်။ ဥပဇ္ဈာယ်ဆရာမှာ ရှင်နာရဒ ဖြစ်သည်။ သာမဏေဘွဲ့ ရှင်နေမိန္ဒ။ သာမဏေဝတ်ဖြင့် ဥပဇ္ဈာယ်ဆရာထံ ပရိယတ္တိစာပေများ ဆက်လက်သင်ယူသည်။ ငယ်စဉ်ကပင် ဉာဏ်ထက် သည်။ သာမဏေ ၅ ဝါရတွင် သဒ္ဒါ သင်္ဂြိုဟ် ပါတိမောက် ဋီကာကျော် ရူပသိဒ္ဓိ ကင်္ခါဝိတရဏီအဋ္ဌကထာ ဝိနည်းငါးကျမ်း သင်ယူ၍ မြိုင်မြို့ အမျိုးသားပရိယတ္တိ စာပြန်ပွဲ၌ အထောက်အမကင်းစွာ ပြန်ဆို အောင် မြင်သည်။ စာထောက်စာမ ဆရာများ၏ ချီးကျူးမှုခံရသည်။

သာမဏေ ၇ ဝါရ ၁၉၄၅ ခုနှစ်တွင် ပခုက္ကူမြို့ အလယ်တိုက်ခေါ် မဟာဝိသုတာရာမတိုက် သုဝဏ္ဏဝတီကျောင်း ဆရာတော် ရှင်သုန္ဒရ (၁၈၇၉-၁၉၇၂) ထံ ရောက်သည်။ ဥပဇ္ဈာယ်ဆရာ၏ အပ်နှံမှုဖြင့် သီဟိုဠ် ရှင်ဘုရားကြီး ဂေါပကအဖွဲ့ ဥက္ကဋ္ဌ ဦးစောလှိုင်မှတစ်ဆင့် ရောက်လာခြင်း ဖြစ်သည်။ ရှင်သုန္ဒရထံ ဋီကာကျော် ထပ်မံသင်ယူသည်။ မဟာဝိသုတာ ရာမဆရာတော် ရှင်ပညာ (၁၈၇၈-၁၉၄၆) ထံ ပါရာဇိကဏ် ပါဠိတော် အဋ္ဌကထာ၊ သာရတ္ထဒီပနီဋီကာ၊ ဋီကာကျော်တို့ကို ဆိုဝါလိုက်ပါ နှစ်မျိုးဖြင့် သင်ယူသည်။ ၁၉၄၆ ခုနှစ်တွင် မဟာဝိသုတာရာမနာယက ရှင်ပညာ ပျံလွန်၍ ရှင်သုန္ဒရနှင့် ရှင်နန္ဒဝံသ (၁၈၈၂-၁၉၅၇) တို့ မဟာဝိသုတာရာမ နာယကဆရာတော်များ ဖြစ်လာသည်။ ရှင်နေမိန္ဒသည် ဓမ္မာစရိယဆရာရင်း ရှင်သုန္ဒရ၏ အားပေးချီးမြှောက်မှုဖြင့် တိုက်အုပ်စာချဆရာတော် ရှင်နန္ဒိယ (၁၉၀၃-၁၉၇၁)၊ စာချအကျော် ရှင်မာဃိန္ဒ (၁၉၀၃-၁၉၆၆) တို့ထံမှ နိကယ်ငါးရပ်ကို ပခုက္ကူစာချနည်းဖြင့် သင်ယူသည်။ သာမဏေဝတ်ဖြင့် ၁၉၄၆ ခုနှစ်တွင် အစိုးရပထမပြန် ပထမငယ်တန်း၊ ၁၉၄၇ ခုနှစ်တွင် ပထမလတ်တန်းတို့ကို ပါဠိဘာသာဖြင့် ရေးဖြေ အောင်မြင်သည်။

၁၉၄၇ ခုနှစ် ဇူလိုင်လ ၃ ရက် ကြာသပတေးနေ့တွင် မဟာဝိသုတာရာမတိုက် သာသနဇောတိပါလသိမ်၌ ရဟန်းဖြစ်သည်။ မဟာဝိသုတာရာမတိုက် နာယက ရှင်သုန္ဒရက ဥပဇ္ဈာယ်ဆရာ၊ ရှင်နန္ဒဝံသက အနုသာသကအဖြစ် ဆောင်ရွက်သည်။ ရဟန်းဘွဲ့ ရှင်နေမိန္ဒ ဖြစ်သည်။ ရဟန်းဒါယကာမှာ တောင်သာမြို့နယ် ကန်တော်အရှေ့ရွာမှ ဘကြီး ဦးဘိုးမြစ်ဒေါ်ဖွားရှင်မိသားစုဖြစ်သည်။ ရဟန်းဖြစ်ပြီး မဟာဝိသုတာရာမ နာယက ရှင်သုန္ဒရ၊ ရှင်နန္ဒဝံသနှင့် စာချ ရှင်နန္ဒိယ၊ ရှင်မာဃိန္ဒ၊ ရှင်တေဇနိယ၊ ရှင်နာရဒ (မကွေး မဟာဝိသုတာရာမ ဆရာတော်) တို့ထံ နိကာယ်ငါးရပ်ကို ဆက်လက်သင်ယူသည်။ ရဟန်း ၄ ဝါရ ၁၉၅၁ ခုနှစ်တွင် ပထမကြီးတန်းအောင်မြင်သည်။

အစိုးရပထမကြီးတန်းအောင်ပြီး အစိုးရဓမ္မာစရိယ စာချတန်းစာမေးပွဲဖြေရန် မန္တလေးမြို့ ချမ်းသာကြီးတိုက် ရှင်နန္ဒမဥ္ဇူ (၁၉၀၂-?) ထံ သီတင်းသုံး၍ ရှင်သုနန္ဒရ၏ လမ်းညွှန်မှုဖြင့် ခင်မကန်တိုက် စံကျောင်းဆရာတော် ရှင်နန္ဒိမာ (၁၈၈၅-၁၉၆၄) ထံ စာချတန်းဆိုင်ရာ လေ့ကျင့်ဖြေဆိုရသည်။ လေ့ကျင့်ရန် ပုစ္ဆာ ၇ ရက်စာကို ၁ ရက်တည်းဖြင့် ဖြေဆို၍ စံကျောင်းဆရာတော်၏ ချီးမွမ်းအားရမှုခံရသည်။ ၁၉၅၂ ခုနှစ် အစိုးရဓမ္မာစရိယ စာချတန်းတွင် ကျမ်းရင်း ၃ ကျမ်း၊ ဂုဏ်ထူး ၆ ကျမ်းကို တစ်ကြိမ်တည်း ဖြေဆိုအောင်မြင်၍ သာသနဓဇ သီရိပဝရ ဓမ္မာစရိယ သိရောမဏိဘွဲ့ ဆက်ကပ်ခံရသည်။ မန္တလေး တောင်သမန်တိုက်ဆရာတော် ရှင်ကေသဝ (၁၉၀၇-၁၉၇၃) ထံတွင် မန္တလေးစာချနည်း ထပ်မံလေ့လာသင်ယူခဲ့သည်။

အစိုးရဓမ္မာစရိယစာချတန်း အောင်ပြီး သက်တော် ၂၅ သိက္ခာ ၅ ဝါရတွင် ပခုက္ကူ မဟာဝိသုတာရာမတိုက် ဂဏဝါစက စာချ အဖြစ် တာဝန်ပေးအပ်ခံရကာ နိကာယ်ငါးရပ်ကို ပါဠိတော် အဋ္ဌကထာ ဋီကာ တွဲလျက် ပခုက္ကူစာချနည်းဖြင့် ပြန်လည်ပို့ချသည်။ ၁၉၅၄ ခုနှစ် ဆဋ္ဌသင်္ဂါယနာတင်ပွဲတွင် ပခုက္ကူ မဟာဝိသုတာရာမတိုက်မှ မူလဝိသောဓက၊ ပဋိဝိသောဓက တာဝန်များ ထမ်းဆောင်ခဲ့သည်။

ရဟန်း ၈ ဝါရ ၁၉၅၄ ခုနှစ် ၇ ကြိမ်မြောက် တိပိဋကဓရ ရွေးချယ်ပွဲကို စတင်ဝင်ရောက်ဖြေဆိုရာ ဝိနယပိဋက အာဂုံ၌ ဝိသိဋ္ဌ (ဂုဏ်ထူး)၊

ရေးဖြေ၌ မဟာ (ဂုဏ်ထူး) နှစ်ရပ်ဖြင့် အောင်မြင်၍ ဝိသိဋ္ဌ ဝိနယဓရ၊ မဟာဝိနယကောဝိဒ ဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။ ၁၉၅၅ ခုနှစ် ၈ ကြိမ်မြောက်နှင့် ၁၉၅၆ ခုနှစ် ၉ ကြိမ်မြောက် တိပိဋကဓရ ရွေးချယ်ပွဲ၌ သုတ္တန္တပိဋကသင်ရိုး ဒီဃနိကာယ် ၃ ကျမ်း အာဂုံ၌ ဝိသိဋ္ဌ (ဂုဏ်ထူး)၊ ရေးဖြေ၌ အောင်မှတ် (ရိုးရိုး) အောင်မြင်၍ ဝိသိဋ္ဌ ဒီဃဘာဏက၊ ဒီဃနိကာယ ကောဝိဒဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။ ၁၉၅၇ ခုနှစ် ၁၀ ကြိမ်မြောက် တိပိဋကဓရ ရွေးချယ်ပွဲ၌ အဘိဓမ္မပိဋက ပထမပိုင်း ၅ ကျမ်း အာဂုံနှင့် ရေးဖြေ၊ ၁၉၅၉ ခုနှစ် ၁၂ ကြိမ်မြောက် တိပိဋက ရွေးချယ်ပွဲ၌ အဘိဓမ္မပိဋက ဒုတိယပိုင်း ၂ ကျမ်း အာဂုံနှင့် ရေးဖြေ အောင်မြင်၍ ဝိသိဋ္ဌအာဘိဓမ္မိက အဘိဓမ္မကောဝိဒဘွဲ့ ဆက်ကပ်ခံရသည်။ သက်တော် ၃၃ သိက္ခာ ၁၃ ဝါရတွင် ဝိသိဋ္ဌ တိပိဋကဓရ တိပိဋက ကောဝိဒဘွဲ့ ဆက်ကပ်ခံရရာ ဒုတိယမြောက် ပခုက္ကူ တိပိဋကဓရဆရာတော်အဖြစ် ပူဇော်ခံရသည်။

၁၉၆၀ ပြည့်နှစ် ဇွန်လ ၂၆ ရက် တနင်္ဂနွေနေ့တွင် မန္တလေးမြို့ ပရိယတ္တိသာသနဟိတအသင်း သာသနဗိမာန်တော်ကြီး နိုင်ငံတော်သမ္မတက ဘွဲ့တံဆိပ် ဆက်ကပ်ကျင်းပ၍ တိပိဋကဓရ တိပိဋကကောဝိဒ အရှင်နေမိန္ဒသည် တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဘွဲ့တံဆိပ်ရပြီးနောက် နိကာယ်ပါဠိတော်များကို ဆက်လက်ပြန်ဆိုရန် မဇ္ဈိမနိကာယ် ၃ ကျမ်း အာဂုံရပြီးချိန်တွင် ဓမ္မာစရိယဆရာရင်း ရှင်သုန္ဒရ တားမြစ်၍ လက်လျှော့ခဲ့ရသည်။

၁၉၆၁ ခုနှစ် ဆဋ္ဌမအကြိမ် မဟာဝိသုတာရာမိက ဂဏဝါစက နိကာယ အစည်းအဝေးတွင် မဟာဝိသုတာရာမတိုက်အုပ် ရှင်နန္ဒိယ၊ စာချ ရှင်မာဃိန္ဒ၊ ရှင်ဓမ္မိက၊ ရှင်နာယက တို့နှင့်အတူ နိကာယ ဂိုဏ်းဝန်ဆောင် ဆရာတော်အဖြစ် တင်မြှောက်ခံရသည်။

၁၉၇၅ ခုနှစ်၊ ဧပြီလ ၁၈ ရက် သောကြာနေ့ ည ၇ နာရီတွင် မဟာဝိသုတာရာမ အဓိပတိ မဟာနာယက ရှင်ဂန္ဓမာ (၁၈၉၃-၁၉၈၀) သည် မဟာဝိသုတာရာမတိုက်ကြီး၏ နောင်ရေးကိုမျှော်ကိုး၍ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ရှင်နေမိန္ဒအား တိုက်တာလွှဲအပ် တာဝန်ပေးအပ်သည်။ ၁၉၇၉ ခုနှစ် ဇွန်လ ၂၃ ရက် စနေနေ့တွင် မဟာဝိသုတာရာမ အဓိပတိ

နာယက ရှင်ဂန္ဓမာသည် သံဃာ ၅၃၀ ကျော် မျက်မှောက်၌ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ရှင်နေမိန္ဒအား မဟာဝိသုတာရာမတိုက်ကြီး၏ မဟာနာယကအဖြစ် တိုက်တာလွှဲအပ် စာတမ်းဖြင့် ထပ်မံလွှဲအပ်သည်။ လွှဲအပ်စာတမ်းတွင် 'ဤကျောင်းတိုက်ကြီး၏ တာဝန်ကိစ္စများကို ထူးခြားစွာဆောင်ရွက်နေသော သာသနာ့အာဇာနည်ပုဂ္ဂိုလ်ဖြစ်သည့်အတွက်ကြောင့် မည်သည့်အရပ်၌ နေသည်ဖြစ်စေ၊ မည်သို့ဖြစ်စေ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိကဖြစ်သော အရှင်နေမိန္ဒကို ဤ မဟာဝိသုတာရာမကျောင်းတိုက်ကြီး၏ မဟာနာယကအဖြစ်ဖြင့် အသိအမှတ်ပြုလိုက်သည်' ဟု ဖော်ပြထားသည်။ ရှင်နေမိန္ဒသည် ယခင် နှစ်ကြိမ်တိုင်တိုင် ငြင်းဆန်ခဲ့သော်လည်း တတိယအကြိမ်တွင် ဆရာတော်ကြီး၏ ဆန္ဒကို လက်ခံခဲ့သည်။ ၁၉၈၀ ပြည့်နှစ် မေလ ၁၆ ရက် သောကြာနေ့တွင် မဟာဝိသုတာရာမ အဓိပတိ နာယက ရှင်ဂန္ဓမာ စုတိကမ္မဇရုပ် ချုပ်တော်မူခဲ့သည်။

ပခုက္ကူ မဟာဝိသုတာရာမတိုက် အဓိပတိနာယကအဖြစ် လွှဲအပ်ခဲ့သော်လည်း ၁၉၇၈ ခုနှစ်ကပင် မော်လမြိုင်မြို့ တောင်ဝိုင်းရပ်၌ မဟာဝိသုတာရာမ ဓမ္မဗိမာန်၌ ပရိယတ် ပဋိပတ် ခုရနှစ်ပါးကို ကျင့်ကြံအားထုတ်သည်။ ၁၉၇၉ ခုနှစ် ဂိုဏ်းပေါင်းစုံ သံဃာ့ညီညွတ်ရေး အစည်းအဝေးကြီး၌ အကြံပေးအဖြစ် ပါဝင်ခဲ့သည်။ ထို့ပြင် မစိုးရိမ်ဆရာတော်ဦးဆောင်သော နိကာယ်သာသနာတော် ထွန်းကားရေးအသင်း ဩဝါဒါစရိယ၊ ရန်ကုန်မြို့ ဘုရားဖြူကျောင်းတိုက် ဝိနယာနုဂ္ဂဟအသင်း နာယက၊ ပခုက္ကူမြို့ သံဃာ့ဆေးရုံ ဂိလာနသံဃာတော်များ စောင့်ရှောက်ရေးအဖွဲ့နာယက၊ မော်လမြိုင် သုတမာ စရိယအသင်း ဩဝါဒါစရိယ၊ သထုံ သုဝဏ္ဏဘူမိ ပရိယတ္တိသာသနဟိတအသင်း ဩဝါဒါစရိယ တာဝန်များ ထမ်းဆောင်ခဲ့သည်။

၁၉၉၀ ပြည့်နှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့ ဆက်ကပ်ခံရသည်။

သက်တော် ၆၃ သိက္ခာ ၄၃ ဝါရ ၁၉၉၁ ခုနှစ် မေလ ၂၇ ရက် တနင်္လာနေ့တွင် ဦးနှောက်အမှေးရောင်ရောဂါဖြင့် ရန်ကုန်မြို့ အထွေထွေရောဂါကု ဆေးရုံသစ်ကြီး၌ တစ်ဘဝ တစ်ခန္ဓာ ချုပ်ငြိမ်းခဲ့ပါသည်။





# မဟာဂန္ဓာရုံ
# တိပိဋကဆရာတော်
# ရှင်သုမင်္ဂလာလင်္ကာရ

(၁၉၄၆ — ၂၀၀၆)

မြန်မာနိုင်ငံ ပရိယတ္တိသာသနာဝင်တွင် စတုတ္ထမြောက် တိပိဋကဓရ၊ ဓမ္မဘဏ္ဍာဂါရိက ဖြစ်တော်မူ၍ ဝိနယ ပါဠိတော် ပါရာဇိကဏ်ပါဠိ၊ ရွှေကျင်နိကာယ၏ ပထမဆုံး တိပိဋကဓရ၊ တိပိဋကစာမေးပွဲ သမိုင်း၌ သက်တော်ဝါတော် အငယ်ဆုံး တိပိဋကဓရအဖြစ် ထင်ရှားသည်။ အမရပူရ မဟာဂန္ဓာရုံဆရာတော်၏ တပည့်ရင်းဖြစ်၍ သာမဏေ ၇ ဝါ ရတွင် မန္တလေး ပရိယတ္တိသာသနဟိတအသင်းကြီး၏ သာမဏေ သကျ သီဟ တတိယဆင့် စာမေးပွဲကို ပထမဂုဏ်ထူးဖြင့်အောင်မြင်ရာ "ပရိယတ္တိ သာသနာလင်္ကာရ သာမဏေကျော်" ဘွဲ့ရခဲ့သည်။ သာမဏေဝတ်ဖြင့် အစိုးရပထမပြန် ငယ်၊ လတ်၊ ကြီး စာမေးပွဲသုံးရပ်လုံးကို ပါဠိဘာသာဖြင့် ဖြေဆိုအောင်မြင်ကာ ပါဠိပါရဂူဘွဲ့ရသည်။ ရဟန်း ၁ ဝါရတွင် "သာသနဓဇ သီရိပဝရ ဓမ္မာစရိယ" ဘွဲ့ရခဲ့သည်။ ရဟန်း ၂ ဝါရတွင် တိပိဋက စာမေးပွဲကြီးကို စတင်ဖြေခဲ့ရာ သက်တော် ၂၇ သိက္ခာ ၇ ဝါရ၌ "တိပိဋက ဓရ တိပိဋက ကောဝိဒ" ဘွဲ့ရခဲ့သည်။ ၈ ဝါရတွင် ရန်ကုန် ကမ္ဘာအေး၌ "မင်္ဂလာရာမ" (တိပိဋကမဟာဂန္ဓာရုံ) ကျောင်းတိုက်တည်၍ ပရိယတ္တိ သာသနာပြုသည်။ သိက္ခာ ၂၃ ဝါရ ၁၉၈၉ ၌ လောကဓံတရား၏ ရိုက်ခတ်ပုတ်မှုကို အပြင်းထန်ဆုံး ကြုံတွေ့ခဲ့ရသည်။ သိက္ခာ ၃၂ ဝါရ၌ ထိုင်းနိုင်ငံ မဟာချူလာ လောင်ကွန်း ရာဇဝိဇ္ဇာလယ တက္ကသိုလ်က ဗုဒ္ဓစာပေဆိုင်ရာ ဂုဏ်ထူးဆောင်ပါရဂူ (ပီအိပ်ချ်ဒီ) ဘွဲ့ ချီးမြှင့်ခြင်း ခံရသည်။

**သုမင်္ဂလာလင်္ကာရ၊ ရှင်၊ မဟာဂန္ဓာရုံ တိပိဋကဆရာတော် —**

၁၉၄၆ ခုနှစ် ဇွန်လ ၁၀ ရက် သောကြာနေ့တွင် စစ်ကိုင်းတိုင်း ရွှေဘိုခရိုင် ဝက်လက်မြို့နယ် အင်ကြင်းပင်ရွာ၌ ဖွားသည်။ အဖ ဦးအောင်၊ အမိ ဒေါ်ခင်ကြည် ဖြစ်သည်။ မွေးချင်း ၄ ဦးတွင် ဒုတိယမြောက်သား၊ အမည် မောင်သောင်းတင် ဖြစ်သည်။

၅ နှစ်အရွယ်တွင် အင်ကြင်းပင်ရွာ ရွာဦးကျောင်း အဖိုးလေး ရှင်ဉာဏုတ္တရ၊ ၈ နှစ်အရွယ်တွင် ရွှေစည်းခုံဆရာတော် ဘထွေး ရှင်ဇဋိလ တို့ထံ မြန်မာစာ၊ ဂဏန်းသင်္ချာ ဗုဒ္ဓဘာသာ အခြေခံစာများ သင်ယူခဲ့သည်။ ၁၂ နှစ်တွင် ရွှေစည်းခုံဆရာတော်ကို ဥပဇ္ဈာယ်ယူ၍ သာမဏေဖြစ်သည်။ ဘွဲ့ ရှင်သုမင်္ဂလ။ ရှင်ဒါယကာမှာ မိဘနှစ်ပါးဖြစ်သည်။ သာမဏေပြုပြီး ဥပဇ္ဈာယ်ဆရာထံ အခြေခံစာများ ဆက်လက်သင်ယူသည်။ ၁ ဝါရတွင် စစ်ကိုင်းတောင်ရိုး တောင်ရေဦး အနောက်တိုက် (တိုက်ဝါကြီး) ဆရာတော် ဘိုးလေး ရှင်အရိယဝံသ ထံ ပြောင်းရွှေ့ပညာသင်သည်။ ဘိုးလေးဆရာတော်နှင့် စာချ ရှင်ဝိသုတတို့ထံ ပထမငယ် အခြေခံစာများ သင်ယူသည်။ ၂ ဝါရတွင် အမရပူရမြို့ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသ (၁၉၉၀—၁၉၇၇) ထံ ပြောင်း၍ ဆရာတော်နှင့် စာချဆရာတော်များထံ ပိဋကစာပေများ သင်ယူသည်။ မဟာဂန္ဓာရုံဆရာတော်ထံ သီလက္ခန်ကို ဆိုဝါ။ ပါစိတ် မဟာဝါ စူဠဝါ ပရိဝါ ဓမ္မပဒ အင်္ဂုတ္တိုရ်ပါဠိတော် အဋ္ဌကထာများကို လိုက်ဝါဖြင့် ဇွဲလုံ့လထက်သန်စွာ သင်ယူသည်။

သာမဏေ ၃ ဝါရတွင် မဟာဂန္ဓာရုံကျောင်းတိုက် မူလတန်း စာမေးပွဲ၌ ပထမဂုဏ်ထူး။ ၄ ဝါရတွင် မန္တလေး ပရိယတ္တိသာသနာ့ဟိတအသင်း သာမဏေ သကျသီဟ ပထမဆင့် စာမေးပွဲ၌ တတိယ (ဂုဏ်ထူး)။ ၅ ဝါတွင် သာမဏေသကျသီဟ ဒုတိယဆင့်စာမေးပွဲ၌ ဒုတိယ (ဂုဏ်ထူး)။ အစိုးရ ပထမပြန် ပထမငယ်တန်း၌ ပထမ။ ၆ ဝါတွင် အစိုးရ ပထမပြန် ပထမလတ်တန်း၌ ဒုတိယ။ ၇ ဝါတွင် သာမဏေ သကျသီဟ တတိယဆင့် စာမေးပွဲ၌ ပထမ (ဂုဏ်ထူး) ဖြင့် အောင်မြင်၍ “ပရိယတ္တိ သာသနာလင်္ကာရ သာမဏေကျော်” ဘွဲ့ ရခဲ့သည်။ ထိုနှစ်မှာပင် အစိုးရစာချတန်း ဓမ္မာစရိယစာမေးပွဲ၌ အဋ္ဌကထာ (၂) ကျမ်းအောင်မြင်သည်။

သာမဏေ ၈ ဝါ ၁၉၆၆ ခုနှစ် ဇွန်လ ၂၆ ရက် တနင်္ဂနွေနေ့တွင် ရန်ကုန်မြို့ ရန်ကင်း မဟာဗောဓိစာသင်တိုက် ခဏ္ဍသိမ်၌ ရဟန်းဖြစ်သည်။ အမရပူရ မဟာဂန္ဓာရုံဆရာတော်က ဥပဇ္ဈာယ်ပြု၍ ရွှေကျင်သာသနာပိုင် မြောင်းမြဆရာတော် ရှင်ဉာဏာဘိဝံသ (၁၈၈၉—၁၉၇၅) က ကမ္မဝါစာ ဩဝါဒဆရာတော်အဖြစ် ဆောင်ရွက်သည်။ ရဟန်းဒါယကာမှာ ကမ္ဘာအေး အေးငြိမ်းရိပ်သာ စာသင်တိုက်ဆရာကြီး ဒေါ်ရူပမာလာ (ပထမကျော်၊ ဓမ္မာစရိယ) ဖြစ်သည်။ ရဟန်းဘွဲ့ ရှင်သုမင်္ဂလာလင်္ကာရ ဖြစ်သည်။

ရဟန်း ပထမဝါတွင် အစိုးရဓမ္မာစရိယ စာချတန်းကို ပါဠိတျာဒိ မြန်မာဂုဏ်ထူးဖြင့် အောင်မြင်၍ "သာသနဓဇ သိရီပဝရ ဓမ္မာစရိယ" ဘွဲ့ရသည်။ ရဟန်း ဒုတိယဝါတွင် သက္ကသီဟ စာသင်တန်းနှင့် စာချတန်း များ ဖြေဆိုရန် စစ်ကိုင်းတောင် ရေဦးအနောက်တိုက်၌ ဝါကပ်သည်။ ရတနာဓူဝံချောင်ဆရာတော်ထံ၌ "ဘေဒစိန္တာ" စာဝါကို အစအဆုံး တစ်ပါးတည်း သင်ယူသည်။ ဝါကျွတ်ချိန် ဓမ္မာစရိယဘွဲ့ယူရန် ရန်ကုန် ဆင်းလာစဉ် ဘောက်ထော် ဒက္ခိဏာရုံဆရာတော် ရှင်တေဇနိယာဘိဝံသ (သ,စ,အ,ဓမ္မာစရိယ၊ တိပိဋက တိနိကာယ ကောဝိဒ) ၏ တိုက်တွန်းမှုဖြင့် တိပိဋကစာမေးပွဲဝင်ရန် ဆုံးဖြတ်ခဲ့သည်။

တိပိဋကစာမေးပွဲဝင်ရန် ရန်ကုန် ကမ္ဘာအေး ဝိဇ္ဇောတာရုံကျောင်း တိုက်၊ ထို့နောက် ဗဟန်း မဟာဝိသုဒ္ဓါရုံတိုက်သစ် ဆရာတော် ရှင်ဝါသ ဝါဘိဝံသထံ ပြောင်းရွှေ့ခဲ့သည်။ ၁၉၆၈ ခု တိပိဋက စာမေးပွဲတွင် ဝိနည်း ၅ ကျမ်း အာဂုံပြန်နှင့် သဘောရေးဖြေ ၂ ရပ်လုံး၌ အောင်မြင်၍ ဝိနယဓရ ဝိနယကောဝိဒဘွဲ့။ ၁၉၆၉ တိပိဋကစာမေးပွဲတွင် အဘိဓမ္မာ ရှေ့ပိုင်း ၅ ကျမ်း အာဂုံပြန်နှင့် သဘောရေးဖြေစာမေးပွဲ ၂ ရပ်လုံး အောင်မြင်သည်။ ထိုနှစ် အစိုးရစာချတန်း ဓမ္မာစရိယစာမေးပွဲတွင် ပါဠိဂုဏ်ထူးဖြင့် အောင်မြင်၍ သာသနဓဇ ဓမ္မာစရိယ သာသနဓဇ အဘိဓမ္မပါဠိပါရဂူဘွဲ့ရသည်။ ၁၉၇၀ ပြည့်နှစ်တွင် တိပိဋကစာမေးပွဲကို မဖြေဘဲ တစ်နှစ်ရပ်နားသည်။ ၁၉၇၁ ခု တိပိဋကစာမေးပွဲတွင် အဘိဓမ္မာနောက်ပိုင်း ၂ ကျမ်း အာဂုံ ပြန်နှင့် ရေးဖြေစာမေးပွဲ ၂ ရပ်လုံး အောင်မြင်၍ "အဘိဓမ္မိက အဘိဓမ္မ ကောဝိဒ" ဘွဲ့။ ၁၉၇၂ ခု တိပိဋက စာမေးပွဲ သုတ္တန်၊ ဒီဃနိကာယ် ၃ ကျမ်း အာဂုံပြန်စာမေးပွဲ ၉ ရက်

ပြန်ဆိုရမည်ကို ၈ ရက်ပြန်ဆိုပြီး အကြောင်းမညီညွတ်၍ ထိုနှစ်စာမေးပွဲ နှုတ်ထွက်စာတင်ကာ ရပ်နားခဲ့သည်။ ၁၉၇၃ ခု တိပိဋကစာမေးပွဲ သုတ္တန်၊ ဒီဃနိကာယ် ၃ ကျမ်း အာဂုံပြန်နှင့် သဘောရေးဖြေစာမေးပွဲ ၂ ရပ်လုံးကို အောင်မြင်၍ "ဒီဃဘာဏက ဒီဃနိကာယ ကောဝိဒ" ဘွဲ့ရကာ သက်တော် ၂၇ သိက္ခာ ၇ ဝါရတွင် 'တိပိဋကကောဝိဒ' ဘွဲ့ ရရှိခဲ့ပါသည်။ ဘွဲ့တံဆိပ်နှင့်အတူ အရိုးဝါ ကနက္ကဒဏ် ထီးဖြူတော် သုံးလက်တံဆိပ်ပါ သာသနာ့အောင်လံတော်၊ ဆွမ်းဆံတော်အလှူ မိဘ အတွက် ထောက်ပံ့စရိတ်၊ တပည့် ၂ ဦးနှင့်အတူ ကုန်း ရေ လေ ခရီးအခမဲ့ သွားလာခွင့် အထက်တန်းလက်မှတ်တို့ ဆက်ကပ်ခံရသည်။

အမရပူရ မဟာဂန္ဓာရုံတိုက် စာပေသင်ယူနေစဉ် ဉာဏ်ပညာ ထက်မြက် ဖွံ့လှံ့လ ကြီးမားသည့်အတွက် မဟာဂန္ဓာရုံဆရာတော်၏ ဂရုစိုက်ခံရသည်။ မဟာဂန္ဓာရုံဆရာတော်၏ ကျမ်းစာရေးသားမှုလုပ်ငန်း ကို ကူညီခွင့်ရသည်။ စာချဘုန်းကြီး တာဝန်၊ ကျောင်းဘုန်းကြီး တာဝန် များလည်း ပေးအပ်ခံရသည်။ ရန်ကုန် ဗဟန်း ဝိသုဒ္ဓါရုံတိုက်သစ်မှ တိပိဋကစာမေးပွဲဝင်ရောက်စဉ် စာချတာဝန် တစ်ဘက်က ထမ်းဆောင် ခဲ့သည်။ တိပိဋကစာမေးပွဲကို မဟာဝိသုဒ္ဓါရုံတိုက်သစ်ဆရာတော်ကို ဓမ္မာ စရိယပြု၍ ဝင်ရောက်ဖြေဆိုရာ အဘိဓမ္မာ ပဋ္ဌာန်းကို ရန်ကုန် မူလ ပဋ္ဌာန်းဆရာတော် ရှင်နာရဒ (၁၈၉၇—၁၉၈၃)၊ ဆူးလေ အဘိဓမ္မာ အသင်း သင်တန်းဆရာကြီး ဦးဘာဘာတို့ထံ နည်းခံခဲ့သည်။

တိပိဋကရေဘွဲ့ရပြီး ၁၉၇၄ ခု ဧပြီလ ၂၈ ရက် တနင်္ဂနွေနေ့တွင် ရန်ကုန်မြို့ ရဟန်းအမကြီး ဒေါ်ရူပမာလာ၏ ကမ္ဘာအေး 'အေးငြိမ်း ရိပ်သာ' ကို အလှူခံ၍ "မဟာဂန္ဓာရုံ" အမည်ဖြင့် စာသင်တိုက် တည်သည်။ တပည့်ရဟန်း ၂ ပါး၊ သာမဏေ ၂ ပါးဖြင့် စတင်ခဲ့ရာ နောင်အခါ သံဃာ ၄၀၀ ခန့်ရှိသော တိပိဋကမဟာဂန္ဓာရုံကျောင်းတိုက်အဖြစ် ထင်ရှားသည်။ အမရပူရ မဟာဂန္ဓာရုံဆရာတော်၏ မူအတိုင်း ပရိယတ္တိစာသင်တိုက်ကို ဦးဆောင်ခဲ့ရာ တိပိဋကစာမေးပွဲ၊ အစိုးရစာချတန်း ဓမ္မာစရိယစာမေးပွဲ အောင် တပည့်များစွာ ပေါ်ထွန်းခဲ့သည်။ မင်္ဂလာဒုံ ရွှေနံ့သာစံပြကျေးရွာ တိပိဋက မဟာဂန္ဓာရုံတိုက်၊ မှော်ဘီ တိပိဋက မဟာဂန္ဓာရုံတိုက်ခွဲများ တိုးချဲ့တည်ထောင်သည်။

၁၉၉၀ ပြည့်နှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့။ ၁၉၉၈ ခုနှစ်တွင် ထိုင်းနိုင်ငံ ချူလာလောင်ကွန်း ရာဇဝိဇ္ဇာလယတက္ကသိုလ်က ဗုဒ္ဓစာပေဆိုင်ရာ ဂုဏ်ထူးဆောင်ပါရဂူ (ပီအိပ်ချ်ဒီ) ဘွဲ့ ဆက်ကပ်ခံရသည်။ ဘွဲ့အတွက် ပါဠိဘာသာဖြင့် 'တိပိဋကံ' စာတမ်းတင်သွင်းခဲ့သည်။ ၁၉၉၈ ခုနှစ်တွင် နိုင်ငံတော်အစိုးရ၏ "တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက" ဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။ ၁၉၉၆ ခုနှစ် ၁၄ ကြိမ်မြောက် ရွှေကျင်ဂိုဏ်းလုံးကျွတ် အစည်းအဝေးကြီး၌ ဗဟိုအလုပ်အမှုဆောင်အဖွဲ့ဝင်၊ အကျိုးတော်ဆောင်၊ ဧည့်ခံဌာနတာဝန်ခံ၊ အခမ်းအနားမှူးအဖြစ် ဆောင်ရွက်ခဲ့သည်။

ပရိယတ္တိစာပေ ပို့ချရုံမျှမက သီလက္ခန်ဋီကာသစ် ကောက်နုတ်ရှင်းလင်းချက်။ ဝိနည်းဋီကာ ကောက်နုတ်ရှင်းလင်းချက် ၃ တွဲ ၄ အုပ်။ ဩဝါဒကထာ၊ တိပိဋကံ၊ ရာပြည့်သဘင် မဟာဓမ္မပူဇာ။ သုတ်မဟာဝါဋီကာ ပို့ချစဉ် ရှင်းလင်းချက် ၂ တွဲ။ ပါထိကဝဂ္ဂဋီကာ ပို့ချစဉ် ရှင်းလင်းချက် ၂ တွဲ။ မြေမြတ်မဟာတရားမြတ်ဒေသနာကျမ်းစာများ ပြုစုခဲ့သည်။

ပြည်ပခရီးအနေဖြင့် ထိုင်း၊ အိန္ဒိယ ဘုရားဖူးခရီး (၁၉၈၃)၊ ချင်းမိုင် (ဇင်းမယ်) မြို့တော် ရာပြည့်ပွဲတော်နှင့် ပိဋကဘာသာပြန် အောင်ပွဲသဘင် (၁၉၉၇)၊ ထိုင်းနိုင်ငံ ဘန်ကောက် ချူလာလောင်ကွန်း ရာဇဝိဇ္ဇာလယ တက္ကသိုလ်ဘွဲ့ဆက်ကပ်ပွဲ (၁၉၉၈)၊ အမေရိကန်နိုင်ငံ နယူးယောက် ကမ္ဘာ့ ကုလသမဂ္ဂ ဘာသာရေးညီလာခံ (၂၀၀၀)၊ ထိုင်းနိုင်ငံ ဘန်ကောက် ဗုဒ္ဓဘာသာညီလာခံ (၂၀၀၀)၊ နီပေါလ်နိုင်ငံ သာသနာပြုခရီး (၂၀၀၂) များ ကြွရောက်ခဲ့သည်။

ဂိုဏ်းပေါင်းစုံ သံဃာညီညွတ်ရေး အကြံပေးအဖွဲ့ဝင်။ ရွှေကျင်ဂိုဏ်း ဂိုဏ်းလုံးဝန်ဆောင် နာယကအဖွဲ့ဝင်။ ရန်ကုန်တိုင်း ရွှေကျင်နိကာယ ဝိနည်းစာပြန်ပွဲ နာယက။ အကျိုးတော်ဆောင်၊ အပြည်ပြည်ဆိုင်ရာ ထေရဝါဒ ဗုဒ္ဓသာသနာပြုတက္ကသိုလ်၊ ဆူးလေစေတီတော်၊ တက္ကသိုလ်များ ဗုဒ္ဓဘာသာအသင်း၊ နိကာယ်သာသနာထွန်းကားရေးအသင်း၊ မြန်မာနိုင်ငံလုံး ဆိုင်ရာ ဗုဒ္ဓဘာသာအဖွဲ့ချုပ်၊ ရန်ကုန်မြို့တော်လုံးဆိုင်ရာ ပရိယတ္တိ သာသနာ့နုဂ္ဂဟ ဆန်လှူအသင်း၊ နိကာယ်ငါးရပ်ဝင် ဓမ္မသာကစ္ဆာအဖွဲ့ချုပ်၊ မော်လမြိုင်ကျွန်းမြို့ ပရိယတ္တိသာသနာလင်္ကာရအသင်း၊ ရန်ကုန် သာသန ဟိတကာရီသီလရှင်အဖွဲ့ချုပ်တို့တွင် ဩဝါဒစရိယဆရာတော်အဖြစ်

ဆောင်ရွက်သည်။ ဇာတိ အင်ကြင်းပင်ရွာ ရှေးဟောင်းစေတီ ၃ ဆူ ပြိုပျက်နေသည်ကို ပြန်လည်မွမ်းမံ ပြင်ဆင်ခြင်း၊ ရေတွင်းရေကန် တူးဖော်ခြင်း၊ အခြေခံမူလတန်းကို အလယ်တန်းကျောင်း အဆောက်အအုံ ဆောက်လုပ်ပံ့ပိုးခြင်းလုပ်ငန်းများ ဆောင်ရွက်ခဲ့သည်။

သက်တော် ၆၀ သိက္ခာ ၄၀ ဝါရ ၂၀၀၆ ခုနှစ် စက်တင်ဘာလ ၂၄ ရက် တနင်္ဂနွေနေ့တွင် ထိုင်းနိုင်ငံ ဘန်ကောက်မြို့၌ ဆေးကုသမှု ခံယူနေစဉ် တစ်ဘ၀ တစ်ခန္ဓာ ချုပ်ငြိမ်းခဲ့ပါသည်။



# ကျမ်းကိုး


၁။ ကုမာရ၊ အရှင်။ ဝိသုဒ္ဓါရုံ မြောင်းမြဆရာတော်နှင့် ဗုဒ္ဓမြတ်စွာ သာသနာ။ ဒုကြိမ်။ ရန်ကုန်၊ ဝင်းမြင့်အောင်စာပေ၊ ၁၉၉၈။

၂။ ကေလာသ၊ အရှင်။ တိပိဋကရေ ဝုတ္တန္တသန္ဒိပနီ။ ရန်ကုန်၊ သာသနာရေးဦးစီးဌာန၊ ၁၉၇၈။

၃။ ကေလာသ၊ အရှင်။ မဟာစည်ထေရဝုတ္တန္တဝိလာသိနီ၊ ၂တွဲ။ ရန်ကုန်၊ ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့၊ ၁၉၈၆။

၄။ ----။ အရှင် သုန္ဒရဆရာတော်ဘုရားကြီး၏ မဟာထေရစရိတနှင့် ဘုန်းတော်ဘွဲ့ ---။ ရန်ကုန်၊ ဗုဒ္ဓသာသနာအဖွဲ့၊ ၁၉၇၂။

၅။ ကျေးဇူးတော်ရှင် မင်းကွန်းတိပိဋကရေ ဆရာတော်ဘုရားကြီး သက်တော် ၁၀၀ ပြည့် အထိမ်းအမှတ်စာစောင်။ ရန်ကုန်၊ ကမ္ဘာအေး စာပုံနှိပ်တိုက်၊ ၂၀၁၁။

၆။ ကျော်ညွန့်၊ မောင်။ မြန်မာ့အလင်းသတင်းစာ အယ်ဒီတာ။ ဝေဘူ ဆရာတော်ဘုရားကြီး ထေရုပ္ပတ္တိနှင့်ကျင့်စဉ်။ ရန်ကုန်၊ အောင် ကျော်ဦးစာပေ၊ ၁၉၇၈။

၇။ ကျိုက်ဒိုးသာသနာ ရာပြည့်အထိမ်းအမှတ်စာစောင်။ ချောင်းဆုံ (မွန်ပြည်နယ်)၊ --- ယင်းကော်မတီ၊ ၂၀၀၀။

၈။ ကျွန်းကုန်းရွှေကျင်တိုက်သစ် နှစ် ၅၀ မြောက် ရွှေရတုသဘင် စာစောင်။ ရန်ကုန်၊ အောင်ရဝိန်ပုံနှိပ်တိုက်၊ ၁၉၈၀။

၉။ ခေမိန္ဒသာမိ၊ အရှင်။ ခြောက်ထပ်ကြီး ရွှေသာလျောင်းဘုရားကြီး သမိုင်း။ ရန်ကုန်၊ စာပေပေါင်းကူးပုံနှိပ်တိုက်၊ ၁၉၈၂။

၁၀။ ခြောက်ထပ်ကြီးဘုရားကြီးတိုက် အနှစ် ၅၀ ပြည့် ရွှေရတုသဘင် အထိမ်းအမှတ်စာစောင်။ ရန်ကုန်၊ ယင်းကျောင်းပရေးကော်မတီ၊ ၁၉၈၀။
၁၁။ ယောသိတ၊ အရှင်။ တဘာဝသာသနာ။ ---၊ ---၊ ၁၉၈၄။
၁၂။ စေတနာ၊ မောင်။ နိုင်ငံတော်သံဃမဟာနာယကအဖွဲ့ ဥက္ကဋ္ဌ--- ဘဒ္ဒန္တကုဏ္ဍာစာရ ---။ ရန်ကုန်၊ သာသနာရေးဦးစီးဌာန၊ ၁၉၉၂။
၁၃။ စန္ဒဇောတိ၊ အရှင်။ ညောင်လေးပင်တောရ မဟာထေရုပဒါန်။ ရန်ကုန်၊ ဟံသာဝတီ၊ ၁၉၅၄။
၁၄။ ဆင်ကျုံးဆရာတော်။ ရမည်းသင်းခရိုင် သာသနာဝင်သမိုင်း။ ရမည်းသင်း၊ ဆင်ကျုံးတောရတိုက်၊ ၁၉၉၆။
၁၅။ ဇနိန္ဒ၊ ဦး။ တောင်ပေါက်ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိကထာ အကျဉ်းချုပ်။ မော်လမြိုင်၊ သုသမာစာရ လျှပ်စစ်စာပုံနှိပ်တိုက်၊ ၁၉၅၃။
၁၆။ ဇယန္တာဘိဝံသ၊ အရှင်၊ ကန်ဦးဆရာတော်။ အဋ္ဌိနမဟာ ထေရုပ္ပတ္တိဒီပနီ၊ ရန်ကုန်၊ ? ၊ ၁၉၃၅။
၁၇။ ဇောတိပါလ၊ အရှင်။ ဦးသီလဗိမာန်တော်သမိုင်းနှင့် ဦးသီလ ထေရုပ္ပတ္တိ ဝိဘာဝနီကျမ်း။ ဒုကြိမ်။ ရန်ကုန်၊ စိုးမိုးမိတ်ဆက် ပုံနှိပ်တိုက်၊ ၁၉၈၂။
၁၈။ ဉာနိက၊ အရှင်။ ဆရာတော် အရှင်သေဋ္ဌိလ၏ ဘဝဖြစ်စဉ်နှင့် ကမ္ဘာ့ဗုဒ္ဓသာသနာပြုမှတ်တမ်း။ ဒုကြိမ်။ ရန်ကုန်၊ ပျော်ဘွယ် မြို့နယ်အသင်း၊ ၁၉၉၀။
၁၉။ ညောင်တုန်းမြို့ ရွှေဟသ်ာတောရကျောင်းတိုက် ၇၅ နှစ်မြောက် စာစောင်။ ရန်ကုန်၊ စာလုပ်ငန်းပုံနှိပ်တိုက်၊ ၁၉၇၆။
၂၀။ ညောင်တုန်းမြို့ ရွှေဟသ်ာတောရကျောင်းတိုက် နှစ် ၈၀ စာစောင်။ ရန်ကုန်၊ အေးအေးပုံနှိပ်တိုက်၊ ၁၉၈၀။
၂၁။ ညောင်တုန်းမြို့ ရွှေဟသ်ာတောရကျောင်းတိုက် ၈၅ နှစ်မြောက် အထိမ်းအမှတ်စာစောင်။ ရန်ကုန်၊ နေလင်းစာပုံနှိပ်တိုက်၊ ၁၉၈၆။
၂၂။ ညောင်တုန်းမြို့ ရွှေဟသ်ာတောရ --- ဘဒန္တဝိမလ ဘဝနှင့် သာသနာ။ တည်းဖြတ်သူ အောင်ထွတ်။ ရန်ကုန်၊ --- ကော်မတီ၊ ၂၀၀၄။

၂၃။ ညောင်လေးပင်နယ် ရွှေကျောင်နိကာယတောရဂိုဏ်း ဝိနည်းစာပြန်ပွဲ နှစ် ၁၀၀ ပြည့် အထိမ်းအမှတ်စာစောင်၊ ၁၂၅၈-၁၃၅၈။ ညောင်လေးပင်၊ --- စာစောင်ဖြစ်မြောက်ရေးအဖွဲ့၊ ၁၉၉၆။
၂၄။ ညောင်လွန့်တောရ ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း နှင့် ---။ ရန်ကုန်၊ ဇမ္ဗူမိတ်ဆွေ ပိဋကတ်ပုံနှိပ်တိုက်၊ ၁၉၅၄။
၂၅။ တိပိဋကရေဆရာတော် အရှင်သုမင်္ဂလာလင်္ကာရ၏ --- စာစောင်။ ရန်ကုန်၊ ငွေရတုကျောင်းပရေးကော်မတီ၊ ၁၉၉၈။
၂၆။ တိပိဋကရေ ရွှေရတုစာစောင်၊ ၁၃၁၀-၁၃၆၀။ ရန်ကုန်၊ သာသနာရေးဦးစီးဌာန၊ ၁၉၉၈။
၂၇။ တိုးလှ၊ ဒေါက်တာ၊ နှစ်ဆယ်ရာစု၏ မဟာလူသား၊ အရှင်ဝိစိတ္တသာရာဘိဝံသ ---။ ရန်ကုန်၊ တက္ကသိုလ်များသမိုင်း သုတေသနဦးစီးဌာန၊ ၂၀၀၄။
၂၈။ တိက္ခာစာရ၊ အရှင် တောင်တွင်းဘိက္ခု-။ မူလ မင်းကွန်းဇေတဝန် ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ။ ရန်ကုန်၊ ဗမာ့ခေတ် သတင်းစာတိုက်၊ ၁၉၅၉။
၂၉။ တင်မောင်၊ ဦး၊ သင့်ဘဝ -။ အလင်းဆောင်သူများ အတွေ့အကြုံ။ ရန်ကုန်၊ စာပေဗိမာန်၊ ၁၉၇၇။
၃၀။ --- တောင်ပုလုတောရ ကမ္မာအေးဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ။ ရန်ကုန်၊ --- ကာရကအဖွဲ့၊ ၁၉၉၅။
၃၁။ ၁၂၈၀ ပြည့်နှစ် ပဌမကျော်အရေးပုံ။ ရန်ကုန်၊ ပြည်ကြီးမဏ္ဍိုင် ပိဋကတိုက်၊ ၁၉၁၉။
၃၂။ နာရဒ၊ ဘဒ္ဒန္တ။ အဘိဓမ္မာအခါတော်နေ့ အသံလွှင့်တရားတော်များ။ ရန်ကုန်၊ ဆူးလေအဘိဓမ္မာပြန့်ပွားရေးအသင်း၊ ၁၉၈၈။
၃၃။ နန္ဒမာလာဘိဝံသ၊ အရှင်။ ရွှေဟင်္သာဆရာတော်၊ ဘဝနှင့်စာပေ အထွေထွေ။ စစ်ကိုင်း၊ မဟာသုဗောဓာရုံတိုက်၊ ၁၉၈၀။
၃၄။ ပခုက္ကူမြို့ မဟာဝိဇယာရာမတိုက် --- ဆရာတော်ဘုရားကြီး၏ သင်္ခေပထေရုပ္ပတ္တိကထာ၊ သာသနာ့ရောင်ခြည်၊ အတွဲ ၅ အမှတ် ၄ (နိုဝင်ဘာ ၁၉၅၆)။

၃၅။ ပညာဇောတ၊ ဦး (သဲအင်းအကာလိကော)။ မူလသဲအင်းဂူ ဆရာတော်ဘုရားကြီး --- ထေရုပ္ပတ္တိကထာ၊ ၂တွဲ။ ရန်ကုန်၊ မှော်ဘီ သဲအင်းဂူကမ္မဌာန်းကျောင်းတိုက်၊ ၁၉၉၉။
၃၆။ ပဥ္စမပေပင် နတ်မှီတောရဆရာတော် ရှင်ဥက္ကဋ္ဌ၊ ၁၈၉၇-၁၉၇၈။ ရန်ကုန်၊ ပဥ္စဂံစာအုပ်တိုက်၊ ၂၀၁၅။
၃၇။ ပဏ္ဍိတ၊ အရှင်။ နော်မံကျောင်းကြီးတိုက်သမိုင်းနှင့် ဆရာတော်ကြီးများ။ ရန်ကုန်၊ ရွှေပုရပိုက်စာပေ၊ ၁၉၈၈။
၃၈။ ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ အဋ္ဌုပ္ပတ္တိသမိုင်း။ ရန်ကုန်၊ ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့။ ၁၉၅၈။
၃၉။ မုဒ္ဓုန်းဆရာတော် ဘဒ္ဒန္တကောသလ္လမဟာထေရ်မြတ်၏ ထေရုပ္ပတ္တိစာတမ်းတော်။ ရန်ကုန်၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ၁၉၈၄။
၄၀။ မိုးဂျာနယ်၊ မဃဒေဝလင်္ကာသစ် ရာပြည့်အကြိုအထိမ်းအမှတ်၊ အမှတ် ၈ (ဇွန် ၂၀၀၃)။
၄၁။ မင်းတင်မွန်၊ ဒေါက်တာ။ သာသနာ့တံခွန်စံပြပုဂ္ဂိုလ်ထူး သပြေကန်ဆရာတော်ဘုရား၊ ရန်ကုန်၊ ရတနာမင်းစာပေ၊ ၁၉၉၉။
၄၂။ မန်လည်ဆရာတော်။ ဂတိဝိသောဓနေဒီပနီနှင့် ဒိဋ္ဌိဝိသောဓနေဝဇီရဂ္ဂဒီပနီ။ ဒုကြိမ်။ ရန်ကုန်၊ သုဓမ္မဝတီ၊ ၁၉၇၀။
၄၃။ မြင်းခြံမြို့ စွန်းလွန်းဂူကျောင်းဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိနှင့် တရားတော်များ။ စကြိမ်။ ရန်ကုန်၊ သုဓမ္မဝတီစာပုံနှိပ်တိုက်၊ ၁၉၅၂။
၄၄။ မြင့်ဆွေ။ အရှင်အာဒိစ္စဝံသ အတ္ထုပ္ပတ္တိ။ ရန်ကုန်၊ မြန်မာပြည်စာအုပ်တိုက်၊ ၁၉၆၅။
၄၅။ မြင့်မောင်၊ ဒါရိုက်တာ-။ အင်းလေး ရွှေဥဒေါင်းတောင်ဆရာတော်ကြီး။ ဒုကြိမ်။ ရန်ကုန်၊ စံရှားစာပေ၊ ၁၉၈၅။
၄၆။ မြောင်းမြဆရာတော် ဘဒ္ဒန္တဉာဏိက (အင်္ဂလန်)၏ စိန်ရတုမင်္ဂလာ ဂုဏ်ပြုစာစောင်။ ရန်ကုန်၊ ဟံသာဝတီစာအုပ်တိုက်၊ ၁၉၉၃။

၄၇။ မြောင်းမြ ပဋ္ဌာနတာရုံဆရာတော် အရှင်ဉာဏိက (အင်္ဂလန်) ပူဇော်ပွဲ အထိမ်းအမှတ်စာစောင်။ ရန်ကုန်၊ ဟံသာဝတီ။ ၁၉၉၁။
၄၈။ ရဲလွင်၊ ဦး၊ သင့်ဘဝ-။ ပရိယတ်ပဋိပတ် အကျော်အမော် ထေရဝါဒ မဟာထေရ်ဆရာတော်ကြီးများ။ ရန်ကုန်၊ ငမိုးရိပ် စာပေ၊ ၁၉၉၆။
၄၉။ ရန်ကုန်မြို့ ဘုရားဖြူကျောင်းတိုက် ဝိနယာနုဂ္ဂဟ စာမေးပွဲ ရွှေရတုစာစောင်။ ရန်ကုန်၊ ယင်းအသင်း၊ ၁၉၈၂။
၅၀။ ရွှေကျင်နိကာယမှတ်တမ်း၊ အမှတ် ၄။ ရန်ကုန်၊ သာသနာရေး ဦးစီးဌာန၊ ၁၉၈၄။
၅၁။ ရွှေကျင်သံဃရာဇာ နှစ် ၁၀၀။ စစ်ကိုင်း၊ သီတဂူချောင်၊ ၁၉၉၄။
၅၂။ လယ်တီဦးကောဝိဒ (ပုပ္ပါးဦးကျော်ရင်)။ မန္တလေး၊ ကြီးပွါးရေး ပုံနှိပ်တိုက်၊ ၁၉၇၀။
၅၃။ ဝိလာသာဘိဝံသ၊ အရှင်။ သာလေးတောင်ကျောင်းဆရာတော် ဦးနေမိန္ဒာဘိဝံသ၏ ထေရုပ္ပတ္တိနှင့် ---။ မန္တလေး၊ မြဇော်ပုံနှိပ် တိုက်၊ ၁၉၆၅။
၅၄။ ဝိသုဒ္ဓါရုံ မြောင်းမြဆရာတော်ဘုရားကြီး ရာပြည့်ပူဇော်ပွဲ၊ ၁၂၅၀-၁၃၅၀။ ရန်ကုန်၊ နံ့သာပုံနှိပ်လုပ်ငန်း၊ ၁၉၈၈။
၅၅။ ဝီရိယ၊ ဦး။ ထားဝယ်မြို့ ဇေယျဝတီသမိုင်း။ ရန်ကုန်၊ သုဓမ္မဝတီ စာပုံနှိပ်တိုက်၊ ၁၉၆၈။
၅၆။ ဝဏ္ဏိတ၊ ဦး၊ လယ်တီ-။ လယ်တီဆရာတော် မဟာထေရ်မြတ်ကြီး၏ မဟာထေရုပ္ပတ္တိကထာ။ ရန်ကုန်၊ ဟံသာဝတီ ပိဋကတ်ပုံနှိပ်တိုက်၊ ၁၉၅၆။
၅၇။ သထုံမြို့ မူလမင်းကွန်းဇေတဝန်တိုက်တည် ရာပြည့်အထိမ်း အမှတ်စာစောင်။ ရန်ကုန်၊ --- ယင်းကော်မတီ၊ ၂၀၁၅။
၅၈။ သပြေကန်ဆရာတော်ဘုရားကြီး ထေရဂုဏ်ရည်စာစောင်။ ရန်ကုန်၊ ရွှေကျင်ကျောင်းတိုက်၊ ၁၉၉၃။
၅၉။ သီလာနန္ဒာဘိဝံသ၊ အရှင်။ ဆရာတော်ဦးနာရဒ၏ ထေရုပ္ပတ္တိ အကျဉ်း။ မန္တလေး၊ မြဇော်စာပေ၊ ၁၉၆၅။

၆၀။ သီလာနန္ဒာဘိဝံသ၊ အရှင်။ မဟာစည်ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်း၊ ပဌမပိုင်း။ ရန်ကုန်၊ ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ချုပ်၊ ၁၉၇၉။

၆၁။ သုဇာတာလင်္ကာရ၊ ဘဒ္ဒန္တ၊ စံဝတီဆရာတော်-။ ဗဟန်း ဝေဠုဝန်ဆရာတော် ဘဒ္ဒန္တခေမာစာရ --- ထေရုပ္ပတ္တိကထာ။ ရန်ကုန်၊ ဗုဒ္ဓသာသနအဖွဲ့ပုံနှိပ်တိုက်၊ ၁၉၆၆။

၆၂။ သုမင်္ဂလာလင်္ကာရ။ ဘဒ္ဒန္တ။ တိပိဋကကံ။ ရန်ကုန်၊ ရွှေပုရပိုက်စာပေ၊ ၁၉၉၉။

၆၃။ အညတရဘိက္ခု။ စကျွအလင်းသံခိပ်ကျဉ်းနှင့် စလင်းကန်လယ်ဆရာတော်ဘုရားကြီး ထေရုပ္ပတ္တိ။ စကြိမ်။ ရန်ကုန်၊ ဂုဏ်ပုံနှိပ်တိုက်၊ ၁၉၈၄။

၆၄။ အဘယ၊ အရှင်၊ ကြောင်ပန်း။ ကြောင်ပန်းဆရာတော်ကြီးနှင့် ရာပြည့် ကြောင်ပန်းသာသနာ။ ရန်ကုန်၊ ရွှေပြည်သာစာပေ၊ ၂၀၁၃။

၆၅။ အဘိဓဇမဟာရဋ္ဌဂုရုနှင့် အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ရဆရာတော် ---။ ရန်ကုန်၊ သုဓမ္မဝတီ စာပုံနှိပ်တိုက်၊ ၁၉၅၃။

၆၆။ အရှင်ဇနကာဘိဝံသ နှစ်တရာပြည့်အထိမ်းအမှတ် ဂုဏာပူဇာစာတမ်းများ။ အမရပူရ၊ မဟာဂန္ဓာရုံစာပေ၊ ၂၀၀၀။

၆၇။ 'အရှင်အာဒိစ္စဝံသ အတ္ထုပ္ပတ္တိအကျဉ်း'၊ အသောက --- ကျောက်စာတော်။ ဒုကြိမ်။ ရန်ကုန်၊ စံရှားစာပေ၊ ၁၉၆၉။ ၂၄၀-၂၆၅။

၆၈။ အာစိဏ္ဏ၊ ဘဒ္ဒန္တ။ ခြောက်ထပ်ကြီးဘုရားကြီးတိုက် သမိုင်းအကျဉ်း။ ရန်ကုန်၊ ? ၊ ၁၉၆၂။

၆၉။ ---၊ အရှင်။ ကောဏ္ဍညတ္ထေရာပဒါန်နှင့် ---။ ရန်ကုန်။ ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက်၊ ၁၉၅၇။

၇၀။ ဦးသီလာနန္ဒာဘိဝံသ အထိမ်းအမှတ် မော်ကွန်းစာစောင်။ ရန်ကုန်၊ စိတ်ကူးချိုချိုစာအုပ်တိုက်၊ ၂၀၁၀။

၇၁။ အံ့ကျော်။ ရတနာဘုံမြင့်ကျောင်းတိုက် နှစ်တစ်ရာခရီးနှင့် ---၊ မော်လမြိုင်၊ --- ယင်းကော်မတီ၊ ၁၉၈၆။

၇၂။ အောင်မွန်၊ မောင်၊ မြတ်ဆုမွန်။ 'သပြေကန်ဆရာတော်ဘုရားကြီး၏ ချီးကျူးရန်မလွယ် ဂုဏ်ပင်လယ်'၊ မဏိဇောတ၊ တွဲ ၃ မှတ် ၁ (နိုဝင်ဘာ ၂၀၀၅) ၁၈-၂၆။
၇၃။ အောင်မွန်၊ ဦး။ "မူလပဋ္ဌာန်းဆရာတော်ဘုရား"၊ ရတနာမွန်၊ တွဲ ၁၀ မှတ် ၄ (ဧပြီ ၁၉၈၃) ၂၅-၂၆။
၇၄။ အောင်မွန်၊ ဦး၊ မြတ်ဆုမွန်။ ကျေးဇူးရှင်လယ်တီဆရာတော်ဘုရားကြီး ဘဝဖြစ်တော်စဉ်။ ရန်ကုန်၊ မြတ်ဆုမွန်စာပေ၊ ၂၀၀၇။
၇၅။ အုန်းရွှေ၊ ဦး။ ပရိယတ္တိသာသနာ ကိုယ်တွေ့မှတ်တမ်း။ ရန်ကုန်၊ ကုသလဝတီပုံနှိပ်တိုက်၊ ၁၉၆၂။
၇၆။ ဥက္ကဋ္ဌတ္ထစရိယာ၊ သျှင်ဥက္ကဋ္ဌဘဝဖြစ်စဉ် ပထမပိုင်း။ ကွန်ပျူတာမူ။
၇၇။ ဥတ္တမသာရ၊ ဦး။ တောင်တန်းသာသနာပြုဆရာတော်-။ ကိုယ်တွေ့မှတ်တမ်းများ၊ ၃ တွဲ။ ရန်ကုန်၊ ဓမ္မဗျူဟာ၊ ၁၉၉၀။
၇၈။ ---။ ဘုန်းကြီးမှတ်စုခေါ် မှတ်စုပဒေသာ၊ ၂ တွဲ။ ရန်ကုန်၊ အသိုင်းအဝိုင်းစာပေ၊ ၁၉၉၅-၉၇။

## ဘွဲ့မည်အညွှန်း


| | | |
|---|---|---|
| ၁။ | ကမ္ဘာ့ဗုဒ္ဓသာသနာပြုဆရာတော် ရှင်ကေလာသ | ၂၇၉-၂၈၃ |
| ၂။ | ကမ္ဘာ့ဗုဒ္ဓသာသနာပြုဆရာတော် ရှင်သေဋ္ဌိလ | ၁၇၃-၁၇၉ |
| ၃။ | ကျီးသဲလေးထပ်ဆရာတော် ရှင်မုနိန္ဒာဘိဓဇ | ၁၁-၁၅ |
| ၄။ | ကြောင်ပန်းဆရာတော် ရှင်ကွန္တက | ၄၉-၅၃ |
| ၅။ | ခြောက်ထပ်ကြီး ဘုရားကြီးတိုက်ဆရာတော် ရှင်ကောဏ္ဍည | ၁၃၃-၁၃၈ |
| ၆။ | စလင်းကန်လယ်ဆရာတော် ရှင်ဝဇီရာဝုဓ | ၂၂၁-၂၂၅ |
| ၇။ | စံကျောင်းဆရာတော် ရှင်ဝါယမ | ၇၁-၇၅ |
| ၈။ | စွန်းလွန်းဆရာတော် ရှင်ကဝိ | ၉၃-၉၉ |
| ၉။ | ဆရာတော် ရှင်အာဒိစ္စဝံသ | ၁၀၅-၁၁၂ |
| ၁၀။ | ဇေယျဝတီဆရာတော် ရှင်သီလ | ၇၇-၈၁ |
| ၁၁။ | ညောင်ချောင်းဆရာတော် ရှင်ဉာဏဝံသ | ၅၅-၅၈ |
| ၁၂။ | ညောင်တုန်း ရွှေဟင်္သာတောရဆရာတော် ရှင်ဝိမလ | ၂၃၅-၂၃၉ |
| ၁၃။ | ညောင်လေးပင်တောရဆရာတော် ရှင်အရိယ | ၁၂၇-၁၃၁ |
| ၁၄။ | တောရဂိုဏ်းတည် ရှင်သီလသာရ | ၁၇-၂၁ |
| ၁၅။ | တောင်တန်းသာသနာပြုဆရာတော် ရှင်ဥတ္တမသာရ | ၂၆၇-၂၇၁ |
| ၁၆။ | တောင်ပုလုဆရာတော် ရှင်နန္ဒိယ | ၁၉၅-၂၀၀ |
| ၁၇။ | တောင်ပေါက်ဆရာတော် ရှင်စက္ကပါလ | ၈၃-၈၈ |
| ၁၈။ | နော်မံကျောင်းကြီးဆရာတော် ရှင်ပညာ | ၃၇-၄၁ |

၁၉။ နတ်မှီတောရဆရာတော် ရှင်ဥက္ကဋ္ဌ ၁၈၁-၁၈၇
၂၀။ ပခုက္ကူ တိပိဋကဆရာတော် ရှင်နေမိန္ဒ ၃၀၃-၃၀၇
၂၁။ ပထမကျော် လယ်တီရှင်ကောဝိဒ ၂၄၇-၂၅၁
၂၂။ ပဲခူးမြို့မဆရာတော် ရှင်ဣန္ဒာစာရ ၂၀၁-၂၀၆
၂၃။ ပြည် တိပိဋကဆရာတော် ရှင်ကောသလ္လ ၂၉၁-၂၉၆
၂၄။ ဘုရားကြီးတိုက် ဇောတိကာရုံဆရာတော်
ရှင်နာရဒ ၁၃၉-၁၄၃
၂၅။ ဘုရားကြီးတိုက် ရွှေဘုန်းရှိန်ဆရာတော်
ရှင်ဥက္ကံသ ၁၅၁-၁၅၅
၂၆။ ဘုရားဖြူဆရာတော် ရှင်ရာဇိန္ဒ ၁၁၇-၁၂၀
၂၇။ မဟာဂန္ဓာရုံဆရာတော် ရှင်ဇနကာဘိဝံသ ၂၁၃-၂၂၀
၂၈။ မဟာဂန္ဓာရုံ တိပိဋကဆရာတော် ရှင်သုမင်္ဂလ ၃၀၉-၃၁၄
၂၉။ မဟာစည်ဆရာတော် ရှင်သောဘဏ ၂၂၇-၂၃၃
၃၀။ မဟာဝိဇယာရာမဆရာတော် ရှင်ဇဝန ၈၉-၉၂
၃၁။ မဟာဝိသုတာရာမဆရာတော် ရှင်သုန္ဒရ ၁၀၁-၁၀၄
၃၂။ မုဒ္ဒန်းဆရာတော် ရှင်ကောသလ္လ ၁၂၀-၁၂၅
၃၃။ မူလပဋ္ဌာန်းဆရာတော် ရှင်နာရဒ ၁၈၉-၁၉၃
၃၄။ မိုးကုတ်ဆရာတော် ရှင်ဝိမလ ၂၀၇-၂၁၂
၃၅။ မိုးညှင်းဆရာတော် ရှင်သုမန ၆၅-၇၀
၃၆။ မိုးနံကုန်းဆရာတော် ရှင်ဇယန္တ ၄၃-၄၇
၃၇။ မင်းကွန်းဇေတဝန်ဆရာတော် ရှင်နာရဒ ၅၉-၆၃
၃၈။ မင်းကွန်းတိပိဋကဆရာတော်
ရှင်ဝိစိတ္တသာရာဘိဝံသ ၂၅၉-၂၆၅
၃၉။ မြောင်းမြဆရာတော် ရှင်ဉာနာဘိဝံသ ၁၄၅-၁၅၀
၄၀။ မြောင်းမြပဋ္ဌောတာရုံဆရာတော် ရှင်ဉာနိက ၂၈၅-၂၈၉
၄၁။ မန်လည်ဆရာတော် ရှင်ဇဝန ၂၃-၂၈
၄၂။ ရွှေဟင်္သာတိုက်သစ်ဆရာတော် ရှင်ပဏ္ဍိတသိရိ ၁၆၁-၁၆၆
၄၃။ ရွှေဥဒေါင်းတောင်ဆရာတော် ရှင်ကုမာရ ၁၅၇-၁၆၀
၄၄။ လယ်တီဆရာတော် ရှင်ဉာဏ ၂၉-၃၅

၄၅။ ဝေဘူဆရာတော် ရှင်ကုမာရ ၁၆၇-၁၇၂
၄၆။ ဝေဠုဝန်ဆရာတော် ရှင်ခေမာစာရ ၁၁၃-၁၁၆
၄၇။ သပြေကန်ဆရာတော် ရှင်ဝါသေဋ္ဌ ၂၅၃-၂၅၈
၄၈။ သဲအင်းဂူဆရာတော် ရှင်ဥက္ကဋ္ဌ ၂၇၃-၂၇၇
၄၉။ အဘယာရာမဆရာတော် ရှင်သီလာနန္ဒ ၂၉၇-၃၀၂
၅၀။ အင်းလေး သာလေးတောင်ကျောင်းဆရာတော်
ရှင်နေမိန္ဒ ၂၄၁-၂၄၆

